မြတ်စွာဘုရားသည် ဆုံးမထိုက်သူမှန်သမျှကို ခြွင်းချန်မထားဘဲ လိမ္မာယဉ်ကျေးအောင် ဆုံးမတော်မူခဲ့လေသည်။ မဆုံးမထိုက်သူ ဖြစ်ဘိမူ မိမိအား ရန်ပြုသောရန်သူပင် ဖြစ်လင့်ကစား မဟာကရုဏာတော် သက်၍ သည်းခံတော်မူလေသည်။ လူ နတ် ဗြဟ္မာ သတ္တဝါအပေါင်းအား လက်ရှိဘဝ ချမ်းသာစေရန်အတွက်လည်း ဆုံးမသည်။ နောင်ဘဝ အဆက်ဆက် သုခတိုးပွားစေရန်အတွက်လည်း ဆုံးမသည်။ ထို့ထက် ဘဝသံသရာမှ လွတ်မြောက်၍ နိဗ္ဗာန်သို့ ရောက်စေရန်အတွက်လည်း၊ မဇ္ဈိမပဋိပဒါအကျင့်မြတ်ကို ပေးတော်မူလေသည်။ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်း ဆင်းရဲဒုက္ခကြားမှ သတ္တဝါအများ လုံးဝကင်းလွတ်စေရန်အတွက် ဟောကြားတော်မူလေသည်။ ကိုယ်တော်မြတ်၏ ကျက်သရေရှိလှသော ပုံတော်ကို အဖူးမြော်ခံခြင်းအားဖြင့် ကမ္ဘာလောကသားတို့အား ကုသိုလ်ရရှိကြစေရန် အကျိုးပြုတော်မူလေသည်။ ဤသို့ဖြင့် ဂုဏ်တော်ကိုးပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားသည် လူသုံးပါးတို့၏ ကိုးကွယ်ရာစင်စစ် ဖြစ်တော်မူပါပေသည်။ မြတ်စွာဘုရား၏ ဂုဏ်တော်ကျေးဇူးတော်များမှာ အစိန္တေယျ၊ အပ္ပမေယျ မကြံစည်အပ်၊ မနှိုင်းယှဉ်အပ်လောက်အောင် မြင့်မြတ်လှပါသည်။

ဘုရားဂုဏ်တော်ကို စွဲမြဲစွာ ဆင်ခြင်ပွားများသည်ရှိသော် အောက်ပါ အကျိုးကျေးဇူးများကို မုချမသွေ ရရှိနိုင်ပါသည်–

(၁) မြတ်စွာဘုရားအပေါ် ကိုင်းညွတ်သောစိတ် အမြဲရှိလာခြင်း၊

(၂) ယုံကြည်မှု လေးနက်လာခြင်း၊

(၃) သတိ ပို၍ ကောင်းလာခြင်း၊

(၄) ပညာဉာဏ် ထက်မြက်လာခြင်း၊

(၅) ကောင်းမှု တိုးပွားလာခြင်း၊

(၆) စိတ်ညစ်မှုကင်းပြီး နှစ်သက်ကြည်နူးစွာ နေရခြင်း၊

(၇) ကြောက်ရွံ့ ထိတ်လန့်ဖွယ် ကြုံရလျှင် မကြောက်မလန့် စိတ်တည်တံ့ခြင်း၊

(၈) မတော်တဆ ဆင်းရဲဒုက္ခ တွေ့ရလျှင် သည်းခံနိုင်ရည်ရှိခြင်း၊

(၉) မြတ်စွာဘုရားနှင့် အတူနေရဘိသကဲ့သို့ စိတ်တွင် ထင်မှတ်လျက်ရှိခြင်း၊

(၁၀) ဗုဒ္ဓါနုဿတိ ဘာဝနာအစွမ်းကြောင့် မိမိကိုယ်သည် စေတီ ထိုက်၍ သူတပါးတို့၏ ပူဇော်မှု ချီးမြှောက်မှုကို ကောင်းစွာ ခံယူ နိုင်ခြင်း၊

(၁၁) မိမိစိတ်သည် သမ္မာသမ္ဗောဓိဉာဏ်[၁]၌ ကိုင်းညွတ်လာခြင်း၊

(၁၂) မကောင်းမှုကို ကျူးလွန်ရန် ပက်ပင်းကြုံရသောအခါမျိုးတွင် မိမိ ကိုယ်ကို ကောင်းစွာ စောင့်စည်း ထိန်းသိမ်းနိုင်ခြင်း၊

(၁၃) သေလျှင် အပါယ်လေးပါးမှ ကင်း၍ လူ့ပြည် နတ်ရပ် ကောင်းမြတ် သော သုဂတိဘုံ သုဂတိဘဝကို ရရှိခြင်း စသည်တို့ ဖြစ်လေ သည်။

အမှန်စင်စစ် မြတ်စွာဘုရားသည် အစိန္တေယျ ဖြစ်သည့်နည်းတူ အစိန္တေယျ မြတ်စွာဘုရား၌ ကိုးစားကြည်ညိုသူများ ရရှိနိုင်သည့် ကောင်းကျိုးသည်လည်း အစိန္တေယျ[၃] ပင် ဖြစ်ပေသတည်း။

## (ခ) တရားကျေးဇူး

မြတ်စွာဘုရားသည် (၄၅)ဝါ ကာလပတ်လုံး ဟောကြားတော်မူခဲ့သည့် ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင်တို့ကို လည်းကောင်း၊ မြတ်စွာဘုရား အကျိုးပြုသဖြင့် လူနတ်ဗြဟ္မာတို့ ရရှိခံစားရသည့် မဂ် ဖိုလ် နိဗ္ဗာန် တရားကို လည်းကောင်း စိစစ်ကြည့်လျှင် ဂုဏ်ထူးဝိသေသခြောက်မျိုးနှင့် ပြည့်စုံကြောင်း တွေ့ရလေသည်။ ဤခြောက်မျိုးကို တရားဂုဏ်တော် ခြောက်ပါးဟု ခေါ်၏။ ယင်း ဂုဏ်တော်ခြောက်ပါး၏ အဓိပ္ပာယ်မှာ အောက်ပါအတိုင်း ဖြစ်၏--

သွာက္ခာတော=ကောင်းစွာ ဟောကြားထားသည့်အတွက် သွာက္ခာတဂုဏ် ရှိ၏။ မြတ်စွာဘုရား ဟောကြားထားသည့်တရားကို လေ့လာကြည့်လျှင်-

(၁) အစနိဒါန်းပိုင်း၌ ကောင်းမြတ်သော ကလျာဏဂုဏ် ရှိ၏၊

(၂) အလယ်ပိုင်း၌ ကောင်းမြတ်သော ကလျာဏဂုဏ် ရှိ၏၊

---

၁။ သမ္မာသမ္ဗောဓိဉာဏ်= မဖောက်မပြန် ကိုယ်တိုင် ထိုးထွင်း သိရှိသော ဉာဏ်တော် (ဝါ) ဘုရားဉာဏ်တော်။

၂။ ဝိသုဒ္ဓိ၊ ၁။ နှာ-၂၀၆။

၃။ အစိန္တေယျ=လူသာမန်တို့၏ စိတ်ဖြင့် ကြံစည်တွေးဆ၍ မရနိုင်မှု။

(၃) အဆုံးနိဂုံးပိုင်း၌လည်း ကောင်းမြတ်သော ကလျာဏဂုဏ်ရှိ၏၊

(၄) သဒ္ဒါနည်း၊ ဆန်းနည်း၊ အလင်္ကာနည်းတို့ဖြင့်လည်း ပြည့်စုံ၍ စာပေ အဆင့်အတန်း မြင့်၏၊

(၅) အဓိပ္ပာယ် အနှစ်သာရလည်း ပြည့်ဝ၏၊

(၆) ရှုထောင့်စုံမှ ကြည့်လျှင် အဘက်ဘက်မှ ပြည့်စုံလျက် ရှိ၏၊

(၇) အရေးကြီးဆုံးမှာ ဗြဟ္မစရိယဟု ခေါ်သည့် မြတ်သောအကျင့်ကို ဖော်ပြခြင်း ဖြစ်၏။

ဤကဲ့သို့ ဂုဏ်ရည်ခုနစ်ရပ်နှင့် ဟောကြားခဲ့သည့် တရားတော်များသည် စိတ်က ယုံကြည်နိုင်ရုံအဆင့်မျှမက ၎င်းတရားကို လူကိုယ်တိုင် ရှုမြင်နိုင်၏။ လက်တွေ့ ခံယူနိုင်၏။ ကိုယ်တိုင် ရှုမြင်လိုသူတိုင်း ကြိုးစား အားထုတ်ပါလျှင် မဂ်တရား၊ ဖိုလ်တရားကို ကိုယ်တိုင်ရပေ၏။ သူတပါးက ဟောပြ ပြောပြသည်ကို နားထောင်ပြီး ဘေးက သွားရေကျ ပြန်ရရုံ အဖြစ်မျိုး မဟုတ်။ အမှန်တရားသည် တနေရာရာမှာ ရှိလေ၏ဟု ရော်ရမ်း မှန်းဆ စိတ်ချယုံကြည်နေရမှုမျိုးလည်း မဟုတ်၊ မိမိကိုယ်တိုင် လက်တွေ့သိရ မြင်ရ သိနိုင်မြင်နိုင်သည့် တရားဖြစ်၍ တရားတော်သည် သန္ဒိဋ္ဌိက ဟူသော ဂုဏ်ထူးဝိသေ ရှိလေသည်။

အခါမလင့် ချက်ချင်း အကျိုးပေးသော တရားလည်း ဖြစ်၏၊ ဤတရားကား အခြားမဟုတ်၊ မဂ်တရားသာ ဖြစ်၏၊ မဂ်တရားသည်သာ ဖိုလ်ဟူသော အကျိုးကို ချက်ချင်း ဖြစ်ပေါ်စေ၏၊

မြတ်ဗုဒ္ဓ ဟောကြားခဲ့သည့် တရားတော်များကို တိတ်တဆိတ် သိုဝှက်ပြီး ဖတ်ရန်မလို၊ အခြား ဘာသာဝင်များအား မဖတ်ရဟု တားမြစ်ရန် မလို၊ မည်သူ့ကိုမဆို တရားတော်ကို လေ့လာကျင့်ကြံကြည့်ရန် ခေါ်ပြရမည် ဖြစ်ပါသည်၊ ကျင့်ကြံလေ့လာနိုင်သော တရားတော်လည်း ဖြစ်ပါပေသည်။ ထို့ကြောင့် မဂ်လေးပါး၊ ဖိုလ်လေးပါး၊ နိဗ္ဗာန်ဟူသော ဗုဒ္ဓ၏ တရားတော်သည် နိုင်ငံတကာကို ဖိတ်ခေါ် ပြနိုင်သည့် ဧဟိပဿိကဂုဏ်နှင့်လည်း ပြည့်စုံပါသည်။

မြတ်ဗုဒ္ဓ၏ တရားကို မိမိစိတ်မှာ လက်ခံထားလိုက်လျှင် စိတ်ချမ်းသာမှုရ၏၊ စိတ်ရိုင်း စိတ်ယုတ်များ ကင်း၏၊ စိတ်ထားမှန်လာသည့်အတွက် ပြုမူပြောဆို ရာ၌လည်း အမှားမှား အယွင်းယွင်း မဖြစ်တော့ပေ၊ တရားတော်ကို မည်သူမဆို

ကျင့်ပိုင်ခွင့်၊ သိပိုင်ခွင့်၊ ခံစားပိုင်ခွင့် ရှိ၏၊ ထို့ကြောင့် တရားတော်သည် ပုဂ္ဂလိက အသွင်ဆောင်သော ဘုံပိုင်ပစ္စည်း ဖြစ်၏၊ တဖန် တရား၏ အကျိုးကျေးဇူးကို တစ်ဦးစီ ခံစားရယူနိုင်ပါသည်။

အထူးသတိပြုရန်မှာ မြတ်စွာဘုရားသည် လူနားမလည်နိုင်သော တရား၊ လူမကျင့်နိုင်သော တရားမျိုးကို လုံးဝ ဟောကြားခဲ့ခြင်း မရှိကြောင်း ဖြစ်လေသည်။ မြတ်ဗုဒ္ဓ၏ တရားတော်များသည် လောကီအမြိုက်ဆေး တစ်ပါးလည်း ဖြစ်ပါသည်။ ထိုအမြိုက်ဆေးကို စနစ်တကျ မှီဝဲသုံးဆောင်တတ်လျှင် ကိလေသာအပူမီး ငြိမ်း၍ သေသည့်အခါ အပါယ်လေးပါးမှ ကင်းမည်၊ လူ့ပြည်နတ်ရပ် ကောင်းမြတ်သော သုဂတိဘုံ သုဂတိဘဝကို ရရှိနိုင်မည် ဖြစ်ပါကြောင်း ဖော်ပြ အပ်ပါသည်။

## (ဂ) သံဃာ့ကျေးဇူး

အရိယာသံဃာတော်အပေါင်းသည် တစ်လောကလုံးရှိ လူ နတ် ဗြဟ္မာ သတ္တဝါ တို့၏ ကြည်လင်ရွှင်ပြ မြတ်နိုးလှစွာ ကိုင်းညွှတ်ရှိသေ ရှိခိုးမှုများကို ခံထိုက်ပေ၏။ သံဃာတော်များသည် သာသနာတော်မဟုတ်၊ သာသနာ့ဝန်ဆောင်များသာ ဖြစ်ပေ သည်။ သံဃာတော်များ၏ တာဝန်ကား ပရိယတ္တိသာသနာ[၁]၊ ပဋိပတ္တိ သာသနာ[၂]၊ ပဋိဝေဓသာသနာ[၃] သုံးမျိုးကို ကိုယ်တိုင်အားထုတ်၍ သူတပါးနားလည်အောင် ပို့ချဟောပြောခြင်းများပင် ဖြစ်ပါသည်။

ဤသာသနာသုံးရပ်ကို မကွယ်ပအောင် ဘုရားလက်ထက်တော်မှ စ၍ ကျမ်းဂန် တတ်သိသည့် ပညာရှိအပေါင်းတို့သည် အဆက်ဆက် ဆောင်ရွက်လာခဲ့ကြသည်။ ရှေးက သံဃာတော်များသည် ကိုယ်ကျိုးအတွက် တရားကိုသာ အားထုတ်နေခဲ့ ကြလျှင် လည်းကောင်း၊ ရဟန်းသံဃာများကို စာပေမပို့ချဘဲ နေခဲ့ကြလျှင် လည်းကောင်း ဤသာသနာတော် (၃)ရပ်သည် မကြာသော ကာလအတွင်း ကွယ်ပျောက်သွားနိုင်ဖွယ်ရာ ရှိပါသည်။ စာချဆရာတော်များ လို့လဖြင့် အပင်ပန်း ခံလျက် ကျမ်းဂန်ပြုစုခြင်း၊ အဆက်ဆက် ပို့ချခဲ့ခြင်းကြောင့်သာ ယခုတိုင် ဤ သာသနာတော်ကြီးကို တွေ့ကြုံနေရခြင်း ဖြစ်သည်။ သာသနာတော် တည်တံ့ နေခြင်းကို မြင်တွေ့ရသည့်အခါ ရှေးအဆက်ဆက် ကျမ်းပြုဆရာ၊ စာချဆရာတော်

---

၁။ ပရိယတ္တိသာသနာ=ဘုရားဟောပိဋကတ်တော်နှင့် အဋ္ဌကထာကျမ်းစာများ။

၂။ ပဋိပတ္တိသာသနာ=တရားတော်လာအတိုင်း ကျင့်ကြံအားထုတ်မှု။

၃။ ပဋိဝေဓသာသနာ=မဂ်ဖိုလ်နိဗ္ဗာန်တရားကို သိကြ ရကြမှု။

ကြီးများကို အထူးကြည်ညို လေးစားဖွယ်ရာ ကောင်းသည်ဟု ဆိုရပါမည်။ ထို့ကြောင့် ကျမ်းဂန်တတ်သိ ပညာရှိများကို "ဘုရားရှင်အရာ၌ ထား၍ ဘုရားရှင် ကိုယ်တော်စား သာသနာပြု ပုဂ္ဂိုလ်များ"ဟု မြှောက်စားထားခဲ့ကြပါသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးနောက် (၇)ရက်ခန့်အကြာမှာ အရှင် မဟာကဿပရှေ့တွင် ရဟန်းတစ်ပါးက မဖွယ်မရာ စကားဖြင့် ဘုရားရှင်ကို ထိပါး ပုတ်ခတ် ပြောဆိုသည်။ ထို့ကြောင့် လေးလမြောက်မှာ အရှင်မဟာကဿပ ကိုယ်တိုင် ကြီးကြပ်၍ ပိဋကတ်တော်များကို စိစဉ်ကာ သင်္ဂါယနာ[၁] တင်ခဲ့ရလေသည်။

ထို့နောက် အနှစ် ၁၀၀-လောက်ကြာပြန်လျှင် ရဟန်းအချို့ မအပ်မရာ ငွေအလှူခံမှုကြောင့် အရှင်မဟာယသ တိုက်တွန်းချက်အရ ဒုတိယသင်္ဂါယနာ တင်ခဲ့လေသည်။ ဘုရားရှင် ပရိနိဗ္ဗာန်စံ၍ အနှစ် ၂၃၅ နှစ်မြောက် ဓမ္မာသောက မင်းလက်ထက် သာသနာတော်ကို တိတ္ထိတို့ နှောင့်ယှက်မှုကြောင့် အရှင်မောဂ္ဂလိ ပုတ္တတိဿမထေရ် အမှူးပြုပြီး တတိယသင်္ဂါယနာ တင်ခဲ့ရပြန်ပါသည်။ ထို သင်္ဂါယနာတင်ပြီးနောက် သာသနာတော် စည်ပင် ထွန်းကားနေစဉ် သီဟိုဠ်ကျွန်းတွင် သူပုန်ဘေးကြီး ဖြစ်ပေါ်သဖြင့် ကျမ်းတတ်အကျော် ဆရာတော်များ၊ လူများ ကစဉ့်ကလျား ဖြစ်ကာ ဆွမ်းဘောဇဉ်ကို မျှတအောင် မရကြတော့ပေ။ သို့သော် ရဟန်းတော်များသည် နှုတ်တက်ဆောင်ထားသော ကျမ်းဂန်များ မေ့လျော့သွားမည် စိုးသောကြောင့် ရေစိုသော သဲပြင်ပေါ် လျောင်းနေပြီး ရင်မပူအောင် ရင်ဘတ်ပေါ် သဲစိုတင်၍ ရွတ်အံသရဇ္ဈာယ်လျက် ထိန်းသိမ်း ဆောင်ရွက်တော်မူခဲ့ကြပါသည်။

သူပုန်ဘေးကြီး ငြိမ်းအေးသွားသည့်အခါ နောင် ယခုကဲ့သို့ ဘေးဖြစ်လာ ခဲ့လျှင် နောင်လာနောက်သားတို့ ပိဋကတ်တော်ကို နှုတ်တက် ဆောင်ရွက်ရန် ခဲယဉ်းမည်ကို သိလာကြသည်။ ထို့ကြောင့် မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော် မူပြီးနောက် အနှစ် (၄၅၀)ခန့် ဝဋ္ဋဂါမဏိမင်းလက်ထက်တွင် ပိဋကတ်တော်များကို ပေရွက်ပေါ် ရေး၍ စတုတ္ထသင်္ဂါယနာ တင်ခဲ့ပါသည်။

စတုတ္ထသင်္ဂါယနာ တင်ပြီးနောက် မြန်မာနိုင်ငံတွင် သထုံမှ ပုဂံသို့ သာသနာတော် ပြန့်ပွားလာခဲ့ရာ ထိုကဲ့သို့ ကြိုးကြိုးစားစား မြန်မာရဟန်းတော်များ ဆောင်ရွက် လာခဲ့၍ မြန်မာ့သမိုင်းတလျှောက် ဗုဒ္ဓသာသနာ ရှင်သန် တည်တံ့လာခဲ့၏။ မင်းတုန်းမင်းတရား လက်ထက်တွင် ပဉ္စမသင်္ဂါယနာတင်ပြီး စာတတ်ဆရာတော် ကြီးများက ပိဋကတ်ကျမ်းစာများကို ကျောက်ထက် အက္ခရာတင်ခဲ့ကြသည်။

---

၁။ သင်္ဂါယနာ=စုပေါင်း၍ ရွတ်ဆိုခြင်း

ပဉ္စမသင်္ဂါယနာနောက်ပိုင်း မြန်မာနိုင်ငံ သူ့ကျွန်ဘဝ ကျရောက်ချိန်၌လည်း သံဃာတော်များသည် ပရိယတ်၊ ပဋိပတ် မပြတ်ကျင့်ဆောင်လာခဲ့သည်။ ဗုဒ္ဓသာသနာတော်သည် တည်တံ့ခဲ့သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးသောအခါတွင်မူ ပုဒ်ပါဠ်အက္ခရာတို့ကို သုတ်သင်၍ ဆဋ္ဌသင်္ဂါယနာတင်တော်မူခဲ့ကြသည်။

ဤသို့လျှင် မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူသည်မှစ၍ နှစ်ပေါင်း ၂၅၀၀-ကျော် သမိုင်းကာလကြီးတလျှောက်လုံး သာသနာတော်ကြီး မကွယ်ပျောက်ရအောင် ဆောင်ရွက်တော်မူလာကြသော အရိယာ သံဃာတော်နှင့် ပုထုဇဉ် ပညာရှိအပေါင်း သူတော်ကောင်း သံဃာတို့သည် နောင်လာနောက်သား ဗုဒ္ဓဘာသာဝင်များအတွက် လွန်စွာပင် ကျေးဇူးတော် ကြီးမားလှပါကြောင်း ရေးသား ဖော်ပြအပ်ပေသည်။

## သက်ကြီးအိုမ စဏ္ဍာလိ

မြတ်စွာဘုရား ကျေးဇူးကား အလွန်ကြီးမားပါသည်။ ရေးသားဖော်ပြ၍ပင် မကုန်နိုင်ပါ။ အနည်းငယ်မျှ ပုံဝတ္ထုသာဓကဖြင့် ဖော်ပြပါဦးမည်။

စဏ္ဍာလီအမည်ရှိသော အဘွားအိုကြီးတစ်ယောက်သည် အလွန်ဆင်းရဲ၍ သားသမီးမြေးမြစ်တွေ မရှိပါ။ ဒုက္ခိတ ဆင်းရဲသူမ အဘွားကြီး ဖြစ်ပါသည်။

တစ်နေ့သောအခါတွင် အဘွားကြီးသည် တောင်ဝှေးတစ်ချောင်းဖြင့် တုန်တုန်ချိချိ လမ်းလျှောက်လာသည်။ မြတ်စွာဘုရား ဆွမ်းခံကြွတော်မူလာသောအခါ ထိုအဘွားကြီး ရှေ့၌ စုံရပ်တော်မူသည်။ အဘွားအိုကြီးသည် ရှိခိုးရမှန်းမသိဘဲ ကြောင်ကြည့်နေ၏။ ထိုအခါ မြတ်စွာဘုရား နောက်တော်ပါးက ပါလာသော အာနန္ဒာက "အဘွားအိုကြီး . . . မြတ်စွာဘုရားကို ရှိခိုးလိုက် ရှိခိုးလိုက်"ဟု တိုက်တွန်းတော်မူသည်။ အဘွားကြီးသည် ရှင်အာနန္ဒာက တိုက်တွန်းသောကြောင့် တောင်ဝှေးကို အသာချပြီး လက်အုပ်ချီလျက် မြတ်စွာဘုရားကို ရှိခိုးလိုက်သည်။

မြတ်စွာဘုရားသည် ရှိခိုးခံပြီးနောက် ဆက်လက် ကြွသွားတော်မူ၏။ အဘွားကြီးလည်း သူသွားမည့် လမ်းသို့ ဆက်၍ လျှောက်၏။ ထိုခဏတွင် သားကလေး မွေးကာစ ဖြစ်သော နွားမကြီးတစ်ကောင်သည် အဘွားကြီးဆီ ပြေးလာပြီး ဝှေ့လိုက်ရာ အဘွားကြီးခမျာ နေရာတွင်ပင် ပွဲချင်းပြီး သေဆုံးသွားလေသည်။

သို့သော် မြတ်စွာဘုရားကို ရှိခိုးလိုက်သော ကုသိုလ်ကြောင့် နတ်ပြည်၌ နတ်သမီးသွားဖြစ်လေသည်။ စဏ္ဍာလီ အဘွားအိုကြီး နတ်သမီးဖြစ်ရသည်မှာ မြတ်စွာဘုရား၏ ကျေးဇူးတော်ကြောင့် ဖြစ်သည်။

## လူဆိုးကြီး အင်္ဂုလိမာလ

အင်္ဂုလိမာလသည် သူ့မိခင်ကို သတ်ရန် ဓားပိုက်၍ တအားလိုက်နေတုန်း မြတ်စွာဘုရားက အချိန်မီ သွားရောက်ကယ်တင်တော်မူခဲ့သည်။ မိခင်ကြီးသည် သေဘေးမှ ကင်းလွတ်ရ၏။ အင်္ဂုလိမာလလည်း အကျွတ်တရားရပြီး ရဟန္တာ ဖြစ်ခဲ့ရသည်၊ ဤသားအမိ ယခုလို ချမ်းသာရခြင်းသည် မြတ်စွာဘုရား၏ ကျေးဇူးတော်ကြောင့် ဖြစ်သည်။

## ပဋာစာရီ အရူးမ

ပဋာစာရီ အမည်ရှိသော အမျိုးသမီးသည် လင် မြွေကိုက်၍ သေ၏။ သားငယ်ကို စွန်ချီသွားပြီး သားကြီး ရေနစ်၍ သေ၏။ ဤကဲ့သို့ သားသေ လင်ဆုံးသဖြင့် အရူးလုံးလုံး ဖြစ်ရရှာသည်။

ထိုအရူးမ ပဋာစာရီကို မည်သူမှ မကယ်နိုင်ကြ။ မည်သည့် ဆေးဆရာမျှ မကုနိုင်ကြ။ သောကဒဏ် ပြင်းထန်လှသောကြောင့် ဆောက်တည်ရာ မရ၊ ပူဆွေး ငိုကြွေး၍ ပြေးလွှားနေရှာသည်။

ထိုအရူးမ ပဋာစာရီကို မြတ်စွာဘုရားထံမှောက် ရောက်အောင် ပညာရှိ တစ်ဦးက လှည့်ပတ်ဖြားယောင်း၍ ခေါ်ဆောင်သွား၏။ မြတ်စွာဘုရားသည် ဒုက္ခိတ အရူးမအပေါ် မဟာကရုဏာ မေတ္တာတော်တန်ခိုးလွှတ်၍ ပဋာစာရီ၏ ပူလောင် ပြင်းပြလျက်ရှိသော စိတ်ကို ငြိမ်းအေးစေသည်။ "ချစ်သမီး ပဋာစာရီ"ဟု ကြင်နာ ယုယ ရင်းနှီးစွာ ခေါ်တော်မူလိုက်သည်။ ထိုအခါ ပဋာစာရီသည် မြတ်စွာဘုရားသခင် ကို သေချာစွာ ကြည့်၍ မြတ်စွာဘုရား၏ မေတ္တာဓာတ်ကို ရရှိသောကြောင့် စိတ်သောက အပူငြိမ်း၍ သတိတရား ပြန်ရလာသည်၊ အသိစိတ်ဓာတ် ပြန်ဝင် လာသည်။ မြတ်စွာဘုရား၏ မေတ္တာတော်ကြောင့် အရူးရောဂါ ပျောက်သွားသည်။

ပဋာစာရီအနေဖြင့် အရူးပျောက်၍ စိတ်ထားမှန် ပြန်လည်ဖြစ်သွားသည်ကို မြတ်စွာဘုရား သိရှိတော်မူသောကြောင့် သစ္စာတရားလေးပါးကို ဟောလိုက်ရာ ပါရမီရင့်သန်သော မိန်းမဖြစ်၍ တရားထူးတရားမြတ်ရရှိကာ ရဟန္တာထေရီမကြီး တစ်ပါး ဖြစ်သွားလေသည်။ ဤသည်မှာ အံ့သြ၍ မကုန်နိုင်သော မြတ်စွာဘုရား၏ ကျေးဇူးဖြစ်ပါသည်။

## ကိသာဂေါတမီ

ကိသာဂေါတမီ အမည်ရှိသော အမျိုးသမီးတစ်ဦးသည် သူအလွန်ချစ်သော တစ်ဦးတည်းသော သားကလေး သေဆုံးသွားသည့်အတွက် သားသေကို ပိုက်ပြီး တစ်မြို့လုံးလိုက်၍ ဆေးကုခိုင်းလေသည်။ သူ့သားကလေး ပြန်ရှင်အောင် လုပ်ပေးကြပါဟု ငိုယိုမြည်တမ်းလျက် အရူးမကြီးတစ်ပိုင်းဖြစ်ကာ တစ်မြို့လုံးလှည့်လည်သွားလာနေရှာသည်။

ထိုအခါ ပညာရှိတစ်ယောက်က "သင့်သားကို အသက် ပြန်ရှင်အောင် ကုနိုင်သော ဆရာ ဇေတဝန်ကျောင်းတော်မှာ ရှိ၏"ဟူ၍ ပရိယာယ်ဖြင့် ပြောကာ မြတ်စွာဘုရားထံသို့ လွှတ်လိုက်လေသည်။

ကိသာဂေါတမီသည် သားသေလေးကိုပိုက်လျက် ဇေတဝန်ကျောင်းတော်သို့ သွားပြီး မြတ်စွာဘုရားကို တွေ့သောအခါ "သူ့သားလေးကို အသက်ပြန်ရှင်အောင် ကုပေးပါ"ဟု တောင်းပန်ရှာ၏။ မြတ်စွာဘုရားက "ကုပေးမည် ချစ်သမီး . . .၊ မြို့ထဲသွားချေ၊ ဆေးဖော်ဖို့အတွက် လူမသေဖူးသော အိမ်မှ မုန်ညင်းစေ့ လက်တစ်ဆုပ်စ်း တောင်းချေ"ဟု လွှတ်လိုက်၏။ ကိသာဂေါတမီသည် သားသေကလေး ကို ပိုက်လျက် လူမသေဖူးသော အိမ်ကို မေးသည်။ "ထိုအိမ်ကလည်း လူသေဖူးသည်၊ ဤအိမ်ကလည်း သေဖူးသည်"ဟူသော အဖြေကိုသာ ရ၏။ ယခု သာဝတ္ထိတစ်မြို့လုံး အိမ်ပေါင်းစုံ ရောက်ခဲ့ပြီ၊ လူမသေဖူးသော အိမ်ဟူ၍ မတွေ့ချေ။ ကိသာဂေါတမီ ခမျာ ဖတ်ဖတ်မောနေသည်။

သို့သော် လူမသေဖူးသော အိမ်ကို လိုက်၍ မေးရင်း သူ၏စိတ်ထဲ၌ တဖြည်းဖြည်းချင်း အသိဉာဏ် ဝင်လာသည်။ ငါ့သားသာ သေသည်မဟုတ်၊ အခြားသူများလည်း သေကြသည်တကား။ သေခြင်းတရားကား လူတိုင်း မလွန်ဆန်နိုင်သော သဘာဝတရားပေတကား။ ဤကဲ့သို့ အသိစိတ်ဓာတ်ဝင်လာပြီး မိမိရင်ခွင်ဖြင့် ပိုက်ထွေးထားသော သားလေး၏အလောင်းကို သင့်ရာမှာ စွန့်ပစ်လိုက်ပြီး မြတ်စွာဘုရားထံသို့ ပြန်သွားလေသည်။

မြတ်စွာဘုရားသည် မဟာကရုဏာမေတ္တာတော်မြတ် စေလွှတ်၍ ကိသာဂေါတမီ၏ အပူမီးကို ငြိမ်းစေလျက် အေးမြကြည်လင်သော တရားဓမ္မကို ဟောကြားတော်မူလိုက်သောအခါ ပါရမီဓာတ်ခံ ရင့်သန်သူကလေးဖြစ်၍ တရားထူးတရားမြတ် ရရှိပြီး ရဟန္တာထေရီမတစ်ပါး ဖြစ်သွားလေသည်။

**လင်းနို့သားငါးရာ**

တရားတော်၏ ကျေးဇူးကို အနည်းငယ် ဖော်ပြရသော် ကဿပဘုရားရှင် လက်ထက်၌ လိုဏ်ဂူတစ်ခု အတွင်းတွင် ရဟန်းတစ်ပါးက ပဋ္ဌာန်းတရားကို ရွတ်ဖတ်တော်မူရာ ထိုလိုဏ်ဂူအတွင်း၌ နေသော လင်းနို့ငါးရာတို့သည် အဓိပ္ပာယ်ကို မသိသော်လည်း တရားသံကို ကြည်ညိုသောစိတ်ဖြင့် သေလွန်ကြရာ ကောင်းရာ သုဂတိသို့ ရောက်ကြလေသည်။ ဘဝများစွာ သံသရာ၌ ကောင်းစွာကျင်လည်ရပြီး နောက်ဆုံးဘဝ၌ ရှင်သာရိပုတ္တရာ၏ တပည့်သား ရဟန်းငါးရာ ဖြစ်လာကြသည်။ ပဋ္ဌာန်းတရားတော် အကျိုးသက်ကြောင့် ဤနောက်ဆုံးဘဝတွင် ကျွတ်တမ်းဝင်တော် မူကြလေသည်။

**ဖားနတ်သား**

ထို့ပြင် တရားသံကို ကြည်ညိုသော ဖားသူငယ်သည် နတ်သားဖြစ်ခဲ့ရ၏။ မြတ်စွာဘုရား တရားဟောတော်မူနေစဉ် ပရိသတ်အစွန်၌ ဖားငယ်ကလေး တစ်ကောင်က တရားသံ၌ နစ်မျောနေသည်။ ထိုအခါ နွားကျောင်းသားတစ်ယောက် ရောက်လာပြီး အမှတ်တမဲ့ တုတ်ကို ထောက်လိုက်ရာ ဖားငယ်ကလေးအပေါ် ထောက်မိသည့်အတွက် သေရှာသည်။ တရားနာရင်း သေသည့်အတွက်ကြောင့် နတ်ပြည်၌ နတ်သား ဖြစ်လေသည်။

ထို့ပြင် တရားတော်ကို ကျင့်သုံးသည့်အတွက် ကောင်းရာသုဂတိ ရောက်သူများ၊ အရိယာရဟန္တာဖြစ်သူများ မရေမတွက်နိုင်လောက်အောင် များပြားလေသည်။

**လောသကတိဿ**

သံဃာတော်များ၏ ကျေးဇူးသည်လည်း ရေးသားဖော်ပြ၍ မကုန်နိုင်။ ရှင်သာရိပုတ္တရာသည် ခွက်လက်ဆွဲ၍ တောင်းစားနေသော ခုနစ်နှစ်သားအရွယ် ကလေးတစ်ယောက်ကို ခေါ်ယူ၍ ရှင်ပြုပေးပြီး ဆွမ်းခံကျွေးတော်မူလေသည်။ ထိုကလေးမှာ အကုသိုလ်ဝဋ်ကြွေး ကြီးလှသော လောသကတိဿ ဖြစ်လေရာ ရှင်သာရိပုတ္တရာက လက်ဖြင့် ကိုင်၍ မကျွေးလျှင် အစားအစာဝအောင် မစားရရှာ။ သို့ဖြစ်၍ လောသကတိဿရဟန္တာဖြစ်ပြီး ပရိနိဗ္ဗာန် စံသည်အထိ ရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးက ပြုစုစောင့်ရှောက်တော်မူသည်။

**သူဌေးကြီး ဦးကပ်စေး**

ရှင်မောဂ္ဂလာန် ကိုယ်တော်မြတ်ကြီးသည် "ပြိတ္တာတို့ဘောင် ဥစ္စာဆောင်သည်" ဆိုသည့်အတိုင်း သေလျှင် ပြိတ္တာဖြစ်လောက်သည့် ကပ်စေးနှဲ သူဌေးလင်မယားကို တန်ခိုးတော်ဖြင့် ချေချွတ်ကယ်မတော်မူသည်။

ထို့ပြင် ရှင်မောဂ္ဂလာန်နှင့် ရှင်မဟာကဿပတို့သည် ဂိလာန ဒုက္ခိတတို့အား ဗောဇ္ဈင်တရားကို ရွတ်ပွား၍ ရောဂါပျောက်အောင် ကယ်တင်ကြသည်။ အရှင်အင်္ဂုလိမာလမထေရ်သည်လည်း မီးမဖွားနိုင်သော ကိုယ်ဝန်သည် မိန်းမများကို ပရိတ်ရွတ် သစ္စာဆို၍ ချမ်းသာစွာ မီးဖွားအောင် ကူညီတော်မူခဲ့သည်။

**လာဇာဒေဝီ (ပေါက်ပေါက်ပန်း နတ်သမီး)**

ရာဇဂြိုဟ်ပြည်အနီး လယ်သမားရွာကြီး၌ သူဆင်းရဲ လယ်သူမလေးတစ်ယောက် ရှိသည်။ သလေးစပါးတို့ကို ပေါက်ပေါက်ဖောက်ပြီး ဆင်းရဲစွာ စားသောက်နေရှာသည်။ နိရောဓသမာပတ်မှ ထလာတော်မူသည့် အရှင်မဟာကဿပ မထေရ်မြတ်ကြီးသည် သူဆင်းရဲ လယ်သူမလေးကို စောင့်ရှောက် ချီးမြှောက်ရန် ဆွမ်းခံဝင်လာရာ လယ်သူမလေးက သဒ္ဓါတရား ထက်သန်လှစွာဖြင့် မိမိ၌ ရှိသည့် ပေါက်ပေါက်များကိုပင် လောင်းလှူလိုက်လေသည်။ မပြောပလောက်သည့် ဤမျှလောက်သော ကုသိုလ်ကောင်းမှုကြောင့်ပင် သေလွန်သောအခါ နတ်ပြည်မှာ ဖြစ်ရ၍ လာဇာဒေဝီ(ပေါက်ပေါက်ပန်း နတ်သမီး)အမည် တွင်လေသည်(ဓမ္မပဒ)။

ယခု ဖော်ပြခဲ့သည်တို့မှာ အပေါ်ယံမျှဖြစ်သော ရတနာသုံးပါး၏ ကျေးဇူးတရားသာ ဖြစ်သည်။ ထို့ထက် လေးနက် နက်ရှိုင်းသော ကျေးဇူးဂုဏ်တို့ကား အနန္တ ရှိပေသေးသတည်း။

# အခန်း ( ၈ )

## ဥပါသကာဂုဏ် (၁၀)ပါး

### ဥပါသကာ

ဘုရား တရား သံဃာ ရတနာသုံးပါးကို မြတ်နိုးစွာ ဆည်းကပ်ကိုးကွယ်သော လူပုဂ္ဂိုလ်ကို "ဥပါသကာ"ဟု ခေါ်ဆို၏၊ အမျိုးသမီးဖြစ်လျှင် "ဥပါသိကာ"ဟု ခေါ်ဆိုရ၏။

လူပုဂ္ဂိုလ်တို့သည် မိမိ၏ ခန္ဓာကိုယ်နှင့် အသက်ကို မငဲ့ကွက်ဘဲ ရတနာမြတ်သုံးပါးအား ပေးလှူခြင်း၊ ရတနာမြတ်သုံးပါးအပေါ်၌ ယုံကြည်ကိုးစား အားထားခြင်း၊ ရတနာမြတ်သုံးပါး၏ တပည့်သားအဖြစ် စွဲမှတ် ခံယူခြင်း၊ ရတနာမြတ်သုံးပါးကိုသာလျှင် ရှိခိုးမှု ရိုသေကိုင်းရှိုင်းမှု ပြုခြင်း စသောနည်းလမ်းတို့ဖြင့် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်တတ်သော ပုဂ္ဂိုလ် (ဥပါသကာ, ဥပါသိကာမ) အဖြစ်သို့ ရောက်ရှိကြသည်။ ထိုသို့ ဥပါသကာဖြစ်ပြီးသူများကို "ဗုဒ္ဓဘာသာဝင် သူတော်စင်"ဟု သတ်မှတ်ရသည်။

### ဥပါသကာတို့ ခရှောင်ရန် အချက်များ

ဥပါသကာအဖြစ် ခံယူပြီးသော ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်သည် ငါးပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့ မြဲ၍ စွမ်းနိုင်ပါမူ ရှစ်ပါး၊ ဆယ်ပါးသီလများကို စောင့်ထိန်း၍ ဖော်ပြလတ္တံ့ပါ အချက်များကို ရှောင်ကြဉ်ရမည်-

(၁) လက်နက်ရောင်းဝယ် ဖောက်ကားခြင်း၊

(၂) လူအရောင်းအဝယ် ပြုလုပ်ခြင်း (ကျွန်ရောင်း ကျွန်ဝယ်ခြင်း၊ ပြည့်တန်ဆာ ရောင်းဝယ်ခြင်း စသည်)၊

(၃) ကြက် ဝက် အမဲ သား ငါး ရောင်းဝယ်ခြင်း၊

(၄) မူးယစ်ဆေးဝါး အမျိုးမျိုးနှင့် သေရည်သေရက် ရောင်းဝယ်ခြင်း၊

(၅) လူကို သေစေတတ်သည့် အဆိပ် ရောင်းဝယ်ခြင်း-

တို့ ဖြစ်ပါသည်။

ထို့ပြင် ကာယဒုစရိုက်မှု, ဝစီဒုစရိုက်မှုတို့ကို ကျူးလွန်၍ ရရှိလာသော ဥစ္စာပစ္စည်းတို့ဖြင့်လည်း အသက်မွေးဝမ်းကျောင်း မပြုရပေ။ ယင်းတို့အားလုံးသည် မိစ္ဆာဇီဝခေါ် ယုတ်မာ အောက်တန်းကျသော အသက်မွေး ဝမ်းကျောင်းများ ဖြစ်ကြသည်။

**ဥပါသကာအရည်အချင်းနှင့် ပြည့်စုံခြင်း**

ဥပါသကာအဖြစ်သို့ ရောက်ပြီးသော ဗုဒ္ဓဘာသာဝင်တစ်ယောက်သည်-

(၁) သဒ္ဓါတရားနှင့် ပြည့်စုံရ၏၊

(၂) အနည်းဆုံး ငါးပါးသီလ လုံခြုံရ၏၊

(၃) ကောတုဟလမင်္ဂလာခေါ် အထူးအဆန်းမင်္ဂလာကို ယုံကြည်လက်ခံခြင်း မပြုရ၊

(၄) ကံ, ကံ၏ အကျိုးကို ယုံကြည်ရ၏၊

(၅) အယူပျက်သည့် သာသနာပ အလှူခံပုဂ္ဂိုလ်တို့ကို အရိုအသေ မပြုရ, မလှူဒါန်းရပေ။

အဆိုပါ အင်္ဂါရပ်တို့နှင့် ပြည့်စုံသော ပုဂ္ဂိုလ်ကို-

(၁) ဥပါသကရတန = နှစ်သက်ကြည်ညိုဖွယ် ဥပါသကာဟူ၍လည်းကောင်း၊

(၂) ဥပါသကပဒုမ = ပဒုမ္မာကြာနှင့် တူသော ဥပါသကာဟူ၍လည်းကောင်း၊

(၃) ဥပါသကပုဏ္ဍရိက = ကြာဖြူနှင့် တူသော ဥပါသကာဟူ၍လည်းကောင်း-

ခေါ်ဆိုထိုက်ပါသည်။

**ဥပါသကာ ပျက်စီးခြင်း**

ဥပါသကာ ဖြစ်ပြီးသူသည်-

(၁) သဒ္ဓါ မရှိခြင်း၊

(၂) သီလ မရှိခြင်း၊

(၃) အထူးအဆန်း မင်္ဂလာကို သက်ဝင်ယုံကြည်ခြင်း၊

(၄) ကံ, ကံ၏အကျိုးကို မယုံကြည်ခြင်း၊

(၅) အယူပျက်သော သာသနာပ တိတ္ထိတို့ကို ရှိခိုးခြင်း၊ အရိုအသေ ပြုခြင်း၊ လှူဒါန်းခြင်း–

စသည့်အချက်တို့ကို ပြုလုပ်ပါက ရတနာသုံးပါးအပေါ် ကိုးကွယ်ဆည်းကပ်သော ဥပါသကာအဖြစ် ပျက်ပြယ်သွားပါသည်။ ထို့ကြောင့် ဖော်ပြခဲ့သော သွေဖည်ချက် ၅-ချက်နှင့် ပြည့်စုံသော ပုဂ္ဂိုလ်ကို–

(၁) ဥပါသကစဏ္ဍာလ = ဒွန်းစဏ္ဍား ဥပါသကာဟူ၍လည်းကောင်း၊

(၂) ဥပါသကမလ = မသန့်ရှင်းသော ဥပါသကာဟူ၍လည်းကောင်း၊

(၃) ဥပါသကပဋိကိဋ္ဌ = စက်ဆုပ် ရွံရှာဖွယ် ဥပါသကာဟူ၍ လည်းကောင်း–

ခေါ်ဆိုရတော့၏။

**ဥပါသကာ၏ ဂုဏ်ရည် ၁၀–ပါး**

ရတနာသုံးပါးကို ဆည်းကပ် ကိုးကွယ်သော ပုဂ္ဂိုလ်တစ်ယောက်သည် ဖော်ပြလတ္တံ့ပါ ဂုဏ်အင်္ဂါများနှင့် ပြည့်စုံပါက အဆင့်မြင့် ဥပါသကာ, ဂုဏ်သရေရှိ ဥပါသကာ စစ်စစ် ဖြစ်ပါသည်–

(၁) ဘုရားရှင်၏ တပည့်သား သံဃာများနှင့် အေးအတူ ပူအမျှ ဆင်းရဲချမ်းသာကို ဝေမျှ ခံစားခြင်း၊

(၂) ဗုဒ္ဓ၏ တရားတော်ကိုသာ အလေးဂရုပြုခြင်း (အခြားသာသနာပ အယူဝါဒများကို လုံးဝ ဂရုမပြုခြင်း)၊

(၃) မိမိရှိသမျှ ပစ္စည်းဥစ္စာကို မျှတစွာ ခွဲခြမ်းသုံးစွဲ လှူဒါန်းတတ်ခြင်း၊

(၄) ဘုရားသာသနာ ပျက်စီးမည့်အရေး တွေ့မြင်ပါက သာသနာတော် ကြီးပွားရာ ကြီးပွားကြောင်းကိုသာ မနေမနား ကြိုးစားအားထုတ်ခြင်း၊

(၅) အယူဖြောင့်မှန်ပြီး လူပြိန်းတို့လက်ခံသည့် အထူးအဆန်းမင်္ဂလာကို ယုံကြည်မှု မရှိသည့်အပြင် မိမိအသက်ကို ပဓာနမထားဘဲ မိမိ ကိုးကွယ်ရာ ဆရာ (ဘုရား)မှ အခြား အယူပျက်သော တတ္ထိ ဆရာများကို မိမိ၏ ဆရာအဖြစ် မည်သည့် အခါမျှ မရည်ညွှန်းခြင်း၊

(၆) ကာယကံ, ဝစီကံကို စောင့်ထိန်းခြင်း၊

(၇) အတူနေ ပုဂ္ဂိုလ်များနှင့် သင့်တင့် ညီညွတ်စွာ နေထိုင်တတ်၍ အချင်းချင်းအပေါ် ဖြူစင်မှုကင်းပြီး သာသနာတော်ကို ခုတုံးလုပ်၍ ဟန်ဆောင် ပလွှား ဝါကြွားမှု မပြုခြင်း၊

(၈) ဘုရားရတနာကို ကိုးကွယ်ဆည်းကပ်ခြင်း၊

(၉) တရားရတနာကို ကိုးကွယ်ဆည်းကပ်ခြင်း၊

(၁၀) သံဃာရတနာကို ကိုးကွယ်ဆည်းကပ်ခြင်းတို့ ဖြစ်ပါသည်။

**(မိလိန္ဒပဉှာ၊ ၁၀၂။)**

အကယ်၍ ဖော်ပြပါ ဥပါသကာဂုဏ် ၁၀-ပါးကို ပြောင်းပြန် ကျင့်သုံးသူ ဖြစ်ပါက ဂုဏ်သိက္ခာမရှိသော ဥပါသကာ၊ သို့မဟုတ် ဥပါသကာ မဟုတ်သူအဖြစ် ရောက်ရှိပါသည်။

# အခန်း ( ၉ )

## ဗုဒ္ဓဘာသာတစ်ယောက် ရှောင်ရမည့် အချက်များ

### (က) ဒုစရိုက် ၁၀-ပါး

မြန်မာအမျိုးသား လူငယ်လူရွယ် ယောကျ်ားမိန်းမများမှာ ကျောင်းစနေချိန်မှ စ၍ ဘွဲ့ဒီဂရီ ရသည်အထိနှင့် လုပ်ငန်းခွင် စသော နေရာဌာနတိုင်းတွင် လူမျိုးနှင့် ကိုးကွယ်သည့် ဘာသာဆိုသော ကွက်လပ်၌ "ဗမာ၊ ဗုဒ္ဓဘာသာ"ဟူ၍ အမြဲ ဖြည့်ကြရပါသည်။ သဗ္ဗညုဘုရားရှင်ကို "ဗုဒ္ဓ"ဟု ခေါ်၏။ ထိုဗုဒ္ဓရှင်တော်မြတ်၏ တရားတော်ကို "ဗုဒ္ဓဘာသာ"ဟု ခေါ်၏။ ထိုဗုဒ္ဓရှင်တော်မြတ်၏ တရားတော်အတိုင်း လိုက်နာနေထိုင်သူကို "ဗုဒ္ဓဘာသာဝင်"ဟု ခေါ်၏။ ဗုဒ္ဓဘာသာဝင်တစ်ယောက် အနေဖြင့် ဗုဒ္ဓဘုရားရှင်နှင့် သူတော်စင်တို့ မနှစ်သက်အပ် ပယ်အပ်သော ဒုစရိုက် (၁၀)ပါး တရားများကို သိသင့်လှပါသည်။

**"ပါဏာတိပါတ"**အစ **"မိစ္ဆာဒိဋ္ဌိ"**အဆုံးရှိသော ဒုစရိုက် ၁၀-ပါးတို့၏ အပါယ်လေးဘုံ၌ ဖြစ်ရခြင်း စသော ကြီးသော အပြစ်နှင့် ငယ်သော အပြစ်ဟူ၍ နှစ်မျိုးရှိ၏။ စင်စစ်မူ အပြစ်ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ အကုသိုလ်ကို ရှောင်နိုင်လျှင် ကောင်း၏။

မကောင်းသောအမှုကို ပြုမူကျူးလွန်သော အလေ့အကျင့်တို့ကို ပါဠိလို ဒုစ္စရိတ၊ မြန်မာလို ဒုစရိုက်ဟု ခေါ်ပါသည်။

[ဒု=မကောင်းသော+စရိတ=စရိုက် (အကျင့်)]

ဒုစရိုက်တရားများမှာ ၁၀-ပါး ရှိပါသည်။ ယင်းတို့မှာ-

- ကာယဒုစရိုက် = ကာယကံ (၃) ပါး၊
- ဝစီဒုစရိုက် = ဝစီကံ (၄)ပါး၊
- မနောဒုစရိုက် = မနောကံ (၃)ပါးတို့ ဖြစ်ပါသည်။

### ကာယဒုစရိုက် = ကာယကံ (၃)ပါး

(၁) ပါဏာတိပါတ = သူတပါးအသက်ကို သတ်ခြင်း၊

(၂) အဒိန္နာဒါန = ပိုင်ရှင်သည် ကိုယ်နှုတ်တို့ဖြင့် မပေးအပ်သော သူတပါးဥစ္စာကို ခိုးယူခြင်း၊

(၃) ကာမေသုမိစ္ဆာစာရ = ကာမဂုဏ်တို့၌ မှားယွင်းစွာ ဖောက်ပြန်ကျူးလွန်ခြင်း၊

**ဝစီဒုစရိုက် = ဝစီကံ (၄)ပါး**

(၁) မုသာဝါဒ = မဟုတ်မမှန်သော အရာကို ဟုတ်မှန်သည့်အနေဖြင့် လိမ်ညာပြောဆိုခြင်း၊

(၂) ပိသုဏဝါစာ = ချောပစ် ကုန်းတိုက်ခြင်း၊ ချစ်သူနှစ်ဦး ကွဲသွားအောင်၊ သို့မဟုတ် မိမိအား ချစ်ခင်လာအောင် ချစ်သူနှစ်ဦးကို ရန်တိုက်ပေးခြင်း၊ သင့်တင့်ညီညွတ်နေသော မိတ်ဆွေနှစ်ဦးတို့ကို မသင့်မတင့်ဖြစ်အောင် စိတ်ဝမ်းကွဲအောင် ပြောဆိုခြင်း၊

(၃) ဖရုသဝါစာ = ကြမ်းကြမ်းတမ်းတမ်း ဆဲရေးတိုင်းထွာ ပြောဆိုခြင်း၊

(၄) သမ္ဖပ္ပလာပ = မိမိသူတပါး နှစ်ဦးသား လုံးဝအကျိုးမရှိသောစကား ပြောဆိုခြင်း။

**မနောဒုစရိုက် = မနောကံ (၃)ပါး**

(၁) အဘိဇ္ဈာ = သူများ စည်းစိမ်ဥစ္စာ ချမ်းသာ ကြွယ်ဝနေသည်ကို မြင်သောအခါ "ထိုစည်းစိမ် ချမ်းသာများ ငါ၏ဥစ္စာ ဖြစ်လာပါမူ ကောင်းလေစွ"ဟု သူတပါး၏ စည်းစိမ် ချမ်းသာအပေါ် မကောင်းကြံစည်ခြင်း၊

(၂) ဗျာပါဒ = သူတပါး ပျက်စီးစေလိုသည့်စိတ် ဖြစ်ပေါ်ခြင်း၊

(၃) မိစ္ဆာဒိဋ္ဌိ = လှူခြင်းသည် အကျိုးမရှိ၊ မလှူခြင်းသည် အပြစ်မရှိ စသည်ဖြင့် ဖောက်ပြန်မှားယွင်းစွာ ယူခြင်း။

၎င်း ဒုစရိုက် (၁၀)ပါးကို အကုသလကမ္မပထတရား (၁၀)ပါးဟုလည်း ခေါ်သေး၏။ (အကုသလ = အကုသိုလ် + ကမ္မ=ကံ + ပထ = အပါယ်ရောက်ကြောင်းလမ်း)

*လင်္ကာ။* ✱ သက်သတ်, ခိုးမှု၊ ကာမေသု၊ သုံးခု ကာယကံ။

✱ လှည့်စားနှံ, ရန်တိုက်၊ မိုက်မိုက်ကန်းကန်း၊ နှုတ်ကြမ်းလေ့ခြင်း၊ ပြိန်ဖျင်းစကား၊ ပြောဆိုငြား၊ လေးပါး ဝစီကံ။

✱ သူ့ဥစ္စာမှန်၊ မဝရားကြံ၍၊ ဖောက်ပြန်သေဟေ့၊ ပျက်စေလိုငြား၊ အယူမှား၊ သုံးပါး မနောကံ။

၁။ သူ၏အသက်ကို သတ်ခြင်း ပါဏာတိပါတကံကို ကျူးလွန်ခြင်း အပြစ်နှင့် ပတ်သက်၍ ဓမ္မဒိန္နာအလောင်း ဆိတ်သတ်သမားသည် ဆိတ်ကို လည်ဖြတ်သတ်မိသော အကုသိုလ်ကံကြောင့် ဆိတ်မွေးအရေအတွက်နှင့် အမျှ ဘဝတိုင်း ဘဝတိုင်း၌ လည်ဖြတ် အသတ်ခံခဲ့ရပါသည်။

*(ဓမ္မပဒဋ္ဌကထာ၊ ဟလဝဂ်၊ အညတရပုရိသဝတ္ထု။)*

၂။ ပိုင်ရှင်သည် ကိုယ်နှုတ်တို့ဖြင့် မပေးအပ်သော သူတပါးဥစ္စာကို ခိုးယူခြင်း အဒိန္နာဒါနကံနှင့် ပတ်သက်၍ ဘုရားသခင်နှင့် သံဃာတော်များ လုပ်ကျွေးရန် ဖြစ်သော ပစ္စည်းများကို ခိုးယူစားသုံးမိသဖြင့် ထမင်း အစာရေစာ ငတ်မွတ်သော ခုပ္ပိပါသပြိတ္တာဖြစ်ရပုံ, ဘုရားလေးဆူတို့၏ အကြား၌ ကြီးစွာသော ဆင်းရဲခံစားရပုံတို့ တိရောကုဋ္ဋပေတဝတ္ထု၌ လာပါသည်။

ပါရမီတော်ခန်းပျို့တွင်–

> "အံ့အဲဖွယ်မြို့၊ ပြိတ္တာတို့ကား၊ မည်သို့ခြင်းရာ၊ မဟူသာခဲ့၊ ပမာနည်းထုံး၊ ဆိုဖွယ်သုံးမျှ၊ နှစ်သုံးလေးငါး၊ ဘုရားရှင်တော်၊ ပွင့်ငြားသော်လည်း၊ ကျွတ်ဖော်ဝေးလံ၊ နံသည်ကိုထား၊ လျှာဖျားဆွတ်လောက်၊ ရေမိုးပေါက်မျှ၊ မသောက်ရတန်၊ ပူဆာထန်၏"–

ဟူ၍ ရှင်မဟာသီလဝံသဆရာ မိန့်ဆိုတော်မူပါသည်။

၃။ မေထုန်အကျင့်တို့၌ မှားသောအားဖြင့် ကျင့်ခြင်း ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်မိခြင်းကြောင့် ခွေပန်းထိမ်သည်သည် တိရစ္ဆာန်ဘဝ၌ ဝေဒနာသင်းခံရခြင်း၊ လူ့ဘဝ ရသော်လည်း ယောကျ်ားမဟုတ် မိန်းမ မဟုတ် နပုန်း ပဏ္ဍုက်ဖြစ်ခြင်း၊ နောက်ဆုံးဘဝတွင် မိန်းမဖြစ်ခြင်းဖြင့်သာ အရဟတ္တမဂ်ဖိုလ်သို့ ဆိုက်ရောက်ရပါသည်။

သူဌေးသား လေးယောက်သည် သူတပါး သားမယားကို ကျူးလွန်ဖျက်ဆီးခြင်းကြောင့် လောဟကုမ္ဘီငရဲတွင် "ဒု-သ-န-သော"ဟု တစ်လုံးစီ ရွတ်ဆိုကာ နစ်လိုက် ပေါ်လိုက် ခံစားရပါသည်။

၄။ မဟုတ်မမှန် လိမ်ညာစွပ်စွဲခဲ့သော စိဉ္စမာဏဝိကာသည် ပုဆိုးကြမ်းကို ဝမ်းတွင် ရစ်ပတ်ပြီး ပျဉ်ချပ်ဖုံးအုပ်၍ ကိုယ်ဝန်ပြုလုပ်ကာ ဘုရားရှင်ကို ပရိသတ်လေးပါး အလယ်တွင် စွပ်စွဲခဲ့ပါသည်။ ထိုလိမ်လည် စွပ်စွဲသော အကုသိုလ်ကံကြောင့် မြေလွှာသည် နှစ်ဖြာကွဲ၍ မျိုခြင်းခံရပါသည်။ အဝီစိငရဲတွင် အမျိုးတို့ပေးအပ်သော ကမ္ဗလာနီခြုံဘိသကဲ့သို့ ယောင်မြိုက်ခြင်း ခံရရှာပါသည်။

၅။ ချောပစ်ကုန်းတိုက်ခြင်း၌ ညီညွတ်မှုကို ကွဲပြားအောင် ကုန်းတိုက်သော ရဟန်းသည် ဘုရားတစ်ဆူတစ်ဆူအကြား၌ ငရဲသို့ ကျရောက်ခြင်း ခံရပါသည်။ ကျွန်ုပ်တို့ ဘုရားလက်ထက်ဝယ် ရာဇဂြိုဟ်ပြည်အနီး၌ ပူတိမုခပြိတ္တာမျိုး၌ ဖြစ်ရပါသည်။

၆။ အယုတ်တမာ ကြမ်းတမ်းစွာ ဆဲဆိုသော နန္ဒိယ၏ မယား ရေဝတီသည် လှူပြည့်၌ စဉ်းလဲခြင်း၊ ဝန်တိုခြင်းရှိသဖြင့် ရဟန်းပုဏ္ဏား ဖုန်းတောင်းယာစကာတို့အား ဆဲရေး ရေရွတ်ခြင်း၊ ယုတ်မာသော ဖရုသဝါစာကံကြောင့် ငရဲ၌ အနှစ်နှစ်ထောင် ကျရောက်ခံရပါသည်။ ငရဲမှ လွတ်သော်လည်း လက် ခြေ နား နှာခေါင်း ဖြတ်ခြင်း ခံရပါသည်။ တဖန် ဦးခေါင်း ဇောက်ထိုးမိုးမျှော် ငရဲ၌ ပစ်ချခြင်း ခံရပါသည်။

ဖရုသဝါစာ စေတနာသည် မိမိရည်မှန်းအပ်သော သူတပါးထံသို့ကား မရောက်၊ မိမိအားသာလျှင် မိမိနှုတ်က ထုတ်ဖော်ဆဲရေးသော စကားအတိုင်း ဘေးအန္တရာယ် ကျရောက်တတ်သည်ကို သတိပြုသင့်လှပါသည်။

၇။ ကချေသည်တို့၏ အကြီးအမှူး ဂါမဏိသည် အကျိုးမရှိ ပြိန်ဖျင်းသော စကားကို ဆိုခြင်းဖြင့် ရာဂ ဒေါသ မောဟဖြင့် နှောင်ဖွဲ့ခြင်း၊ သတ္တဝါတို့အား လွန်စွာတပ်နှစ်သက်ခြင်း၊ အမျက်ထွက်ခြင်းတို့ကို ဖြစ်စေ၍ တွေဝေမှု အာရုံတို့ကို အနီးသို့ ဆောင်တတ်, လွန်စွာ မေ့လျော့စေတတ်သောကြောင့် "ပဟာသ"အမည်ရှိသော ငရဲ၌ ဖြစ်၏။

၈။ အာဂန္တုကသူဌေးသည် အဘိဏ္ဍာကံ၏ အပြစ်ကြောင့် ပစ္စည်းဥစ္စာ ပေါများသော်လည်း အမွေခံသားသမီး မရှိ၊ မိမိ ကိုယ်တိုင်လည်း ကောင်းစွာ မသုံးဆောင်နိုင်၊ မင်းဘဏ္ဍာအဖြစ် အသိမ်းခံရ၏။ သူဌေးကြီးဖြစ်သော်လည်း ပရစေတနာ ပျက်သောကြောင့် ဒါနအကျိုးကို မခံစားရ၊ မဟာရောရုဝငရဲ၌ ဖြစ်ရ၏။

၉။ ခုပ္ပိပါသ ပြိတ္တာသည် ယယှသူဌေးကြီး၏ အလှူပွဲ ကြီးကြပ်ရသော ပုဂ္ဂိုလ်တစ်ယောက် ဖြစ်ခဲ့၏" သဒ္ဓါတရား မရှိ၊ ဝဿာ၊ မစ္ဆရိယ၊ ဗျာပါဒ အားကြီး၏။ အလှူခံ ပုဂ္ဂိုလ်တို့ကို မပေးလှူရအောင် မရှိတော့ဘူးဟု ပြောဆို၏။ မလွှဲသာ၍ ပေးရလျှင်လည်း မကြည်သာသော မျက်စိ မျက်နှာဖြင့် ကြည့်ရှုခြင်းတို့ကို ပြု၏။ ဒေါသစိတ်ဖြင့် သူတပါးတို့၏ အကျိုးကို ဖျက်ဆီးသော ကံကြောင့် ခုပ္ပိပါသပြိတ္တာ ဖြစ်ရရာ၏။ မျက်နှာ ခြေလက်တို့သည် မလှမပဖြစ်၍ ကြီးစွာသော ဆင်းရဲခြင်းတို့ကို ခံရပါသည်။

၁၀။ အယူမှားမှု, ကံ,ကံ၏ အကျိုးကို မယုံကြည်မှု, တရားသဘောကို ဖောက်ပြန်သောအားဖြင့် မြင်မှုတို့ဖြင့် မှားယွင်းသောအယူကို ကျူးလွန်သဖြင့် အပြစ်ခံရသော ကောရခတ္တိယသည် မှားသောမိစ္ဆာအယူကို ယူမိသောကြောင့် ကာလကဉ္ဇိက အသုရကာယ်ဘုံ၌ ဖြစ်ရရှာသည် (ဒီဃနိကာယ်၊ ပါထေယျဝဂ်၊ ပါထိကသုတ် ၅)။

ထို့ကြောင့် ဒုစရိုက် (၁၀)ပါး တရားကို သိရှိနားလည်ကြကုန်သော မြန်မာလူမျိုးတို့သည် ရှေးကပြုခဲ့မိသော မကောင်းမှု အကုသိုလ်ကံတို့ကို ပပျောက်စေရန် ဒါန သီလ ဘာဝနာ စသော ကုသိုလ်တရားတို့ကို ပြုလုပ်ပွားများသင့်၏။ မဖြစ်ပေါ်သေးသော ကုသိုလ်တရားတို့ကို ဖြစ်ပေါ်လာစေရန် ကြိုးစားအားထုတ်မှု(သမ္မပ္ပဓာန်)တရားတို့ကို ပြုလုပ်သင့်ကြပါသည်။ ဤသို့ဖြင့် အပါယ်သို့ မကျရောက်အောင် နေထိုင် ကျင့်ကြံပြီး ဘာသာသွေး ဘာသာအသိတို့ တိုးတက် ဖွံ့ဖြိုးအောင် ဆောင်ရွက်နိုင်ကြပါလျှင် ဗုဒ္ဓမြတ်စွာ သာသနာတော်မြတ်ကြီးသည် အရှည်တည်တံ့ ထွန်းကား ပြန့်ပွားနိုင်မည် ဖြစ်ပါသည်။

## (ခ) မရောင်းကောင်းသော ကုန်စည်မျိုး (၅)ပါး

ဗုဒ္ဓမြတ်စွာသည် အင်္ဂုတ္တရနိကာယ ပဉ္စကနိပါတ် ဥပါသကဝဂ် ဝဏိဇ္ဇသုတ်တော်တွင် ဗုဒ္ဓဘာသာ ဥပါသကာတစ်ယောက်အနေဖြင့် မရောင်းကောင်းသော ကုန်စည်မျိုး(၅)ပါးကို ဟောကြားတော်မူခဲ့ပါသည်။ ထို (၅)ပါးတို့မှာ–

| | | |
|---|---|---|
| (၁) သတ္ထဝဏိဇ္ဇာ | = | အများသေစေကြောင်း လေး မြား စသော လက်နက်ပေါင်း အမျိုးမျိုးကို ရောင်းခြင်း၊ |
| (၂) သတ္တဝဏိဇ္ဇာ | = | ဆင် မြင်း လူ စသော အစေခံ သတ္တဝါ အပေါင်းကို ရောင်းခြင်း၊ |
| (၃) မံသဝဏိဇ္ဇာ | = | ဝက် သမင် စသော အသားစားကြောင်း သတ္တဝါအပေါင်းကို ရောင်းခြင်း၊ |
| (၄) မဇ္ဇဝဏိဇ္ဇာ | = | သေရည်အရက် အမျိုးမျိုးကို ရောင်းခြင်း၊ |
| (၅) ဝိသဝဏိဇ္ဇာ | = | အများကို သေစေတတ်သော အဆိပ်အမျိုးမျိုးကို ရောင်းခြင်းတို့ ဖြစ်ပါသည်။ |

ဗုဒ္ဓမြတ်ဘုရားသည် မား လုံ လေး မြား စသော (လူသတ်) လက်နက်တို့ကို မိမိကိုယ်တိုင် ပြုလုပ်၍ လည်းကောင်း၊ တခြား တပါးသောသူကို ပြုလုပ်ခိုင်း၍ လည်းကောင်း၊ သူတပါး ပြုလုပ်ပြီးသည်ကို တဆင့်ဝယ်ယူ၍ လည်းကောင်း ရောင်းဝယ်ခြင်း မပြုလုပ်ရဟု တားမြစ်တော်မူပါသည်။ အဘယ်ကြောင့် တားမြစ်ရသနည်းဟူမူ မား လုံ စသော လက်နက်တို့သည် တပါးသော သတ္တဝါတို့ကို သတ်ဖြတ်နှိပ်စက်ကြောင်း ဖြစ်သောကြောင့် ဖြစ်ပါသည်။

ဗုဒ္ဓမြတ်စွာသည် မိစ္ဆာစာမဖြင့် အသက်မွေးသော မိန်းမပေါ် (ပြည့်တန်ဆာ) ရောင်းဝယ်ခြင်း၊ လူများကို ကျွန်ဖြစ်စေရန် ရောင်းဝယ်ခြင်း စသော ကူးသန်း ရောင်းဝယ်ခြင်းကို မပြုလုပ်ရဟု တားမြစ်တော်မူပါသည်။ အကြောင်းမှာ သူ့ကျွန်၏ အဖြစ်ကို ပြုတတ်သောကြောင့် ဖြစ်ပါသည်။

ဗုဒ္ဓမြတ်စွာသည် သားသမင် နွား ကြက် ဝက် စသော ဟင်းလျာ သတ္တဝါ တို့ကို မွေးမြူ၍ သားငါးမျိုး ကုန်ရောင်းခြင်းကို တားမြစ်တော်မူပါသည်။ အကြောင်းမှာ သတ္တဝါတို့ကို သတ်ဖြတ်ရခြင်း ဟူသော အကြောင်းကြောင့် ဖြစ်ပါသည်။

ဗုဒ္ဓမြတ်စွာသည် လတ်တလော သေစေတတ်သော အဆိပ်အမျိုးမျိုး၊ ယုတ်စွ အဆုံး ကိုယ်ဝန်ကျစေတတ်သော ဆေးမျိုး ရောင်းစားခြင်းကို မပြုမလုပ်အပ်ဟု တားမြစ်တော်မူပါသည်။ အဘယ့်ကြောင့်ဆိုသော် အဆိပ်အမျိုးမျိုးတို့သည် တပါးသော သတ္တဝါတို့ကို သေစေတတ်သောကြောင့် ဖြစ်ပါသည်။

*လင်္ကာ။* ။လူနှင့် လက်နက်၊ ကြက်ဝက်, ယစ်မျိုး၊ အဆိပ်ဆိုးဟု၊ ကောင်းကျိုး မရ၊ အပါယ်ကျသော၊ ဝဏိဇ္ဇငါး၊ မရောင်းစားဘဲ၊ ခုနစ်ပါးဒုစရိုက်၊ ကြဉ်ဖယ်လိုက်၍၊ အမြိုက်ဘုမိ၊ ရောက်ကြောင်းရှိသော၊ သုစရိုက်ကျင့်၊ စိတ်ကောင်းမြင့်လျက်၊ သင့်တင့်ညီစွာ၊ ကုန်သွယ်ပါလျှင်၊ မိစ္ဆာဇီဝ၊ ကင်းလွတ်ပါလျက်၊ သမ္မာဇီဝါ၊ ပြည့်စုံပါသည်၊ ဥပါသကာ ဇီဝတည်း။

*(ဥပါသကဂုဏပကာသနီ)*

ယင်းငါးမျိုးသော ကုန်စည်တို့ကို ဗုဒ္ဓဘာသာဝင်တစ်ဦးသည် ကူးသန်း ရောင်းဝယ်ခြင်း မပြုဘဲ ရှောင်ကြဉ်သင့်ပါသည်။ ထိုသို့ ရှောင်ကြဉ်မှသာလျှင် နိဗ္ဗာန်သို့ ရောက်ကြောင်းဖြစ်သော သုစရိုက်တရားတို့ကို ကျင့်ကြံနိုင်ပါမည်။ သို့မှသာ ကောင်းမြတ်သော စိတ်ထားပြည့်ဝပြီး သင့်တင့်ညီညွတ်မျှတသော ကုန်သွယ်မှု ဖြစ်နိုင်ပါမည်။ ကောင်းသော အသက်မွေးမှုပြုခြင်း ဖြစ်နိုင်ပေမည်။

# အခန်း ( ၁၀ )

## ဗုဒ္ဓဘာသာဝင်တစ်ဦး၏ တစ်နေ့တာလုပ်ငန်း

### (က) မေတ္တာဖြင့် နိုးထခြင်း

အရုဏ်ဦးအချိန်ကာလကား နေ့တစ်နေ့၏ အစဖြစ်၏။ ထိုအချိန်ကာလတွင် ဗုဒ္ဓဘာသာဝင် တစ်ဦးသည် မေတ္တာဖြင့် နိုးထ၍ နေ့တစ်နေ့ကို စတင်သင့်၏။ "သတ္တဝါမှန်သမျှ ကိုယ်စိတ်နှာဖြာ ချမ်းသာကြပါစေ" ဟု မေတ္တာပို့ခြင်းသည် အလွန်မွန်မြတ်သော အလုပ်ဖြစ်၏။ လောကကို မေတ္တာဖြင့် ရှုမြင်ခြင်း၊ အကောင်းမြင် အမြင်ဖြင့် စတင်နိုးထခြင်း ဖြစ်၏။ ဘာသာတရားကို ထိန်းသိမ်း၍ သူတော်ကောင်း ဘဝဖြင့် တစ်နေ့တာ ဆက်လက် ရပ်တည်ခြင်းလည်း မည်၏။ "ကုသိုလ်ကောင်းမှုတို့၌ မမေ့မလျော့ရခြင်း"စသော မင်္ဂလာတရားနှင့်လည်း ညီ၏၊ ဝါ-မင်္ဂလာရှိပေ၏။

ရှေးဗုဒ္ဓဘာသာဝင်တို့သည် အရုဏ်ဦး နိုးထစ ကာလမှာ ဘုရားဝတ်ပြုခြင်း၊ မေတ္တာပို့သခြင်း၊ ကုသိုလ်အမျှကို ပေးဝေခြင်းဖြင့် ကြေးစည်သံတဝေဝေ လွင့်ပျံ့အောင် ရိုက်ခတ်လေ့ရှိကြသည်။ ကြေးစည်သံသည် ဘာသာတရား ကိုင်းရှိုင်းမှု၏ သင်္ကေတ၊ သူတော်ကောင်း၏ သဘာဝ၊ မြန်မာ့ယဉ်ကျေးမှု၏ အလှအပတစ်ခု ဖြစ်၏။ ထို အစဉ်အလာကောင်းကို ထိန်းသိမ်းသည့်အနေဖြင့် ယခုကာလ ဗုဒ္ဓဘာသာဝင်တစ်ဦးသည် အရုဏ်ဦးကာလမှာ မေတ္တာဖြင့် နိုးထယုံမျှဖြင့် မပြည့်စုံသေး။ ရှေးဗုဒ္ဓဘာသာဝင် သူတော်စင်တို့၏ အစဉ်အလာအတိုင်း ဘုရားဝတ်တက်ခြင်း မေတ္တာပို့ခြင်း စသည်ကို ပြုလုပ်ရန် မျက်နှာသစ်ခြင်း၊ အခင်းကြီး အခင်းငယ် သွားလာခြင်းကိစ္စ ပြီးလျှင် ဘုရားစင်ရှိရာသို့ ချဉ်းကပ်သင့်ပေသည်။

### (ခ) ရတနာသုံးပါးအား ရှိခိုးခြင်း

ရတနာသုံးပါးကို ရှိခိုးသည့်အခါ ထိခြင်းငါးပါးဖြင့် ရှိခိုးရ၏။ "ခြေ, လက်, နဖူး၊ တံတောင်, ဒူး၊ ငါးဦး ကြမ်းမှာတည်"ဟူသည်နှင့်အညီ-

(၁) ခြေဖျားနှင့် ကြမ်းပြင် ထိခြင်း၊

(၂) လက်ဖဝါးနှင့် ကြမ်းပြင် ထိခြင်း၊

(၃) နဖူးနှင့် ကြမ်းပြင် ထိခြင်း၊

(၄) တံတောင်နှစ်ဖက်နှင့် ကြမ်းပြင် ထိခြင်း၊

(၅) ဒူးနှစ်ဖက်နှင့် ကြမ်းပြင် ထိခြင်း။

ဤငါးမျိုးဖြင့် ထိခြင်းကို ထိခြင်း (တည်ခြင်း) ငါးပါးဟု ခေါ်ပါသည်။ ထိုသို့ ရှိခိုးရာတွင် ရတနာသုံးပါး၏ ဂုဏ်တော်ကို ရည်မှန်း၍-

- ဗုဒ္ဓံ ပူဇေမိ (မြတ်စွာဘုရားကို + ပူဇော်ပါ၏)၊
- ဓမ္မံ ပူဇေမိ (တရားတော်မြတ်ကို + ပူဇော်ပါ၏)၊
- သံဃံ ပူဇေမိ (သံဃာတော်မြတ်ကို + ပူဇော်ပါ၏) -

ဟူ၍ စိတ်ဖြင့်ဖြစ်စေ၊ နှုတ်ဖြင့် အသံထွက် ရွတ်ဆို၍ဖြစ်စေ ရှိခိုးဦးချရပါမည်။

ယင်းနောက် "ဩကာသကန်တော့ချိုး"ဖြင့် အပြစ်ခပ်သိမ်း ပပျောက်စေရန် ကန်တော့ရမည်။ မိမိအိမ်၌ရှိသော ဘုရားဆင်းတုတော်ရှေ့၌ ဆိုရန် ဖြစ်၏။

## (ဂ) ဩကာသ ကန်တော့ချိုး

ဩကာသ ဩကာသ ဩကာသ ကာယကံ ဝစီကံ မနောကံ သဗ္ဗဒေါသ ခပ်သိမ်းသော အပြစ်တို့ကို ပျောက်ပါစေခြင်းအကျိုးငှာ ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ ရတနာမြတ်သုံးပါးတို့ကို အရိုအသေ အလေးအမြတ် လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ကန်တော့ရသော အကျိုးအားကြောင့် အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါး၊ ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

*(ကန်တော့သူက ဆိုရန်)*

အကယ်၍ ဘုန်းကြီးထံမှာ ဆိုပါက ဘုန်းကြီးက ဆုပေးလျှင် "ပေးသောဆုနှင့် ပြည့်စုံရပါလို၏"ဟု ဆိုရမည်။

## (ဃ) သရဏဂုံနှင့် ငါးပါးသီလတောင်းပုံ ပါဠိ

- အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
  အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
- ဒုတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
  အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
- တတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
  အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

("အာမ ဘန္တေ"ဟု ကန်တော့သူက ဆိုရန်)

ဘုန်းကြီးထံမှာ ဖြစ်ပါက "ယ မဟံ ဝဒါမိ၊ တံ ဝဒေထ (ငါဆိုသော စကားကို လိုက်ဆိုကြ)"ဟု ဆိုသောအခါ အာမ ဘန္တေ (မှန်ပါဘုရား)"ဟု ဆိုရမည်။

**ဘုရားရှိခိုးပုံ**

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

*(သုံးကြိမ်ဆို)*

**သရဏဂုံ ဆောက်တည်ပုံပါဠိ**

- ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
- ဓမ္မံ သရဏံ ဂစ္ဆာမိ။
- သံဃံ သရဏံ ဂစ္ဆာမိ။

- ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
- ဒုတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
- ဒုတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

- တတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
- တတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
- တတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

*("အာမ ဘန္တေ"ဟု ကန်တော့သူက ဆိုရန်)*

ဘုန်းကြီးထံမှာ ဖြစ်က တိသရဏဂမနံ ပရိပုဏ္ဏံ (သရဏဂုံ ဆောက်တည်ခြင်း ကိစ္စ ပြည့်စုံပြီ)"ဟု ဘုန်းကြီးက ဆိုသောအခါ "အာမ ဘန္တေ (မှန်ပါဘုရား)"ဟု ဆိုရမည်။

**ငါးပါးသီလ ခံယူဆောက်တည်ပုံ ပါဠိ**

- ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
- အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
- ကာမေသုမိစ္ဆာစာရာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
- မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
- သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

*("အာမ ဘန္တေ"ဟု - ကန်တော့သူက ဆိုရန်)*

ဘုန်းကြီးထံမှာ ဖြစ်က "တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ သာဓုကံ ကတွာ အပ္ပမာဒေန သမ္ပာဒေထ (သရဏဂုံနှင့် ငါးပါးသီလကို ကောင်းကောင်းမွန်မွန် မမေ့မလျော့ စောင့်ရှောက်လေ"ဟု ဆိုသောအခါ "အာမ ဘန္တေ (မှန်ပါဘုရား)"ဟု ဆိုရမည်။

ငါးပါးသီလ ဆောက်တည်ပုံ ပြီး၏။

**(င) ရှစ်ပါးသီလ တောင်းခံပုံ ပါဠိ**

(ဩကာသ-ဆိုရန်)

- အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
- ဒုတိယမ္ပိ ...........
- တတိယမ္ပိ ...........

(နမော တဿနှင့် သရဏဂုံ ဆိုရန်)

**ရှစ်ပါးသီလ ဆောက်တည်ပုံ ပါဠိ**

- ပါဏာတိပါတာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- အဒိန္နာဒါနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- အဗြဟ္မစရိယာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

- မုသာဝါဒါ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- ဝိကာလဘောဇနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာ ဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန ဝိဘူသနဋ္ဌာနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- ဥစ္စာသယန မဟာသယနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

*("အာမ ဘန္တေ")ဟု ဆိုရန်*

ရှစ်ပါးသီလ ဆောက်တည်ပုံ ပြီး၏။

## (ခ) ကိုးပါးသီလ တောင်းပုံ ပါဠိ

(ဩကာသဆိုရန်)

- အဟံ ဘန္တေ တိသရဏေန သဟ နဝင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
- ဒုတိယမ္ပိ ...........
- တတိယမ္ပိ ...........

(နမော တဿနှင့် သရဏဂုံ ဆိုရန်)

## ကိုးပါးသီလ ဆောက်တည်ပုံ ပါဠိ

(၁)<br>
(၂)<br>
(၃)<br>
(၄)<br>
(၅)<br>
(၆)<br>
(၇)<br>
(၈)

} ရှစ်ပါးသီလ ဆောက်တည်စဉ်က ဆိုသည့်အတိုင်း ဆိုရန်

(၉) မေတ္တာသဟဂတေန စေတသာ သဗ္ဗပါဏဘူတေသု ဖရိတွာ ဝိဟရာမိ။

ကိုးပါးသီလ ဆောက်တည်ပုံ ပြီး၏။

## (ဆ) အာဇီဝဋ္ဌမကသီလ တောင်းခံပုံ ပါဠိ

(ဩကာသဆိုရန်)

- အဟံ ဘန္တေ တိသရဏေန သဟ အာဇီဝဋ္ဌမကသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။
- ဒုတိယမ္ပိ ...........
- တတိယမ္ပိ ...........

(နမော တဿနှင့် သရဏဂုံ ဆိုရန်)

## အာဇီဝဋ္ဌမကသီလ ဆောက်တည်ပုံ ပါဠိ

- ပါဏာတိပါတာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- အဒိန္နာဒါနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- ကာမေသုမိစ္ဆာစာရာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- မုသာဝါဒါ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- ပိသုဏဝါစာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- ဖရုသဝါစာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- သမ္ဖပ္ပလာပါ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။
- မိစ္ဆာဇီဝါ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

အာဇီဝဋ္ဌမကသီလ ဆောက်တည်ပုံ ပြီး၏။

# (ဇ) ဆွမ်း၊ ရေချမ်း၊ ပန်း၊ ဆီမီး ကပ်လှူခြင်း

## (၁) ဆွမ်းတော်ကပ်နှင့် ဆုတောင်း

အရဟတာဒိနဝဂုဏောဟိ၊ အရဟံ အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်။ သမန္နာဂတံ၊ ပြည့်စုံတော်မူသော။ နာထံ၊ လူ နတ်တို့၏ ကိုးကွယ်ရာ ဖြစ်တော်မူသော။ ဗုဒ္ဓံ၊ သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို။ ဥဒ္ဒိဿ၊ ရည်မှတ်၍။ စေတိယဿ၊ ဓာတုစေတီ, ဓမ္မစေတီ, ဥဒ္ဒိဿစေတီ, ပရိဘောဂစေတီတော်မြတ်အား။ ဝဏ္ဏ ဂန္ဓ ရသ သမ္ပန္နံ၊ အဆင်း အနံ့ အရသာနှင့် ပြည့်စုံသော။ ဣမံ ပိဏ္ဍပါတခါဒနီယဘောဇနီယံ၊ ဤဆွမ်းခဲဖွယ် ဘောဇဉ် ချိုချဉ်အရသာကို။ သက္ကစ္စံ၊ ရိုရိုသေသေ။ ဒေမိ၊ နိဗ္ဗာန်ရည်မှန်း လှူဒါန်းပါ၏ဘုရား။ ပူဇေမိ၊ နိဗ္ဗာန်ရည်မျှော် ပူဇော်ပါ၏ အရှင်ဘုရား။

ဆုတောင်းပါဠိ။ ။ဣဒံ မေ ပုညံ အာသဝက္ခယာဝဟံ ဟောတု။

အနက်။ ။ မေ၊ တပည့်တော်၏။ ဣဒံ ပုညံ၊ ဤကောင်းမှုသည်။ အာသဝက္ခယာဝဟံ၊ **အာသဝေါတရား** လေးပါးတို့၏ ကုန်ရာ ကုန်ကြောင်းဖြစ်သော မဂ်ဉာဏ် ဖိုလ်ဉာဏ် မြတ်နိဗ္ဗာန်ကို ကေန်ရောက်အောင် **ရွက်ဆောင်နိုင်သည်**။ ဟောတု၊ ဖြစ်ပါစေသတည်း။

## (၂) ရေချမ်းကပ်နှင့် ဆုတောင်း

အရဟတာဒိနဝဂုဏောပေတံ = (ဆွမ်းကပ်နည်းတူဆို)
သမန္တာဂတံ = (ဆွမ်းကပ်နည်းတူဆို)
နာထံ = (ဆွမ်းကပ်နည်းတူဆို)
ဗုဒ္ဓံ = (ဆွမ်းကပ်နည်းတူဆို)
ဥဒ္ဒိဿ = (ဆွမ်းကပ်နည်းတူဆို)
ဓေတိယဿ = (ဆွမ်းကပ်နည်းတူဆို)

သုဒ္ဓသီတလပသန္နံ၊ သန့်ရှင်းအေးမြ ကြည်လင်လှသော။ ဣမံ ပါနီယပရိဘောဇနီယံ၊ ဤသောက်တော်ရေ သုံးတော်ရေကို။

သက္ကစ္စံ = (ဆွမ်းကပ်နည်းတူဆို)
ဒေမိ = (ဆွမ်းကပ်နည်းတူဆို)
ပူဇေမိ = (ဆွမ်းကပ်နည်းတူဆို)

ဆုတောင်းပါဠိ }
အနက် } = (ဆွမ်းကပ်နည်းတူဆို)

## (၃) ပန်းတော်ကပ်နှင့် ဆုတောင်း

အရဟတာဒိနဝဂုဏောပေတံ = (ဆွမ်းကပ်နည်းတူဆို)
သမန္တာဂတံ = (ဆွမ်းကပ်နည်းတူဆို)
နာထံ = (ဆွမ်းကပ်နည်းတူဆို)
ဗုဒ္ဓံ = (ဆွမ်းကပ်နည်းတူဆို)
ဥဒ္ဒိဿ = (ဆွမ်းကပ်နည်းတူဆို)
စေတိယဿ = (ဆွမ်းကပ်နည်းတူဆို)

ဝဏ္ဏ ဂန္ဓသမ္ပန္နံ၊ အဆင်းအနံ့နှင့် ပြည့်စုံသော။ ဣမံ ပုပ္ဖံ၊ ဤပန်းကို။

သတ္တစ္စံ = (ဆွမ်းကပ်နည်းတူဆို)

ဒေမိ = (ဆွမ်းကပ်နည်းတူဆို)

ပူဇေမိ = (ဆွမ်းကပ်နည်းတူဆို)

ဆုတောင်းပါဠိ
အနက် } = (ဆွမ်းကပ်နည်းတူဆို)

## (၄) ဆီမီးတော်ကပ်နှင့် ဆုတောင်း

အရဟတာဒိနဝဂုဏောပေတံ၊ အရဟံ အစရှိသော ကိုးပါးသောဂုဏ်တော်တို့နှင့်။ သမန္နာဂတံ၊ ပြည့်စုံတော်မူသော။ သဗ္ဗညုတာနာဝရဏဉာဏောပေတံ၊ သဗ္ဗညုတဉာဏ်, အနာဝရဏဉာဏ်တော်တို့ဖြင့်။ တိလောကေ၊ သုံးပါးသော လောက၌။ အဝိဇ္ဇာ-အန္ဓကာရံ၊ အဝိဇ္ဇာတည်းဟူသော အမိုက်မှောင်ကို။ ဝိဓမိတွာ၊ ပယ်ဖျောက်၍။ ဇလံ-ဇလန္တော၊ ထွန်းလင်း တောက်ပတော်မူစေနိုင်သော။ ဗုဒ္ဓံ၊ သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို။ ဥဒ္ဒိဿ၊ ရည်မှတ်၍။ စေတိယဿ၊ ဓာတုစေတီ, ဓမ္မစေတီ, ဥဒ္ဒိဿစေတီ, ပရိဘောဂစေတီတော်မြတ်အား။ ပဘာဝဏ္ဏောပေတံ၊ အရောင်အဆင်းတို့ဖြင့်။ အန္ဓကာရံ၊ အမိုက်မှောင်ကို။ ဝိနာသကံ၊ ပယ်ဖျောက်တတ်သော။ ဣမံ ဒီပဇာလံ၊ ဤဆီမီးလျှုံကို။ သတ္တစ္စံ၊ ရိုရိုသေသေ။ ဒေမိ၊ နိဗ္ဗာန်ရည်မှန်း လှူဒါန်းပါ၏ အရှင်ဘုရား။ ပူဇေမိ၊ နိဗ္ဗာန်ရည်မျှော် ပူဇော်ပါ၏ အရှင်ဘုရား။

ဆုတောင်းပါဠိ
အနက် } =(ဆွမ်းကပ်နည်းတူဆို)

## (၅) တောင်တွင်းကြီး ဆရာတော် ခင်ကြီးဖျော် ရေးသားသည့် လက်နက်ကိုးပါးအောင် ဘုရားရှိခိုး

- ဝါတံ ဝဿဥ္စ ပါသာဏံ၊ အာဝုဓံ ဝါဠုကံ တထာ။
  ကုက္ကုဠံ ကလလင်္ဂါရံ၊ အန္ဓကာရဥ္စ'မေ နဝ။
- သတ္တေ မာရေန ဝိဿဋ္ဌေ၊ ဝိဇယန္တံ ဇိနံ နမေ။
  အဟမ္ပိ တေန ပူဇေန၊ ဝိဇေယျံ သဗ္ဗမာယုဓေ။

ပါတံ၊ လောကထွတ်ထား တို့ဘုရားလျှင် ငါးပါးမာရ်ခြွေ ပလ္လင်ဗွေ၌ စံနေ
ဒိုက်ခါ မာရ်နတ်လာပျက် စက္ကဝါတိုက် တောင်နှင့်ရိုက်၍ ပန်းမိုက်မြူစုဏ် သေးဖွဲ
နှန့်သို့ မှုန့်မှုန့်ညက်ကြေ ပျက်ပစေဟု စေတနာဆိုး ပြုဖန်မျိုးသား မိုးရပ်သိမ့်ဟည်း
မြေကြီးပဲ့တင် သစ်ပင်ကျောက်တုံး အိမ်အလုံးကို ချေမှုန်းဖြတ်ပိုင်း ရှစ်ရပ်တိုင်းမှ
အုံ့မှိုင်းလေဆိုး မုန်တိုင်းလက်နက်မျိုးကိုလည်းကောင်း။ ဝဿဥ္စ၊ အဟုန်ဒီးဒီး
စီးကျသွယ်သွယ် ရေပြင်ကျယ်၌ မှိုဖွယ်ကင်းမည် သေစိမ့်ရည်၍ တစ်မည်ပြုစား
ထန်းလုံးဖျားနှင့် တောင်ဖျားမျှခေါင် အမြင့်ဆောင်သား ရှစ်ဘောင်ရပ်ခန်း ပြည့်မောက်
လှမ်းသည့် မိုးကြမ်းရေဆိုး လက်နက်မျိုးကို လည်းကောင်း။ ပါသာဏံ၊ ကျောက်ဖြင့်
ကြိတ်ဖျက် မှုန့်မှုန့်ညက်လျှင် နှိပ်စက်စေရန် တစ်မည်ဖန်၍ နဘန်မိုးလုံး ထစ်ချုန်း

မြိမ့်ညံ တိုက်ခတ်သံနှင့် အလျှံပြိုးပြိုး ကျောက်ခဲကျောက်စိုင်မိုးကိုလည်းကောင်း။
အာဝုဓံ၊ အသွေးတခြား အသားတစ်ထွေ အရေတစ်မျိုး အရိုးတစ်ဂိုဏ်း ထိုးခုတ်
ပိုင်း၍ မဆိုင်းသေရန် ပြုစီမံသား အလျှံပြိုးပြက် မိုးလုံးလက်အောင် တစ်ဘက်အသွား
နှစ်ဘက်သွားဟု လှံဓား စသည် အမည်မည်လျှင် စုံစီဖန်ပျိုး လက်နက်မိုးကို
လည်းကောင်း။ ဝါဠုကံ၊ တထာ၊ ထွက်လေ ဝင်လေ နှစ်ထွေမရှိ သဲဖြင့်ဝိ၍
မချိသေအောင် ပြုဆောင်ဖန်ပျိုး သဲထုမိုးကိုလည်းကောင်း။ ကုက္ကုဠံ၊ တစိမ့်စိမ့်ပူ
သေအောင်ဟူ၍ သူအကြံပျိုး ပြာပူမိုးကိုလည်းကောင်း။ ကလလံ၊ ကျိုက်ကျိုက်ပွက်ဆူ
အပူအဒိုး ရွံ့ညွန်မိုးကိုလည်းကောင်း။ အင်္ဂါရံ၊ တခဏချင်း အပြင်းပူလောင် သေအောင်
ဖန်ပျိုး မီးကျီးမိုးကိုလည်းကောင်း။ အန္ဓကာရံ၊ ကြည့်သော်မစွမ်း စွမ်းသော်မထင်
ကြောက်စိတ်ဝင်၍ အလျင်သေရန် တဖန်ပြုဆောင် အမှိုက်မှောင်ကိုလည်းကောင်း-

ဣတိ၊ ဤသို့။ မာရေန ဝိဿဇ္ဇေ၊ မာရ်နတ်မိစ္ဆာ အယုတ်ကမာလျှင်
ကြိမ်းကာဆင့်ဆင့် ပစ်လွှင့်အပ်ကုန်သော။ ဣမေ နဝ သတ္တေ၊ လေ, မိုး, ကျောက်,
သံ၊ ညွန်, မီးခဲနှင့်၊ ပြာမွဲ, မိုက်မှောင်၊ ပြောင်ပြောင်လက်နက် ရောင်ပြိုးပြက်ဟု
ကိုးချက်ရန်စွယ် လက်နက်မျိုးအန္တရာယ်တို့ကို။ ဝိဇယန္တံ၊ ဗိုလ်ပါအပေါင်း သောင်း
ကုဋေအား ဆောင်နိုင်ငြားလည်း ရိုက်လား ပုတ်လား အဘာအပါးဝယ် ဆိုးဝါးမာန်မူ
သားယယ်တူသို့ သီတဂူနှန်း ကြည်နှလုံးဖြင့် မြေလုံးငြိမ့်အောင် သက်သေဆောင်၍
အောင်တော်မူကြီး အောင်တော်မူထသော (ဝါ) အောင်တော်မူသောကြောင့်။ ဇိနံ၊
ဇိနဟူသည် အမည်တံဆိပ် ဘွဲ့ပုံလိပ်ဖြင့် ခတ်နှိပ်ပေါ်ထင် အောင်ပွဲရှင် မြတ်စွာ
ဘုရားကို။ နမေ-နမာမိ၊ ကိုယ်နှုတ်နှလုံး သုံးပါးပေါင်းပျော့ မာန်ကိုလျှော့၍
ကန့်တော့ ရှိခိုးပါ၏၊ မြတ်စွာဘုရား၊ အဟမ္ပိ၊ စတုသမုဋ္ဌာန် ပြုလုပ်ဖန်သည့်

ရုပ်နာမ်ပေါင်းချုပ် အကျွန်ုပ်သည်လည်း၊ တေန ပုညေန၊ လက်နက်မျိုးကို ဖျက်ချိုး နှိမ်ခူး ဂုဏ်ကျေးဇူးဖြင့် ချီးကျူးဝန္ဒနာ စေတနာပဏာမ မြတ်ပုညကြောင့်။ သဗ္ဗမာယုဓေ၊ သေနတ်လေးမြား ဓားလှံမီးပေါက် အမြောက် စိန် ဗုံး ချေမှုန်းခွင်းဖြတ် အကျဉ်းမှတ်သော် လွှတ်အပ်, မလွှတ်အပ် နှစ်ရပ်ကျုံးခြုံ အလုံးစုံသော လက်နက်မျိုး တို့ကို။ ဝိဇေယျံ၊ ယနေ့ကစ နိဗ္ဗာန်ရသည့် ကာလတခွင် သံသာပြင်ဝယ် မမြင်ရ, မကြားရ အဝေးကပင် အောင်ရ, နိုင်ရ အောင်နိုင်ရသည့်ကိုယ် ဖြစ်ရပါလို၏ မြတ်စွာဘုရား။

လက်နက်ကိုးပါးအောင် ဘုရားရှိခိုးပြီး၏။

## (ည) မေတ္တာပို့ခြင်း

ဘုရားရှိခိုးပြီးနောက် ပရိတ်ကြီး (၁၁)သုတ်မှ လိုရာသုတ်ကို ဖြစ်စေ၊ ဤ ကျမ်းစာအုပ်ပါ အန္တရာယ်ကင်း ပရိတ်ဂါထာကို ဖြစ်စေ၊ အခြား မိမိတို့ ကြိုက်နှစ် သက်ရာ ပရိတ်ဂါထာများကို ဖြစ်စေ ရွတ်ပွား၍ ဘဝအတွက် အရံအတား ပြုလုပ် ရပါမည်။

ပရိတ်တော်အရံအတားပြုပြီးနောက် သတ္တဝါတို့အား မေတ္တာပို့သရမည်။ ဤ ကျမ်းစာအုပ်၌ ဖော်ပြထားသည့် မေတ္တာပို့ကား အရပ်မျက်နှာ အသီးသီးကို ဖြန့်ကြက်၍ ပို့သသော (ဒိသာဖရဏ) မေတ္တာပို့ဖြစ်၏။ တိပိဋကဓရ ဓမ္မဘဏ္ဍာ- ဂါရိက အဘိဓဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တဝိစိတ္တသာရာဘိဝံသဆရာတော်က ပဋိသမ္ဘိဒါမဂ် ပါဠိတော်နှင့်အညီ ရေးသားတော်မူသည့် မေတ္တာပို့ ဖြစ်သည်။

(၁) အရှေ့အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

(၂) အနောက်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

(၃) မြောက်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံးစိတ်ဝမ်း အေးချမ်းကြပါစေ။

(၄) တောင်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၅) အရှေ့တောင်ထောင့်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၆) အနောက်မြောက်ထောင့်အရပ်၌ရှိသော အနန္တစကြဝဠာအနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၇) အရှေ့မြောက်ထောင့်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၈) အနောက်တောင်ထောင့်အရပ်၌ရှိသော အနန္တစကြဝဠာ အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၉) အောက်အရပ်၌ရှိသော ထက်ဝန်းကျင် အနန္တစကြဝဠာ အပါယ်ဘုံသား အနန္တသတ္တဝါတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

(၁၀) အထက်အရပ်၌ရှိသော ထက်ဝန်းကျင် အနန္တစကြဝဠာ အနန္တ နတ်ဗြဟ္မာတို့-

- ဘေးရန်ခပ်သိမ်း ငြိမ်းကြပါစေ၊
- ဒေါသခပ်သိမ်း ငြိမ်းကြပါစေ၊
- ဆင်းရဲခပ်သိမ်း ငြိမ်းကြပါစေ၊
- နှလုံး စိတ်ဝမ်း အေးချမ်းကြပါစေ။

## မေတ္တာဘာဝနာ (၁၁) မျိုး

ဤ မေတ္တာဘာဝနာ (၁၁)မျိုးကား မေတ္တသုတ် ပရိတ်တော်လာ မေတ္တာပို့နည်း ဖြစ်သည်။ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အဘိဓဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တဝိစိတ္တသာရာ ဘိဝံသ ဆရာတော်က ရွတ်ဆိုလွယ်စေရန် သံပေါက်ကဗျာဖြင့် ရေးဖွဲ့ထားပါသည်။

(၁) လုံးစုံများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ။
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၂) ကြောက်တတ်, မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ။
ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၃) မြင်အပ်, မမြင်အပ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၄) ဝေးနေ နီးနေ၊ နှစ်ထွေများစွာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၅) ဘဝဇာတ်ဆုံး၊ မဆုံးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၆) ရှည်, တို, အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၇) ကြီး, ငယ်, အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၈) ဆူ, ကြုံ, အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ။

ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

(၉) လူအချင်းချင်း၊ လှည့်ပတ်ခြင်း၊ ကင်းရှင်းကြပါစေ။

(၁၀) အထင်သေးခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

(၁၁) ဆင်းရဲလိုခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

မေတ္တာပို့ပြီး၏။

## (၄) ဆုတောင်းအမျှဝေ

မေတ္တာပို့ပြီးသောအခါ အာနာပါန (ထွက်သက် ဝင်သက် ရှုမှတ်မှု) စသော သမထကျင့်စဉ် တစ်မျိုးမျိုးကို ဖြစ်စေ၊ ဝိပဿနာကျင့်စဉ်ကိုဖြစ်စေ ရှုမှတ်ရမည်။

လုပ်ငန်းအားလုံး ပြီးဆုံးပြီးနောက် ပြုလုပ်ပြီးသမျှ ကုသိုလ်ကောင်းမှုနှင့် ပတ်သက်၍ ဖော်ပြလတ္တံ့ပါအတိုင်း ဆုတောင်းပြီး အမျှဝေရမည် ဖြစ်သည်–

- ဤသို့ပြုရ၊ မြတ်ပုညကြောင့်၊ ချမ်းမြအေးကြည်၊ ဘေးမဲ့မည်သည့်၊ ရွှေပြည်ထုတ်ချောက်၊ လမ်းမကောက်ဘဲ၊ ရောက်ရပါလို (တောင်းဆုဆို၏)၊ ထိုထိုတာဝ၊ ကျင်လည်ရလည်း၊ ဒုက္ခဘေးဒဏ်၊ ရန်မာန်အပေါင်း၊ မကောင်းဟူသမျှ၊ မတွေ့ရဘဲ၊ သဗ္ဗဏ္ဏုစ္စာ၊ မင်္ဂလာကို၊ ရွယ်ကာ တ-တိုင်း ရစေသော။
- ယနေ့ယခု၊ ပြုပြုသမျှ၊ မြတ်ဘာဂကို၊ မိဘဆရာ၊ မျိုးသဟာနှင့်၊ ကိုယ်မှာစောင့်ကြပ်၊ ကိုယ်စောင့်နတ်က၊ အရင်း စ၍၊ ရှိသမျှလုံးစုံ၊ ဘုံသုံးဆယ်တစ်၊ ဖြစ်ဖြစ်သမျှ၊ ဝေနေယျတို့၊ ရကြပါစေ၊ ပေးငှဝေသည်၊ များထွေ သာဓုခေါ်စေသော။

ဆုတောင်းအမျှဝေ ပြီး၏။

## (၅) သီလခံယူခြင်း၊ ဘုရားရှိခိုးခြင်း စသည်တို့၏ အကျိုးများ

ဗုဒ္ဓဘာသာဝင်တစ်ဦးသည် နေ့စဉ်နှင့်အမျှ သီလခံယူခြင်း၊ ဘုရားရှိခိုးခြင်း စသော ကုသိုလ်မှုကို ပြုကြ၏။ ယင်းသို့ပြုရခြင်း၏ အကျိုးကျေးဇူးကို သိထားပါမှ မိမိ၏ ကုသိုလ်မှုကို ပိုမို၍ အားတက်ကြည်ညိုနိုင်မည် ဖြစ်သည်။ သို့ဖြစ်၍ ဤသို့ သိမှတ်လွယ်ရုံ အကျဉ်းမျှ ဖော်ပြပါမည်။

## (၁) သီလဆောက်တည်ခြင်း၏ အကျိုး

ဝိမာနဝတ္ထုတော်တွင် ဥတ္တရာနတ်သမီး၊ သောဏဒိန္နာနတ်သမီး၊ ဥပေါသထာနတ်သမီးတို့သည် ဥပုသ်သီလ ဆောက်တည်ကျင့်သုံးသဖြင့် ကြီးကျယ်ခမ်းနားသော နတ်စည်းစိမ်ကို ရရှိကြောင်း ဖော်ပြထား၏၊ ဥပုသ်သီလ ဆောက်တည်သဖြင့် ကောင်းကျိုးရသော အခြားသာဓက ဝတ္ထုများလည်း များစွာ ရှိပေသေး၏။ သို့ဖြစ်၍ ဥပုသ်သီလကို မပြတ် စောင့်ထိန်းသင့်ကြပါသည်။

## (၂) ဘုရားရှိခိုးခြင်း၏ အကျိုး

မြတ်ဗုဒ္ဓ ရှေလက်ထက်တော်အခါက မဋ္ဌကုဏ္ဍလီ အမည်ရှိ လူတစ်ဦးသည် သေလုဆဲဆဲ အိပ်ရာထဲ လဲနေ၏။ ထိုသူသေလျှင် ငရဲသို့ ကျရောက်မည်ဖြစ်ကြောင်း မြတ်ဗုဒ္ဓက မြင်တော်မူ၏။ မြတ်ဗုဒ္ဓသည် ထိုသူအား ကယ်တင်လိုသဖြင့် ထိုသူနေထိုင်ရာ အိမ်ရှေ့သို့ ကြွရောက်ရပ်တန့်ပြီး ရောင်ခြည်တော်တို့ကို လွှတ်တော်မူသည်။ ထိုသူသည် ဘုရားရှင်အား ဖူးမြင်ခွင့်ရသဖြင့် ကြည်ညိုစိတ်ပေါ်လာပြီး အိပ်လျက်ပင် ရှိခိုး၏။ မကြာခင် ထိုသူ သေလွန်လျှင် နတ်ပြည်၌ တစ်ဆယ့်နှစ်ယူဇနာရှိသော ရွှေဗိမာန်ရှင် နတ်သားဖြစ်လေသည်။

---

၁။ ဝိမာန၊ ၃။ မဋ္ဌကုဏ္ဍလီဝိမာန ဝတ္ထု။

ထိုမျှရှိခိုး၍ အကျိုးရသည်ကို ထားဘိဦး၊ သုမေဓာဘုရားလက်ထက်တော်က ဥပါသကာတစ်ဦးသည် သူတပါးတို့အား စေတီတော်ကို ရှိခိုးရန် တိုက်တွန်းသဖြင့် သေလွန်သောအခါ တာဝတိံသာနတ်ပြည်၌ နတ်သားဖြစ်ရလေသည်။[၁]

## (၃) မေတ္တာပို့သခြင်းအကျိုး

ဗုဒ္ဓရှင်တော်ဘုရား လက်ထက်တော်အခါက တောကျောင်းနေ ရဟန်းငါးရာတို့ကို နတ်ဘီလူးတို့က ခြောက်လှန့်ကြ၏။ ထို့ကြောင့် ရဟန်းတို့သည် တရားအားထုတ်သော်လည်း တရားထူးကို မရနိုင်ကြ။ မြတ်ဗုဒ္ဓက ထိုရဟန်းတို့အား နတ်ဘီလူးတို့ ခြောက်လှန့်မှုမပြုရန် မေတ္တသုတ်ပရိတ်တော်ကို ဟောကြားသင်ပြတော်မူသည်။ ထိုရဟန်းတို့သည် မေတ္တသုတ် ပရိတ်တော်ကို ရွတ်ဆို၍ မေတ္တာပို့သဖြင့် နတ်ဘီလူးတို့ ခြောက်လှန့်မှု ကင်းဝေးခဲ့၏။

ထိုမျှ သာမက မေတ္တာ၏ အကျိုး (၁၁)မျိုးကို ရရှိနိုင်ကြပေသေးသည်။ ယင်းတို့ကား–

(၁) ချမ်းသာစွာ အိပ်ရခြင်း၊
(၂) ချမ်းသာစွာ နိုးထရခြင်း၊
(၃) အိပ်မက်ဆိုးကို မမြင်မက်ခြင်း၊
(၄) နတ်တို့က စောင့်ရှောက်ခြင်း၊
(၅) လူအများ ချစ်ခင်ခြင်း၊
(၆) မီးဘေး မသင့်နိုင်ခြင်း၊
(၇) အဆိပ်, လက်နက် မသင့်ရောက်နိုင်ခြင်း၊
(၈) စိတ်တည်ကြည်ခြင်း၊
(၉) မျက်နှာကြည်လင်ခြင်း၊
(၁၀) တွေဝေစွာ မသေရခြင်း၊
(၁၁) သေလွန်လျှင် ဗြဟ္မာ့ပြည် ရောက်နိုင်ခြင်း–

ဟူ၍ တစ်ဆယ့်တစ်ပါးရှိကြောင်း ပြဆိုထားပါသည်။

## (၄) ဆွမ်းကပ်လှူရခြင်းအကျိုး

ရာဇဂြိုဟ်ပြည်၌ အာစာမ ဒါယိကာ အမျိုးသမီးသည် သူဌေးအိမ်မှ စားကြွင်းစာကျန် ထမင်းချိုးကို ရသဖြင့် အရှင်မဟာကဿပအား လှူဒါန်း၏။

[၁]။ ဝိမာန၊ ၄။ အနေကဝဏ္ဏနတ်သား ဝတ္ထု။

ထိုကုသိုလ်ကြောင့် သေလွန်လျှင် နိမ္မာနရတိနတ်ပြည်၌ နတ်သမီးဖြစ်ရလေသည်။[၁] ဆွမ်းလှူသူများ ရရှိသော အခြားသာကေဝတ္ထု များစွာ ရှိသေး၏။

ဆွမ်းလှူသဖြင့် ရရှိနိုင်သော အကျိုးတရား (၅)မျိုးကိုလည်း အင်္ဂုတ္တိုရ် ပါဠိတော် ဘောဇနသုတ်တွင် ပြဆိုထားပါသည်။ ယင်းတို့မှာ-

(၁) အသက်ရှည်ခြင်း၊
(၂) အဆင်းလှခြင်း၊
(၃) ကိုယ်စိတ်ချမ်းသာခြင်း၊
(၄) ခွန်အားဗလ ကြီးမားခြင်း၊
(၅) ဉာဏ်ပညာ ကြီးမားခြင်းတို့ ဖြစ်သည်။

## (၅) ရေချမ်းကပ်လှူရခြင်းအကျိုး

မြတ်ဗုဒ္ဓ ရှေ့လက်ထက်တော်က သာဝတ္ထိမြို့နယ်ရှိ ကျေးရွာတစ်ရွာမှ အမျိုးသမီး တစ်ဦးသည် ဘုရားဖူးခရီးသည် ရဟန်းတော်များအား ရေလှူသဖြင့် သေလွန်လျှင် တာဝတိံသာ နတ်ပြည်၌ နတ်သမီးဖြစ်ပြီး ခမ်းနားကြီးကျယ်သော နတ်စည်းစိမ်ကို ခံစားရလေသည်။[၂]

ထို့ပြင် ရေအကျိုး ဆယ်ပါးရှိကြောင်း လူအများ သိကြ၏။ ယင်းတို့ကား-

(၁) လျင်မြန်ခြင်း၊
(၂) သန့်ရှင်းစင်ကြယ်ခြင်း၊
(၃) ကျော်ကြား လူသိများခြင်း၊
(၄) ဆာလောင် မွတ်သိပ်မှု ကင်းခြင်း၊
(၅) အခြွေအရံများခြင်း၊
(၆) အသက်ရှည်ခြင်း၊
(၇) အဆင်းလှခြင်း၊
(၈) ချမ်းသာကြီးခြင်း၊
(၉) ခွန်အားဗလ ကြီးမားခြင်း၊
(၁၀) ဉာဏ်ပညာ ကြီးမားခြင်းတို့ ဖြစ်ပါသည်။

---

၁။ ဝိမာန၊ ဋ္ဌ။ အာစာမဒါယိကာဝတ္ထု။ ၂။ ဝိမာန၊ ဋ္ဌ။ လေ့ယာဉ်စီး နတ်သမီးဝတ္ထု။

## (၆) ပန်းလှူရခြင်းအကျိုး

ကဿပမြတ်စွာဘုရား လက်ထက်တော်က အမျိုးသမီး လေးယောက်သည် ရဟန်းတစ်ပါးအား ပန်းတို့ကို လှူဒါန်းကြ၏။ သေလွန်လျှင် ထိုကုသိုလ်ကြောင့် ဘာဝတိံသာနတ်ပြည်၌ နတ်သမီးဖြစ်ပြီး နတ်စည်းစိမ်ကို ခံစားကြရလေသည်။ ဤသို့ဖြင့် ထိုနတ်ပြည်မှာ ဆက်ကာ ဆက်ကာ ဖြစ်ရပြီး ဤဘုရားလက်ထက်တွင် နတ်သမီးဘဝဖြင့် တရားနာကြရကာ သောတာပန်ဖြစ်ကြလေသည်[၁]။

ပန်းလှူသဖြင့် ရရှိနိုင်သော အခြား အကျိုးများလည်း ရှိသေး၏။ ယင်းတို့ကား–

(၁) ရုပ်ရည်လှပခြင်း၊

(၂) ကိုယ်ခန္ဓာသန့်ရှင်းခြင်း၊

(၃) ခံတွင်း မွှေးကြိုင်ခြင်းတို့ ဖြစ်သည်။

## (၇) ဆီမီးလှူရခြင်းအကျိုး

ဂေါတမဗုဒ္ဓလက်ထက်တော်အခါက သာဝတ္ထိပြည်သူတစ်ဦးသည် တရားပွဲ၌ ဆီမီးညှိထွန်း လှူဒါန်းသဖြင့် သေလွန်သောအခါ တာဝတိံသာ နတ်ပြည်၌ ဖြစ်ရလေသည်[၂]။

ဆီမီးထွန်းသဖြင့် ရရှိနိုင်သော အခြား အကျိုးများလည်း ရှိပေသေး၏။ ယင်းတို့ကား–

(၁) ပကတိ မျက်စိကြည်လင်ခြင်း၊

(၂) ဉာဏ်(မျက်စိ) ကြည်လင်ခြင်းတို့ ဖြစ်သည်။

## (၃) ဗုဒ္ဓဘာသာဝင်တစ်ဦး၏ တစ်နေ့တာကာလ

ဖော်ပြခဲ့သည့်အတိုင်း ဗုဒ္ဓဘာသာဝင်တစ်ဦးသည် အရုဏ်ဦးအခါ မေတ္တာဖြင့် နိုးထ၍ သီလခံယူခြင်း၊ ဘုရားရှိခိုးခြင်း စသော ကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်ရမည်။ ယင်းနောက် **စီးပွားရေး**၊ လူမှုရေး၊ အမျိုးဘာသာ သာသနာရေးတို့ကို ဆောင်ရွက်ကြရမည် ဖြစ်ပေသည်။ ဤသို့ဖြင့် တစ်နေ့တာ ကုန်ဆုံး၍ ညအိပ်ရာ

---

၁။ ဝိမာန၊ ဋ္ဌ။ ပန်းလှူသော နတ်သမီးလေးယောက် ဝတ္ထု။

၂။ ဝိမာန၊ ဋ္ဌ။ ဇောတိသရ နတ်သမီးဝတ္ထု။

ဝင်သောအခါ အရှက်ဦးကာလကကဲ့သို့ပင် သီလခံယူခြင်း၊ ဘုရားရှိခိုးခြင်း စသော ကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်ရမည်။

ဤသို့ ပြုလုပ်ခြင်းဖြင့်–

"ဥစ္စာပေါမှု၊ ကုသိုလ်ပေါရာ၊
ပညာပေါငြား၊ ပေါသုံးပါးကို၊
မနားမနေ ကြိုးစားလေ"––

ဟူသော အဆုံးအမကို လိုက်နာကျင့်ကြံရာရောက်ပေသည်။

ထိုသူမျိုးသည် သောက်စားရမ်းကားခြင်း စသော မကောင်းမှုမျိုးကို ပြုလုပ်ရန် နေရာရှိမည်မဟုတ်။ ဗုဒ္ဓဘာသာဝင်တိုင်းသည် ထိုသို့ ကျင့်ကြံနေထိုင်ရမည် ဖြစ်ပါသည်။ ဤသို့ဖြစ်လျှင် ထိုသူမျိုးတို့ နေထိုင်ရာ မြို့ရွာနိုင်ငံသည် အဘယ်မှာ မငြိမ်းချမ်း မသာယာဘဲ နေပါတော့မည်နည်း။ သို့ဖြစ်၍ လူသားလောက ငြိမ်းချမ်း သာယာမှု ရစေရန်အတွက် ဗုဒ္ဓဘာသာဝင်များသည် ဗုဒ္ဓဘာသာဝင်တို့ နေထိုင် ကျင့်ကြံနည်းဖြင့် တစ်နေ့တာကာလကို ကုန်လွန်စေရမည် ဖြစ်ပါသည်။

ကောင်းသောအလုပ် (ကုသိုလ်ကံ)၊ ဆိုးညစ်သောအလုပ် (အကုသိုလ်ကံ) တို့၏ အကျိုးတရား ဖြစ်ထွန်းစေမှုနှင့် ပတ်သက်၍ ဓမ္မပဒဒေသနာတော်တွင် မြတ်ဗုဒ္ဓက ဤသို့ ဟောကြားထား၏-

ပါပေါပိ ပဿတိ ဘဒြံ၊ ယာဝ ပါပံ န ပစ္စတိ။
ယဒါ စ ပစ္စတိ ပါပံ၊ အထ ပါပေါ ပါပါနိ ပဿတိ။

(ဂါထာ-၁၁၉)

မကောင်းမှုကို ပြုလုပ်ထားသူပင် ဖြစ်လင့်ကစား ထိုအကုသိုလ်ကံ ရင့်ကျက်လာပြီး ဆိုးပြစ်ကို ဖော်ထုတ်၍မပေးမီ အချိန်ပိုင်း၌ ချမ်းသာသုခကို တွေ့မြင် ခံစားနေရသေး၏။ သို့သော်လည်း ပြုလုပ်ခဲ့သော ဒုစရိုက်ကံ ရင့်ကျက်၍ သူ၏ သတ္တိကို ပြသလာသောအခါ ဆိုးညစ်သော ကံပိုင်ရှင်သည် ယုတ်မာဆိုးဝါးသော ဆင်းရဲဒုက္ခ အမျိုးမျိုးကို တွေ့မြင်ခံစားရတော့သည်။

ဘဒြောပိ ပဿတိ ပါပံ၊ ယာဝ ဘဒြံ န ပစ္စတိ။
ယဒါ စ ပစ္စတိ ဘဒြံ၊ အထ ဘဒြော ဘဒြာနိ ပဿတိ။

(ဂါထာ-၁၂၀)

ကောင်းသောအမှုကို ပြုလုပ် ဆောင်ရွက်ထားသည် ဖြစ်လင့်ကစား ထို ကောင်းမှုကုသိုလ်ကံ မရင့်ကျက်သေးသဖြင့် ကောင်းကျိုးသုခကို ပေးအပ် ဆက်နွှင်းနိုင်ခြင်းမရှိသေးမီအတွင်း ဆင်းရဲဒုက္ခကို တွေ့ကြုံရတတ်သေး၏။ သို့တစေလည်း ပြုထားသော ကုသိုလ်ကံရင့်ကျက်လာ၍ သူ၏အကျိုး ကရားကို ဖော်ထုတ်လာသောအခါ သုစရိုက်ကံသခင် လူသားသည် ချမ်းသာသုခ ဟူသမျှကို အားရပါးရ တွေ့မြင်ခံစားရပေသည်။

ကြားကာလတွင် စံစား ခံစားရသော အကျိုးတရားများမှာ ယခင့် ယခင်က ပြုလုပ်ခဲ့ပြီး ရင့်ကျက်သော ကံတစ်မျိုးမျိုးကြောင့်လည်းကောင်း၊ ဥတုဗီဇနိယာမ အကြောင်းဆက်ကြောင့်လည်းကောင်း ဖြစ်ပေ၏။

အထက်ပါ ဒေသနာတော်၌ "ယာဝ ပါပံ န ပစ္စတိ၊ မကောင်းမှုကံ ရင့်ကျက်မှု မဖြစ်မီ" " ယာဝ ဘဒြံ န ပစ္စတိ၊ ကောင်းမှုကံ မရင့်ကျက်မီ" ဟူသောစကားတို့မှာ ကံတစ်ခုသည် ရင့်ကျက်လာမှသာ အကျိုးကို ဖြစ်စေနိုင်သည် (ဝါ) ရေတီး စပ်သလို လတ်တလော တစ်ထိုင်တည်း အကျိုးပေးနိုင်ခြင်းမရှိဟု ထင်ထင်ရှားရှား ဟောပြထားခြင်းဖြစ်၏။

ဤသို့ တိုက်ရိုက် ဟောပြထားသော ဘုရားမြတ်၏ တရားတော်အရ လည်းကောင်း၊ နေ့စဉ် တွေ့မြင်နေကြရသော လက်တွေ့ကျသည့် အချက်အလက် ပေါ် သုံးသပ်၍လည်းကောင်း ကံတစ်ခုသည် ချက်ချင်းလက်ငင်း ဒရောသောပါး အကျိုးကို မပေးဆပ်နိုင်ကြောင်း ယထာဘူတ ကျကျ ဗုဒ္ဓဘာသာဝင်များက ခံယူထားကြပေသည်။

ထိုမှတပါး တာဝတိံသာနတ်ပြည်၌ မယ်တော်မိ နတ်သားနှင့်တကွ နတ်ဗြဟ္မာ ပညာရှိများအားလည်းကောင်း၊ လူ့ပြည်တွင် လက်ယာတော်ရံ ရှင်သာရိပုတ္တရာအား လည်းကောင်း၊ ရှင်သာရိပုတ္တရာမှ တစ်ဆင့် ရဟန်းငါးရာတို့အား လည်းကောင်း စတင်ဖော်ထုတ်ဟောပြခဲ့သော သဘာဝဒေသနာတော်ဖြစ်သည့် အဘိဓမ္မာ တရားတော်အရလည်း ကံအကျိုးတရား၏ သန့်စင် ဖွားမြောက်လာပုံ အခါကာလ အမျိုးမျိုး သိရှိမှတ်သားနိုင်ပေသေးသည်။

## ကံအမျိုးမျိုး (ကမ္မဘေဒ)

### ချိန်ကွဲကျိုးပန် ကံသုံးတန်

ကောင်းမှုကံဖြစ်စေ၊ မကောင်းမှုကံဖြစ်စေ ကံတစ်ခုသည် သူ၏အကျိုး တရားကို-

(၁) လက်ရှိဘဝအတွင်း တချိန်ချိန်မှာ ဖော်ထုတ်သည်လည်း ရှိ၏။ ၎င်းကို ဒိဋ္ဌဓမ္မဝေဒနီယကံဟု ပါဠိလိုခေါ်၏။ မျက်မှောက်ဘဝမှာပင် အကျိုးကို ခံစံနိုင်စေရန် စွမ်းရည်ရှိသောကံဟူ၍ ဆိုလို၏။

(၂) အချို့သောကံသည် ပစ္စက္ခဘဝ၌ အကျိုးတရားကို ထုတ်ဆောင် အပ်နှင်းနိုင်ခြင်း မရှိ၊ ဒုတိယ ဘဝကျမှသာ ၎င်းတန်ခိုးကို ပြသနိုင်၏။ ဤကံမျိုးကိုမူ နောက်ဘဝကျမှ ခံ,စံရမည့်အကျိုးကို ဖြစ်ထွန်းစေသည့်အတွက် ဥပပဇ္ဇဝေဒနီယကံဟူ၍ သတ်မှတ်ပါသည်။

(၃) ကံတစ်မျိုးမှာမူ ယခု ဘဝမှာရော နောက်ဘဝမှာပါ သူ၏ အကျိုးတရားကို ထုတ်ဖော်နိုင်ခြင်း မရှိ၊ ရင့်ကျက်ရန် အချိန် လိုနေသေးသောကြောင့် ဖြစ်၏။ ထိုကံမျိုးသည် တတိယဘဝမှ စ၍ ကံပိုင်ရှင် လူသား နိဗ္ဗာန်မရ မရောက်သေးမီ ကြားကာလ တချိန်ချိန်၌ အကျိုးပေးရန် အားစုနေရပေသည်။ အားပြည့်၍

ရင့်ကျက်လာသည်နှင့် တပြိုင်နက် ကောင်းသောကံ ဖြစ်က ကောင်းကျိုး ချမ်းသာသီးပွင့်ကို ဝေဆာစေပြီး ဆိုးညစ်သော အကုသိုလ်ဖြစ်က မကောင်းကျိုးကို အငြိုးနှင့် ဖော်ထုတ်ပေသည်။ "အပရာပရိယ ဝေဒနီယကံ" ဟူသည်မှာ ဤကံမျိုးဖြစ်ပေသည်။

ဆိုခဲ့ပါ ကံတို့သည် မိမိတို့ သက်ဆိုင်ရာ အချိန်ပိုင်းအတွင်း၌ အကျိုးပေးရ စမြဲ ဖြစ်၏။

အဘိဓမ္မာပါဠိတော် ကထာဝတ္ထု၌-

ဒိဋ္ဌဓမ္မဝေဒနီယံ ကမ္မံ ဒိဋ္ဌဓမ္မဝေဒနီယဋ္ဌေန နိယတန္တိ၊ အာမန္တာ- စသည်ဖြင့် ဝေဖန်ဟောပြောထား၏။

မျက်မှောက်ဘဝတွင် အကျိုးပေးနိုင်စွမ်းရှိသော ကံတစ်ခုသည် မျက်မှောက် ဘဝမှာပင် အကျိုးပေးခြင်းသဘောနှင့် မြဲရဲ့လား (ဝါ) မျက်မှောက်ဘဝမှာပင် အကျိုးပေးရဲ့လားဟု မေးသော်-

အစွမ်းရှိသောကံသည် သူ၏အကျိုးကို ထုတ်ဖော်ရန် ပျက်ကွက်ခြင်း မရှိပါ၊ မြဲပါသည်၊ အကျိုးပေးပါသည်ဟု ဖြေဆိုရပါမည်။

ဤတွင် သက်ဆိုင်ရာ အချိန်ပိုင်းနှင့် ကံ၏ ရင့်ကျက်မှုအရည်အချင်းကို သတိပြုရန် လို၏။ သက်ဆိုင်ရာ အချိန်ပိုင်း၌ ရင့်ကျက်မည့်ကံသည် တကယ်ရင့်ကျက်လာပါက ယင်းသို့ ရင့်ကျက်သည်နှင့် တပြိုင်နက် အကျိုးတရားကို ဖြစ်ထွန်းစေသည်။ ရင့်ကျက်ပြီးနောက် အချိန်ဆွဲနေသည် (ဝါ) ရင့်ကျက်ပြီးမှ အကျိုးမပေးလိုက်ရဘဲ ပျက်စီးသွားသည်ဟူ၍ မရှိချေ။

**အဟောသိကံ**

သို့သော် သက်ဆိုင်ရာ အချိန်ပိုင်းအတွင်း၌ မရင့်ကျက်နိုင်သော ကံတို့လည်း ရှိပေသည်။ ရင့်ကျက်ဖို့ အလားအလာ ရှိသော်လည်း မိမိထက် အားကြီးလှသော ဆန့်ကျင်ဘက်ကံတစ်မျိုးမျိုးတို့က (အကုသိုလ်ကံနှင့် ကုသိုလ်ကံ ဆန့်ကျင်ဘက်ဘည်း) အလဲထိုးလိုက်သဖြင့် ပျက်စီးသွားရသော ကံတို့လည်း ရှိပေ၏။

ယင်းသို့ မရင့်ကျက်နိုင်သောကံ၊ အဖျက်အဆီး ခံရသောကံတို့သည် မိမိတို့နှင့် သက်ဆိုင်ရာ ကောင်းကျိုးဆိုးပြစ်ကို ဖော်ထုတ်နိုင်သည့် အခွင့်အရေးကို

စွန့်လွှတ်ကြရ၏။ ကံအနေဖြင့် ဖြစ်ခဲ့ရသော်လည်း အကျိုးတရားကို ဖော်ထုတ်နိုင်ခြင်း မရှိတော့သောကြောင့် အလကားကံ၊ အချည်းနှီးကံတို့ ဖြစ်ရသည်။ အပွင့်သာပွင့်နိုင်ပြီး အသီးအဖြစ်သို့ မရောက်လာနိုင်သကဲ့သို့တည်း။ ဥသာဖြစ်လာပြီး အကောင်မပေါက်နိုင်သည့် လေဥ ပမာတည်း။ ဤသို့သော ကံမျိုးကို ပါဠိလို " အဟောသိကံ" ဟူ၍ ခေါ်ပေသည်။

ဤ၌ ရှင်အင်္ဂုလိမာလ၏ လူသတ်မှု အကုသိုလ်ကံတို့သည် ရှင်အင်္ဂုလိမာလ ရဟန္တာဖြစ်သွား၍ အကျိုးမပေးနိုင်သောကြောင့် အဟောသိကံဖြစ်သွားပုံကို သတိရနိုင်၏။

အဘိဓမ္မာနည်းအရ ဝီထိတစ်ခုတွင် ပါဝင်သော ဇောစိတ်ခုနစ်ကြိမ်အနက် ပထမဇောစိတ်နှင့်ယှဉ်သော စေတနာကံသည် ဒိဋ္ဌဓမ္မအကျိုးပေး၏။

သတ္တမဇောနှင့်ယှဉ်သော စေတနာကံသည် ဥပပဇ္ဇဝေဒနီယ (ဒုတိယဘဝ၌ အကျိုးပေးသောကံ) ဖြစ်၏။ အလယ်ဇော (၅)ချက်နှင့်ယှဉ်သော စေတနာကံတို့သည် အပရာပရိယဝေဒနီယ (နိဗ္ဗာန်မရမီ ဘဝတစ်ခုခု၌ အကျိုးပေးသောကံ) ဖြစ်သည်။ ထိုကံတို့သည်ဗင် မရင့်ကျက်နိုင်လျှင် အဟောသိကံ ဖြစ်သွားကြသည်။

ဤ၌ အရေးကြီးသော သင်ခန်းစာမှာ အကုသိုလ်လုပ်မိလျှင် မတိုးပွားအောင် တိုတိုနှင့်ဖြတ်၊ ကံ မရင့်ကျက်နိုင်၍ (အားမကောင်း၍) အကျိုးမပေးနိုင်ဘဲ အဟောသိကံဖြစ်ပွားလိမ့်မည်။ ကုသိုလ်ကောင်းမှုလုပ်ပြီးလျှင် အထပ်ထပ် ပွားအောင် အားဆင့်ပေး၊ သို့မှသာ အားစွမ်းရည် တိုးတက် ရင့်ကျက်လာပြီး ကောင်းကျိုးပေးမည်။ ဤအချက်ကို အထူးမှတ်သား၍ လက်တွေ့ကျင့်သုံးသင့်ပေသည်။

**လေးပါးအင်္ဂါ**

ဒိဋ္ဌဓမ္မဝေဒနီယကံနှင့် ပတ်သက်၍-

(၁) စေတနာစင်ကြယ်ထက်သန်ခြင်း၊

(၂) တရားသဖြင့်ရရှိထားသော လှူဖွယ်ဝတ္ထုဖြစ်ခြင်း၊

(၃) အလှူခံပုဂ္ဂိုလ်မှာ အနာဂါမ်၊ သို့မဟုတ် ရဟန္တာဖြစ်ခြင်း၊

(၄) နိရောဓသမာပတ်မှ ထပြီးခါစဖြစ်ခြင်း-

ဤအင်္ဂါလေးရပ်နှင့် ပြည့်စုံသော ဒါနကုသိုလ်ကံသည် ခုနစ်ရက်အတွင်း အကျိုးပေးမြဲ ဖြစ်သည်။ သို့သော် အင်္ဂါ (၃) နှင့် (၄) သည် ယခုခေတ်၌ ပြည့်စုံရန် မလွယ်ပေ။

အထက်တွင် သုံးသင်ဖော်ပြခဲ့ပြီးသော ပါဠိတော်ကြီးများ၏ အဆိုအမိန့်အရ မည်သည့်ကံမျှ လောလောလတ်လတ် အကျိုးမပေးနိုင်ကြောင်း နားလည်နိုင်ပြီ။

လက်တွေ့ကျသော အဖြစ်အပျက် အထောက်အထားများ အရလည်း အလုပ်(ကံ)ကို လုပ်လျှင်လုပ်ချင်း စက္ကန့်မဆိုင်း,မိနစ်မဆိုင်း ဝုန်းဝုန်းဒိုင်းဒိုင်း ချက်ချင်း အကျိုးပေးခြင်း မရှိကြောင်း ပြတ်သားစွာ သိမြင်နိုင်ကြ၏။

ပါဏာတိပါတကံကို အခုကျူးလွန်၊ ခု–ချက်ချင်း အသက်တို၊ ခု–ရောဂါထူပြောခြင်း မရှိမှု၊ ခု–အလှူပေး၊ ခု–ထပြီး ချမ်းသာခြင်း မရှိမှု၊ ခု–ဝါပင်စိုက်၊ ခု–ချက်ချင်း အဝတ်အထည်ဖြစ်လာခြင်း မရှိနိုင်မှု စသောအားဖြင့် အလုပ်(ကံ)နှင့် ဆိုင်ရာ စဉ်းစားပါလေ။

အကျဉ်းချုပ်အားဖြင့် ရိုးရိုးကမ္မဝါဒနှင့် ပတ်သက်၍ ကျမ်းဂန်များအရ လည်းကောင်း၊ လက်ရှိလောကဖြစ်ရပ်များအရလည်းကောင်း အလုပ်(ကံ) တစ်ခု သည် ပူပူလောလော အကျိုးပေးနိုင်ခြင်းမရှိ၊ အကျိုးပေး မြန်ဆန်လှသော ကံသော်မှ ခုနစ်ရက်အတွင်း၌ အကျိုးပေးသည်။ ဘာအကျိုးကိုမျှ ပေးအပ်ခြင်းမရှိသော ရင့်ကျက်ခွင့် မရသည့် ကံတွေလည်း ရှိသည်ဟု သိရပေသည်။

## ကံကိစ္စလေးမျိုး

အထက်တွင် တင်ပြခဲ့သည်မှာ လူသားတို့ နေ့စဉ်လုပ်ကိုင်ပြောဆိုမှု တွေးကြံမှု၌ စိတ်ဖြစ်တိုင်း ပါဝင်နေသော စေတနာကံ၏ အကျိုးပေးချိန်ကာလကို ခွဲပြခဲ့ခြင်း ဖြစ်၏။

ဤစေတနာကံသည် အကျိုးပေးချိန် ကာလအားဖြင့်သာ ကွဲပြားသည် မဟုတ်သေး၊ ဆောင်ရွက်ချက်လုပ်ငန်းအနေဖြင့်လည်း ကွဲပြားလျက်ရှိသည်။ အကျိုး တရပ်ကို ကိုယ်တိုင် ဖြစ်ပေါ်စေသည့် ကံမျိုးလည်းရှိ၏။ စိတ်ဟူ ရုပ်ဟူကို ထိုက်သင့်သလို ဖြစ်ပေါ်စေသည့် ဤကံမျိုးကို "ဇနကကံ"ဟု ခေါ်ပါသည်။ တချို့ကံမှာမူ မိမိကိုယ်တိုင် အကျိုးကို မဖြစ်စေဘဲ အခြားကံမှ အကျိုးပေးခွင့် ရအောင် ကူညီပေးပါသည်။ ဤကံကို "ဥပတ္ထမ္ဘကကံ" ဟု ဆိုပါသည်။ ကုသိုလ် ကံက အခြားသော ကုသိုလ်ကံကို ထောက်ခံပေးပြီး အကုသိုလ်ကံက အခြားသော အကုသိုလ်ကံ ရင့်ကျက် အားသန်လာအောင် ကူညီပါသည်။

အချို့သော ကုသိုလ်ကံသည် အကုသိုလ်ကံ အကျိုးပေးခွင့် မရှိအောင်၊ ပေးထားသည့်အကျိုး မဖွံ့ဖြိုးအောင် ကပ်၍ နှိပ်စက်တတ်သည်။ အချို့သော

အကုသိုလ်ကံလည်း ကုသိုလ်ကံအကျိုး မပေးရအောင်၊ အကျိုး မပွံ့ဖြိုး မထွန်းကား အောင် ကပ်၍ ညှဉ်းဆဲတတ်ပြန်ပါသည်။ ထိုသို့ အခြားသောဆန့်ကျင်ဘက်ကံကို နှိပ်စက်ဟန့်တားသည့် ကံနှစ်မျိုးကို "ဥပပီဠကကံ"ဟု သတ်မှတ်ကြ၏။

အင်အားကြီးလှသည့် ကုသိုလ်ကံသည် အကုသိုလ်ကံစွမ်းကို တခါတည်း ဖြတ်ချ တတ်၏။ အားကြီးသော အကုသိုလ်ကံကလည်း အားပျော့သော ကုသိုလ်ကံသတ္တိ စွမ်းရည်ကို ပယ်ဖျက်နိုင်သည်။ ကံတစ်ပါး၏ စွမ်းရည်ကို ဟန့်တားဖျက်ဆီးသော ဤကံမျိုးကို "ဥပစ္ဆေဒကကံ" ဟု သတ်မှတ်ကြသည်။

ခန္တိဝါဒီရှင်ရသေ့ကို စော်ကား၍ ကလာဗုမင်း မြေမျိုသေရခြင်းသည် ကုသိုလ်ကံ အကျိုးဖြစ်သော လူ့ဘဝမင်းအဖြစ်ကို အကုသိုလ်ကံက ဖြတ်ချလိုက်ခြင်း ဖြစ်သည်။ ရှင်အင်္ဂုလိမာလ အရဟတ္တမဂ်ဉာဏ် (ကုသိုလ်)ကို ရသောအခါ လူသတ်မှုအကုသိုလ် များ ပျက်ပြယ်ကုန်၏။ ကုသိုလ်က အကုသိုလ်ကံကို သတ်ခြင်းမျိုးတည်း။ ဤကား လုပ်ငန်းကိစ္စအားဖြင့် ကံလေးမျိုးခွဲခြင်းဖြစ်သည်။

## အလှည့်ကျဘာဝန်ယူသော ကံလေးမျိုး

လာမည့်ဘဝသစ်၌ အလှည့်ကျ အကျိုးပေးမှုနှင့် စပ်လျဉ်း၍လည်း "ကံ" လေးမျိုးခွဲကြသေး၏။ မိဘကို သတ်ခြင်းကဲ့သို့ အပြစ်ကြီးလေးသော "ပဉ္စာနန္တရိယကံ" စျာန်ရခြင်းကဲ့သို့ ထွတ်မြတ်သော "မဟဂ္ဂုတ်ကံ" တို့သည် အခြားမည်သည့်ကံကိုမျှ အခွင့်မပေးဘဲ မိမိတို့ကိုယ်တိုင် ပဋိသန္ဓေကျိုး ပေးကြသည်။ ဤကံမျိုးကို "ဂရုကံ" (အင်အားစွမ်းရည် ကြီးလှသောကံ)ဟု ခေါ်သည်။

ကြီးလေးသည့်ကံ မရှိသောသူများ၌ သေခါနီးတွင် ပြုလုပ်သော၊ သေခါနီးတွင် ပေါ်လာသော (ကုသိုလ်၊ သို့မဟုတ် အကုသိုလ်)ကံက ဘဝသစ်၌ အကျိုးပေး၏။ ပဋိသန္ဓေဝိညာဉ်ကို ဖြစ်စေ၏။ ဤကံမျိုးကို "အာသန္နကံ"ဟု ခေါ်၏။ ဘဝကူး ကောင်းရေးအတွက် အထူးသတိပြုရမည့်အချက်တည်း။

အကယ်၍ သေခါနီး၌ ထူးထူးခြားခြား အာသန္နကံမရှိလျှင် တစ်ဘဝတာလုံး မိမိလေ့ကျင့်ခဲ့သည့် (ကုသိုလ်၊ သို့မဟုတ် အကုသိုလ်ကံ) ကံတစ်မျိုးမျိုးက ဝင်လာပြီး ဘဝသစ်အတွက် အကျိုး(ပဋိသန္ဓေဝိညာဉ်)ကို ဖြစ်စေသည်။ ဤကံမျိုးကို "အာစိဏ္ဏကံ" (အလေ့အကျက်များခဲ့သောကံ)ဟု ဆိုသည်။

ထိုသုံးမျိုးမှ အလွတ်ဖြစ်သော ကံတစ်မျိုးကို "ကဋတ္တာကံ" (ပြုကာမတ္တဖြစ်ကာ မတ္တကံ)ဟု ခေါ်လေသည်။ အထက်ပါ ကံသုံးမျိုး အကျိုးပေးခွင့် မကြုံလျှင် ဤကဋတ္တာကံများက အကျိုးပေးကြလေသည်။

[နေ့စဉ်ဘဝတွင် လက်တွေ့အသုံးကျရုံမျှ အကျဉ်းတင်ပြပါသည်။ အကျယ်ကိုမူ အဘိဓမ္မတ္ထသင်္ဂြိုဟ် စသည်၌ ရှုပါ]

## ကံချင်းမတူ လူချင်းမတူ

ဘုရားရှင်လက်ထက်ဝယ် သုဘလုလင်သည် လူချင်းတူပါလျက် တစ်ဦးနှင့် တစ်ဦး အကျိုးပေးထူးခြားပုံကို မြင်ရသဖြင့် မရှင်းလင်းသည့်အတွက် တစ်ဆယ့်လေးချက်သော ပြဿနာတို့ကို လျှောက်ထားရာ၌ ဘုရားရှင်ဖြေတော်မူပုံကို ယခု ရဟန်းရှင်လူအများ နားလည်သဘောပေါက်စေရန် အကျဉ်းချုံး၍ ရေးသားဖော်ပြပါမည်-

### ၁။ အချို့မှာ အသက်တိုရခြင်း

ဤလောက၌ အချို့သော မိန်းမယောက်ျားတို့သည် သတ္တဝါတို့အပေါ်၌ သနားခြင်းကင်းမဲ့လျက် သူတပါး၏အသက်ကို ရက်ရက်စက်စက် သတ်ဖြတ်လေ့ရှိ၏။ ထိုသူမျိုးသည် သေလျှင် ငရဲသို့ ကျရောက်တတ်၏။ (ရှေးက ကုသိုလ်ကံ တစ်ခုခု၏ ထောက်ပံ့မှုကြောင့်) ငရဲသို့ မကျဘဲ လူ့ပြည်သို့ရောက်လျှင် ကြာရှည်စွာ နေခွင့်မရ။ အသက်တိုရလေသည်။

### ၂။ အချို့မှာ အသက်ရှည်ရခြင်း

ဤလောက၌ အချို့သော မိန်းမယောက်ျားတို့ကား သတ္တဝါတို့အပေါ်၌ သနားကြင်နာ ကရုဏာထားလျက် သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။ ထိုသူများသည် သေလျှင် အထက်နတ်ပြည်သို့ ရောက်ရတတ်၏။ နတ်ပြည်မရောက်ဘဲ လူ့ပြည်သို့ ရောက်ပြန်လျှင်လည်း အသက်ရှည်စွာ နေကြရလေသည်။

### ၃။ အချို့မှာ အနာရောဂါများရခြင်း

ဤလောက၌ အချို့သော မိန်းမယောက်ျားတို့သည် တစုံတယောက်သော သတ္တဝါကို လက်ဖြင့်သော်လည်းကောင်း၊ ခဲ,တုတ်,ဓားး စသော လက်နက်ဖြင့်သော်လည်းကောင်း ညှဉ်းဆဲလေ့ရှိ၏။ ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ ရောက်ရလျှင် ရောဂါထူပြော အနာပေါလေသည်။

## ၄။ အချို့မှာ အနာရောဂါကင်းရှင်းရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် တစုံတယောက်သော သတ္တဝါကို လက်ဖြင့်သော်လည်းကောင်း၊ ခဲ,တုတ်,ဓားစသော လက်နက်တို့ဖြင့် သော်လည်းကောင်း ညှဉ်းဆဲနှိပ်စက်လေ့မရှိ။ ထိုသူမျိုးသည် သေလျှင် အထက် နတ်ပြည်သို့ ရောက်ရတတ်၏။ နတ်ပြည် မရောက်ဘဲ လူ့ပြည်ရောက်လျှင်ကား အနာရောဂါ ကင်းရှင်းရပေသည်။

## ၅။ အချို့မှာ အရုပ်ဆိုးရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် အလွန်ဒေါသကြီး၏။ အနည်းငယ် စကားပြောစရာရှိလျှင် သူတပါးကို ထိပါးပုတ်ခတ်၍ ပြောဆိုလေ့ ရှိ၏။ ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ ရောက်လျှင် မျက်နှာပုပ်သိုး အရုပ်ဆိုးတတ်လေသည်။

## ၆။ အချို့မှာ အဆင်းလှရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် ဒေါသမထွက်၊ သူတပါး၏ အပြစ်ကို ပြောဆိုလေ့မရှိ၊ စိတ်ကြည်လင်အေးမြသူဖြစ်၏။ ထိုသူသေလျှင် နတ်ပြည် သို့ ရောက်ရတတ်၏၊ နတ်ပြည်သို့ မရောက်ဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း ကြည်လင်လှပသော အဆင်း (ရုပ်ချောခြင်း)ကို ရရှိပေသည်။

## ၇။ အချို့မှာ ခြွေရံစိုးမိုး တန်ခိုးအာဏာနည်းပါးရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် ဣဿာ(ငြူစူခြင်း) တရားအားကြီး၏။ ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း ခြွေရံစိုးမိုးတန်ခိုးအာဏာ နည်းပါးရလေသည်။

## ၈။ အချို့မှာ ခြွေရံစိုးမိုး တန်ခိုးအာဏာကြီးမားရခြင်း

ထိုကဲ့သို့ ဣဿာ (ငြူစူခြင်း) တရားမရှိသောသူသည် သေလျှင် နတ်ပြည်သို့ ရောက်ရတတ်၏။ နတ်ပြည်သို့ မရောက်ဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း နာမည် ကျော်ကြား ခြွေရံများ၍ တန်ခိုးအာဏာသြဇာ ကြီးမားရပေသည်။

**မှတ်ချက်။** ။သူတပါးတို့၏ ကံ,ဉာဏ်,ဝီရိယအားလျော်စွာ စည်းစိမ် ဥစ္စာ ပေါများခြင်း၊ ဂုဏ်သိန်ကြီးမားခြင်း၊ ထင်ရှား ကျော်စော ခြင်း၊ တတ်သိလိမ္မာခြင်း စသည်ကို မနာလိုမှု၊ မကြည့်နိုင်မှု၊ စောင်းမြောင်းမှု (မျက်စောင်းထိုးကြည့်မှု) ငြူစူမှု၊ (သည်လိုယုန်တော့

ချိုတိုင်းမှာရှိရဲ့ ဇီးကွက်လောက်တော့ ငှက်တိုင်းလှရဲ့) စသည်ဖြင့် နှုတ်ခမ်းစူ၍ ပြောဆိုမှုများသည် အတွင်းက ဣဿာတရား အစွမ်းပင်တည်း။

## ၉။ အချို့မှာ ဥစ္စာမဲ့မွဲ ဆင်းရဲရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် စွန့်ကြဲပေးကမ်း လှူဒါန်းလေ့မရှိ၊ မစ္ဆေရ (ဝန်တိုခြင်း)တရား အလွန်အားကြီး၏။ ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း ဥစ္စာမဲ့မွဲ ဆင်းရဲရလေ၏။

## ၁၀။ အချို့မှာ ဥစ္စာပြည့်စုံ ကုံလုံကြွယ်ဝရခြင်း

ထိုကဲ့သို့ မစ္ဆေရ (ဝန်တိုခြင်း) တရားမရှိဘဲ စွန့်ကြဲပေးကမ်း လှူဒါန်းလေ့ရှိသောသူသည် သေလျှင် နတ်ပြည်သို့ ရောက်ရ၏။ နတ်ပြည်သို့ မရောက်ဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း ဥစ္စာပြည့်စုံ ကုံလုံကြွယ်ဝရပေသည်။

မှတ်ချက်။ ။မိမိ၌ ရှိသောပစ္စည်း၊ မိမိနှင့်ဆိုင်သော ပစ္စည်းများကို သူတပါးနှင့် မဆက်ဆံစေလိုမှု၊ မပေးကမ်း, မလှူဒါန်းရက်မှုကိုလည်းကောင်း၊ မိမိ၏ စည်းစိမ်ဂုဏ်သိန်မျိုး သူတပါးရမှာ စိုးရိမ်ခြင်းကို လည်းကောင်း မစ္ဆေရ (ဝန်တိုခြင်း)ဟု ခေါ်သည်။

## ၁၁။ အချို့မှာ အမျိုးယုတ်ရခြင်း

ဤလောက၌ အချို့သော မိန်းမယောကျ်ားတို့သည် အလွန်မာန်မာနကြီး၏။ (သူတပါးကို အထင်အမြင်သေး၏။ ကိုယ့်ကိုယ်ကို အထင်ကြီး၏။) ရိုသေလေးစားထိုက်သူကိုမျှ ရိုသေလေးစားရမှန်း မသိတတ်။ ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း အောက်ကျ နောက်ကျ ယုတ်ညံ့သောအမျိုး၌ ဖြစ်ရ၏။

## ၁၂။ အချို့မှာ အမျိုးမြတ်ရခြင်း

ထိုကဲ့သို့ မာန်မာနမကြီးဘဲ ရိုသေလေးစားထိုက်သူကို ရိုသေလေးစားလေ့ရှိသောသူသည် နတ်ပြည်သို့ ရောက်ရတတ်၏။ နတ်ပြည်သို့ မရောက်ဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း မြင့်မြတ်သောအမျိုး၌ ဖြစ်ရရိုးရှိ၏။

## ၁၃။ အချို့မှာ အသိအလိမ္မာဉာဏ်ပညာ နည်းပါးရခြင်း

ဤလောက၌ အချို့သော မိန်းမယောက်ျားတို့သည် ပညာရှိပုဂ္ဂိုလ်တို့ထံသို့ ချဉ်းကပ်၍ ကုသိုလ်,အကုသိုလ်ကိုလည်းကောင်း၊ အပြစ်ရှိ,မရှိကိုလည်းကောင်း၊ မှီဝဲထိုက်, မမှီဝဲထိုက်သော အရာကိုလည်းကောင်း၊ နောင်သံသရာဝယ် ကြာရှည်လေးမြင့် ဖွံ့ဖွံ့ဖြိုးဖြိုး အကျိုးပေးမည့် တရားအချက်တို့ကိုလည်းကောင်း မေးမြန်းလေ့မရှိ၊ ထင်မိထင်ရာပြု၍ ဒုစရိုက်များသဖြင့် ထိုသူမျိုးသေလျှင် ငရဲသို့ ကျရောက်တတ်၏။ ငရဲမကျဘဲ လူ့ပြည်သို့ရောက်ရလျှင်လည်း အသိအလိမ္မာ ဉာဏ်ပညာကင်း လူဖျင်း, လူအ, လူမိုက် ဖြစ်ရလေသည်။

## ၁၄။ အချို့မှာ အသိအလိမ္မာဉာဏ်ပညာ ကြီးမားရခြင်း

ထိုကဲ့သို့သော တရားအချက်တို့ကို နှစ်သက်ကြည်ဖြူ နာယူမေးမြန်းလေ့ရှိသော သူသည်ကားသေလျှင် နတ်ပြည်သို့ ရောက်ရတတ်၏။ နတ်ပြည်သို့ မရောက်ဘဲ လူ့ပြည်သို့ ရောက်ရလျှင်လည်း အသိ အလိမ္မာ ဉာဏ် ပညာ ကြီးမားလျက် ထက်မြက်သော အခြေအနေကို ရတတ်ပေသည်။

လိုရင်းအချုပ်မှာ "ဘယ်သူမပြု မိမိမှု" ဟူသည်နှင့်အညီ ရှေးရှေးက ပြုခဲ့သော အမှု (ကံ)အားလျော်စွာ ကောင်းကျိုးနှင့် မကောင်းကျိုးကို ရကြလေသည်။ [ဥပရိပဏ္ဏာသပါဠိတော်၊ ဝိဘင်္ဂဝဂ်၊ စူဠကမ္မဝိဘင်္ဂသုတ်]

# အခန်း (၄)

## ဒုစရိုက်နှင့် သုစရိုက်

### ဒုစရိုက် (၁၀)ပါး အပြား (၄၀)

ဗုဒ္ဓမြတ်စွာသည် ကျမ်းဂန်များစွာတို့တွင် မကောင်းသော အကျင့်ကို ကျင့်ကုန်သောသူတို့အား အပါယ်ငရဲစသည်တို့၌ ခံစားရပုံကို ဝတ္ထုဇာတ်လမ်း သက်သေဖြင့် မှတ်တမ်းတင် ဟောကြားတော်မူခဲ့၏။ ကောင်းမှုကုသိုလ်ကို ပြုကုန်သော (ဝါ) ကောင်းသော အကျင့်ကို ကျင့်ကုန်သော (ဝါ) မကောင်းသောအကျင့်စရိုက်မှ ရှောင်ကြဉ်ကုန်သော သူတို့အား ကောင်းကျိုး သုခ ခံစားရပုံများကိုလည်း ဟောကြားတော်မူခဲ့၏။ သို့ဖြစ်၍ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လိုသော သူတို့သည် မြတ်ဗုဒ္ဓ ဟောကြားတော်မူခဲ့သော မြတ်ဓမ္မတို့ကို လိုက်နာကျင့်သုံး လေ့လာသင့်ကြပေသည်။

**ကာယဒုစရိုက်–ကာယကံ (၃)ပါး**

(၁) ပါဏာတိပါတ = သူ့အသက်သတ်မှု၊
(၂) အဒိန္နာဒါန = အရှင်သည် ကိုယ်နှုတ်တို့ဖြင့် မပေးအပ်သော သူ့ဥစ္စာကို ခိုးမှု၊
(၃) ကာမေသုမိစ္ဆာစာရ = ကာမဂုဏ်တို့၌ ယုတ်ယုတ်မာမာကျင့်မှု။

**ဝစီဒုစရိုက်–ဝစီကံ (၄)ပါး**

(၄) မုသာဝါဒ = မုသားပြောဆိုမှု၊
(၅) ပိသုဏဝါစာ = ချောပစ်ကုန်းတိုက်မှု (ချစ်သူနှစ်ဦး ကွဲသွားအောင်၊ သို့မဟုတ် မိမိအား ချစ်လာအောင် ချစ်သူနှစ်ဦးကို ရန်တိုက်ပေးမှု)၊
(၆) ဖရုသဝါစာ = ကြမ်းကြမ်းတမ်းတမ်း အယုတ်တမာဆဲဆိုမှု၊
(၇) သမ္ဖပ္ပလာပ = ပြိန်ဖျင်းသော စကားကို ပြောဆိုမှု။

**မနောဒုစရိုက်–မနောကံ (၃)ပါး**

(၈) အဘိဇ္ဈာ = သူတပါးစည်းစိမ်ကို "ငါ့ဟာ ဖြစ်လျှင် ကောင်းလေစွ"ဟု မတရားကြံစည်မှု၊

(၉) ဗျာပါဒ = သေကျေပျက်စီးသွားလျှင် ကောင်းလေစွဟု သူတပါးကို ပြစ်မှားမှု၊

(၁၀) မိစ္ဆာဒိဋ္ဌိ = အယူမှားမှု (ကံ,ကံ၏အကျိုးကို မယုံကြည်မှု)။

ဤဒုစရိုက်ဆယ်ပါးကို အပါယ်ရောက်ကြောင်း မကောင်းသော ခရီးလမ်း "အကုသလကမ္မပထတရား" ဟုလည်း ခေါ်ဆို၏။ ယင်း အကုသလကမ္မပထ တရား ၁၀–ပါးကို–

(၁) ကိုယ်တိုင်ပြုလုပ်ခြင်း၊

(၂) သူတပါးကို ပြုလုပ်ခိုင်းခြင်း၊

(၃) ဒုစရိုက်ပြုလျှင် ရနိုင်မည့် လောကီအကျိုးကို ပြောပြ၍ တိုက်တွန်းခြင်း၊

(၄) သူတပါးတို့ အလိုအလျောက် ပြုနေသည်ကို ဝမ်းမြောက်သဘောတူခြင်း–

ဤလေးမျိုးဖြင့် မြှောက်လိုက်လျှင် ဒုစရိုက် (၄၀) ဖြစ်လာ၏။

❖ သက်သတ်, ခိုးမှု၊ ကာမေသု၊ သုံးခု ကာယကံ။

❖ လှည့်စား,ရန်တိုက်၊ မိုက်မိုက်ကန်းကန်း၊
နှုတ်ကြမ်းလေ့ခြင်း၊ ပြိန်ဖျင်းစကား၊
ပြောဆိုငြား၊ လေးပါး ဝစီကံ။

❖ သူ့ဥစ္စာမှန်၊ မတရားကြံ၍၊ ဖောက်ပြန်သေကျေ၊
ပျက်စေလိုငြား၊ အယူမှား၊ သုံးပါး မနောကံ။

(ဆရာတော်အရှင်ဇနကာဘိဝံသ)

အင်္ဂုတ္တိုရ်တိကနိပါတ် ပဌမ ပဏ္ဏာသက ရထကာရဝဂ် သတ္တမသုတ်၌ ဗုဒ္ဓမြတ်စွာသည် သံသရာဘေးကို မြော်တွေးရှုတတ်သော ရဟန်းတို့အား–

"ရဟန်းတို့..... ကာယဒုစရိုက်, **ဝစီဒုစရိုက်**, မနောဒုစရိုက်ဟူသော တရားသုံးမျိုး

တို့သည် မိမိကိုယ်ကို နှိပ်စက်ဖို့ရာလည်း ဖြစ်ကုန်၏။ သူတပါးကို နှိပ်စက်ဖို့ရာလည်း ဖြစ်ကုန်၏။ မိမိ သူတပါး နှစ်ဦးသားတို့ကို နှိပ်စက်ဖို့ရာလည်း ဖြစ်ကုန်၏"ဟု ဟောတော်မူ၏။

"ကာယသုစရိုက်, ဝစီသုစရိုက်, မနောသုစရိုက်ဟူသော တရားသုံးမျိုးတို့ကား မိမိကိုယ်ကို နှိပ်စက်ဖို့ရာလည်း မဖြစ်ကုန်၊ သူတပါးတို့ကို နှိပ်စက်ဖို့ရာလည်း မဖြစ်ကုန်၊ မိမိသူတပါး နှစ်ဦးသားတို့ကို နှိပ်စက်ဖို့ရာလည်း မဖြစ်ကုန်" ဟု ဟောတော်မူ၏။

## သုစရိုက် (၁၀)ပါး အပြား (၄၀)

### ကာယသုစရိုက်–ကာယကံ (၃)ပါး

(၁) ပါဏာတိပါတဝိရတိ = သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်မှု၊

(၂) အဒိန္နာဒါနဝိရတိ = အရှင်သည် ကိုယ်နှုတ်တို့ဖြင့်မပေးအပ်သော သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်မှု၊

(၃) ကာမေသုမိစ္ဆာစာရဝိရတိ = ကာမဂုဏ်တို့၌ ယုတ်ယုတ်မာမာ ကျင့်ခြင်းမှ ရှောင်ကြဉ်မှု။

### ဝစီသုစရိုက်–ဝစီကံ (၄)ပါး

(၄) မုသာဝါဒဝိရတိ = မဟုတ်မမှန် ပြောဆိုခြင်းမှ ရှောင်ကြဉ်မှု၊

(၅) ပိသုဏဝါစာဝိရတိ = ချောပစ် ကုန်းတိုက်ခြင်းမှ ရှောင်ကြဉ်မှု၊

(၆) ဖရုသဝါစာဝိရတိ = ကြမ်းကြမ်းတမ်းတမ်း အယုတ်တမာ ဆဲဆိုခြင်း ရှောင်ကြဉ်မှု၊

(၇) သမ္ဖပ္ပလာပဝိရတိ = ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်မှု။

### မနောသုစရိုက်–မနောကံ (၃)ပါး

(၈) အနဘိဇ္ဈာ = သူတပါးစည်းစိမ်ကို "ငါ့ဟာဖြစ်လျှင် ကောင်းလေစွ"ဟု မတရားကြံစည်ခြင်းကို မပြုမှု၊

(၉) အဗျာပါဒ = သေကျေပျက်စီးသွားလျှင် ကောင်းလေစွဟု သူတပါးအား ပြစ်မှားခြင်းကို မပြုမှု၊

(၁၀)သမ္မာဒိဋ္ဌိ = အယူမှားခြင်း၊ကံ,ကံ၏အကျိုးကို မယုံကြည်ခြင်းကို မဖြစ်စေမူ၍ ကောင်းသောအယူကို ယူမှု။

ဤသုစရိုက် (၁၀)ပါးကို " ကုသလကမ္မပထ" တရား ဆယ်ပါးဟုလည်း ခေါ်၏။ လူ့ပြည်နတ်ပြည်ရောက်ကြောင်း "ကုသလကမ္မပထ" တရား (၁၀)ပါးကို-

(၁) ကိုယ်တိုင်ပြုခြင်း၊

(၂) သူတပါးကို ပြုဖို့ရန် စေခိုင်းခြင်း၊

(၃) သုစရိုက်၏ အကျိုးကျေးဇူးကို ပြောပြ တိုက်တွန်းခြင်း၊

(၄) သူတပါးတို့ အလိုအလျောက် ပြုနေသည်ကို သဘောတူခြင်း-

ဤလေးပါးဖြင့် မြှောက်ပွားပါက သုစရိုက် (၄၀) ဖြစ်လာ၏။

❖ သုစရိုက်ပြိုင်၊ ဤဆယ်ခိုင်ကို၊ ကိုယ်တိုင်ပြုငြား၊
သူတပါးခိုင်းတုံ၊ ဂုဏ်ကို ပြောပြ၊ ဝမ်းမြောက်ကြပြန်၊
လေးဆယ်မှန်၊ မြှောက်ဟန် သဘောပိုက်။

(ဆရာတော်အရှင်ဇနကာဘိဝံသ)

## ဒုစရိုက်အပြစ်နှင့် သုစရိုက်အကျိုး သက်သေပြဝတ္ထုများ

### ပါဏာတိပါတဒုစရိုက်အပြစ်ပြ နွားသတ်သမားဝတ္ထု

လွန်လေပြီးသောအခါက သာဝတ္ထိပြည်၌ နွားသတ်သမား တစ်ယောက်ရှိ၏။ သူသည် နွားတို့ကို ကိုယ်တိုင်လည်း သတ်၍စား၏။ အရောင်းအဝယ်လည်း ပြု၏။ နွားသားမပါလျှင် ထမင်းမစားနိုင်သည်အထိ နွားသားကို ခုံမင်နှစ်သက်၏။ တစ်ခါသော် သူစားရန်အတွက် ထားသော နွားသားကို ရင်းနှီးသော မိတ်ဆွေတစ်ဦးက ခင်မင်မှုဖြင့် ဗွတ်ယူသွားသောကြောင့် သူ၏ဇနီးသည်က ထိုနေ့တွင် အမဲသား မပါဘဲ အခြားဟင်းလျာများဖြင့် ထမင်းပွဲကို ပြင်ဆင်၍ ကျွေးမွေး၏။ နွားသတ်ယောကျာ်းသည် ထမင်းပွဲတွင် အမဲသားမပါသည်ကို သည်းမခံနိုင်သောကြောင့် ခြံထဲမှ နွားတစ်ကောင်၏ လျှာကို ဓားဖြင့်လှီး၍ အိမ်ရှင်မအား အချက်ခိုင်း၏။

ထိုထမင်းပွဲတွင် စားရန် အမဲသားကို လျှာပေါ်သို့ တင်လိုက်သည်နှင့် တပြိုင်နက် ထိုနွားသတ်သမားယောက်ျား၏ လျှာသည် အရင်းမှပြတ်၍ စားနေသော ထမင်းခွက်သဲသို့ ကျလေ၏။ သူပြုသော အကုသိုလ်ကံနှင့်အညီ ဆင်းရဲသော ဝေဒနာကို ခံစားရ၏။ ခံတွင်းမှ သွေးများ ယိုစီး၍ နေအိမ်ကိုပတ်ပြီး နွားကဲ့သို့ အော်မြည်လျက် သေ၏။ သေပြီးနောက် အဝီစိငရဲတွင် ကာလကြာမြင့်စွာ ပါဏာတိပါတ အကုသိုလ်ဒုစရိုက်ကံ၏ အပြစ်ကို ကြီးလေးစွာ ခံရရှာလေ၏။

(ဓမ္မပဒအဋ္ဌကထာ။ ဒုတိယအုပ်၊ မလဝဂ်၊ ဂေါဃာတကဝတ္ထု)

## ပါဏာတိပါတဝိရတိ သုစရိုက်အကျိုးပြ စက္ကနညီနောင်ဝတ္ထု

သီဟိုဠ်ကျွန်းတွင် စူဠစက္ကနနှင့် မဟာစက္ကနဟူ၍ ညီအစ်ကိုနှစ်ယောက် ရှိ၏။ သူတို့၏ မိခင်၌ ရောဂါဝေဒနာ စွဲကပ်ရာ ဆေးဆရာဖြစ်သူက လတ်လတ်ဆတ်ဆတ် ယုန်သားကို စားရပျှင် ဝေဒနာပျောက်ကင်းမည်ဟု ဓာတ်စာပေးသောကြောင့် အစ်ကိုက ညီအား ယုန်ဖမ်း၍ ယူစေရန် စေခိုင်းလိုက်၏။

ညီငယ် စက္ကနသည် တောသို့သွား၍ ထောင်ချောက်ဆင်ပြီး ဖမ်းယူရာ ယုန်တစ်ကောင်သည် စက္ကန၏ထောင်ချောက်တွင်မိလျက် ကြောက်လန့်တကြား "ကရိကရိ" ဟူသောအသံကို အော်မည်၏။ သေဘေးကြောက်၍ အော်မြည်နေသော ယုန်ကလေး၏ ဖြစ်အင်ကို မြင်သောအခါ စက္ကန၏ စိတ်တွင် ကိုယ်ချင်းစာတရား ဖြစ်ပွားလေ၏။

"ငါ၏မိခင် အသက်ရှင်ရေးအတွက် ဤယုန်သူငယ်ကလေး သေရရှာတော့မည်။ ငါ၏မိခင် ရောဂါပျောက်, မပျောက်ကိုကား တပ်အပ်သေချာ မသိရ။ ယုန်သည်ကား သူ၏အဖော်များနှင့်ကွဲ၍ သေရရှာတော့မည်၊ ကံတရားအတိုင်းရှိပါစေ"ဟု သနားကြင်နာသော စိတ်ဖြင့် ယုန်ကလေးကို ထောင်ချောက်မှ လွှတ်လိုက်လေ၏။

အိမ်သို့ ပြန်လာသောအခါ အစ်ကိုဖြစ်သူက ဆီး၍ မေးသည်တွင် သနား၍ ကိုယ်ချင်းစာစိတ်ဖြင့် မိပြီးသားယုန်ကို ပြန်လွှတ်ခဲ့ကြောင်း အကျိုးအကြောင်း ပြန်ပြောရာ "မိခင်အရင်းထက် တိရစ္ဆာန်ကို သနားစရာ လိုသေးသလား"ဟု ကြိမ်းမောင်း ဆူပူခြင်းကို ခံရလေ၏။

ညီငယ်ဖြစ်သူ စက္ကနလုလင်သည် မိခင်၏အနီးသို့ သွား၍ ခြေဆုပ်လက်နယ် ပြုလျက် "ငါသည် သိတတ်သောအချိန်မှစ၍ သူတပါး၏ အသက်ကို မသတ်စဖူး၊ ဤမှန်သော သစ္စာစကားကြောင့် ငါ့မိခင်၏ ရောဂါဝေဒနာသည် ပျောက်ကင်း ချမ်းမြေ့ပါစေ"ဟု သစ္စာပြုလေ၏။ ပါဏာတိပါတ ဝိရတီသီလကြောင့် စက္ကန၏

မိခင်သည် ထိုဝေဒနာမှ လုံး၀ ပျောက်ကင်း၍ ချမ်းသာခြင်းသို့ ရောက်ခဲ့ရဖူးလေသည်။ (အဋ္ဌသာလိနီအဋ္ဌကထာ)

## အဒိန္နာဒါနနှင့် အဒိန္နာဒါနဝိရတိ အကျိုးပြဝတ္ထု

လွန်လေပြီးသောအခါက ဗာရာဏသီပြည် ဒိသာပါမောက္ခ ဆရာကြီးတွင် တပည့်ငါးရာတို့ ပညာသင်ကြားလျက် ရှိ၏။ ဆရာကြီးတွင် လှပချောမော၍ ရုပ်အဆင်းအင်္ဂါ ပြေပြစ်သော သမီးချောတစ်ယောက်ရှိရာ တပည့်များ စိတ်ဝင်စားကြကုန်၏။

ဆရာကြီးသည် တပည့်တို့၏ အကျင့်စာရိတ္တကို စုံစမ်းလို၍ "တပည့်တို့-မင်းတို့အထဲမှ ငါ့သမီးကို စုံမက်သူသည် မိဘဆွေမျိုးများ မသိအောင် အဝတ်တန်ဆာနှင့် ရွှေငွေဘဏ္ဍာ ဥစ္စာပစ္စည်းများကို ယူဆောင်ခဲ့ကြရမည်။ အကောင်းဆုံးယူဆောင်နိုင်သူအား ငါ့သမီးနှင့် ထိမ်းမြားလက်ဆက်ပေးစားမည်" ဟု ပြောဆို၏။

တပည့်တို့သည် ဆရာကြီး၏စကားကို နားထောင်လိုခြင်း၊ ဆရာကြီး၏ သမီးကို ရလိုခြင်းဟူသော အကြောင်းနှစ်မျိုးကြောင့် မိဘဆွေမျိုးများ မသိအောင် ပစ္စည်းဥစ္စာကို ခိုးဝှက်၍ ယူဆောင်ပြီးလျှင် သူ့ထက်ငါ အပြိုင် အားကျမခံ ဆရာကြီးထံ အပ်နှံကြကုန်၏။ အကြီးဆုံးတပည့်တစ်ယောက်ကမူ မည်သူ့ပစ္စည်းကိုမျှ မယူမူ၍ ကျောင်းသို့ ပြန်လာ၏။ ထိုအခါ ဆရာကြီးက ကျောင်းသားကြီးကို ခေါ်၍ "အခြားကျောင်းသားများက ငါ၏ သမီးကို စုံမက်၍ ပစ္စည်းများကို အသီးသီး ယူဆောင်လာကြသည်။ မင်းကား ဘာကြောင့် ယူဆောင် မလာရသနည်း"ဟု မေးမြန်း၏။

ကျောင်းသားကြီးက "ဘေးလူတွေက မျက်စိဖြင့် မမြင်ကြသော်လည်း မိမိခိုးယူသည်ကို မိမိ၏စိတ်က ရှေးဦးစွာ သိခြင်း၊ ကိုယ်စောင့်နတ်များက သိခြင်းကြောင့် မကောင်းမှုပြုသူအား ဆိတ်ကွယ်ရာ မရှိနိုင်ဟု ယုံကြည်သောကြောင့် လူကြီးမိဘများ မသိအောင် ယူဆောင်ခြင်း မပြုပါ" ဟူ၍ ရှင်းပြလေသည်။

ဆရာကြီးက တပည့်အားလုံးကို ခေါ်၍-

"တပည့်တို့- ဆရာ့အိမ်တွင် ပစ္စည်းဥစ္စာ ပြည့်အစုံ ရှိ၏။ တပည့်တို့၏ အကျင့်စာရိတ္တကို စုံစမ်းလို၍ ပရိယာယ်ဖြင့် ခိုင်းခြင်းသာဖြစ်သည်။ သူတပါး မသိအောင်ယူဆောင်ခြင်းသည် အဒိန္နာဒါနကံကို လွန်ကျူးရာရောက်သောကြောင့် အပြစ်ကြီးလေးလှသည်။ သတိထား၍ ရှောင်ကြဉ်ကြလေ"ဟု-

သြဝါဒပေးပြီး ရိုးသားသော တပည့်ကြီးကို သမီးချောနှင့် လက်ဆက်ပေးလိုက်လေ၏။ (စတုက္ကနိပါတ်၊ ကာလိင်္ဂဝဂ်၊ သီလဝီမံသနဇာတ်အဋ္ဌကထာ)

## ကာမေသုမိစ္ဆာစာရ ဒုစရိုက်အပြစ်ပြ ဣသိဒါသီထေရီမဝတ္ထု

ဣသိဒါသီထေရီမအလောင်းသည် တစ်ခုသော ဘဝ၌ ရွှေပန်းထိမ်သည် ဖြစ်ရာ သူတပါးမယားကို ပြစ်မှားခြင်း ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်၏။ ထိုဘဝမှ သေခဲ့သော် ငရဲ၌ နှစ်ပေါင်းများစွာ ကျခံရ၏။ ငရဲမှ လွတ်သောအခါ ကန်းလည်းကန်း, ခွင်လည်းခွင်သော ဆိတ်မတစ်ကောင်၏ဝမ်း၌ ပဋိသန္ဓေနေရလေ၏။ အရွယ်သို့ ရောက်လျှင် သူတပါးမယားကို ပြစ်မှားခဲ့ဖူးသော ကံကြောင့် အသို (ဝှေးစေ့)ထုတ်ခြင်းကို ခံရ၏။ နွားထီးဘဝတွင်လည်း တဖန် အသို(ဝှေးစေ့)ထုတ်ခြင်းကို ခံရ၏။ ထိုဘဝမှ သေလွန်ခဲ့သော် ကျွန်မတစ်ယောက်၏ ဝမ်းတွင် မိမိပြုခဲ့သော သူတပါးမယားကို ပြစ်မှားခြင်းကံကြောင့် မိန်းမ မဟုတ်၊ ယောကျ်ား မဟုတ်၊ နပုံပဏ္ဍုက် ဖြစ်၏။ တဖန် စုတေပြန်သော် ဥဇ္ဇေနီပြည်ဝယ် သေဌ္ဌေးသမီးဖြစ်၍ ဣသိဒါသီဟု အမည်တွင်၏။ အရွယ်ရောက်လျှင် သေဌ္ဌေးသားတစ်ဦးနှင့် ပေးစားထိမ်းမြား၏။ မယားဝတ္တရားနှင့်အညီ ပြည့်စုံအောင် နေထိုင်ပြုစုပါသော်လည်း ပြုမှားခဲ့သော ကာမေသုမိစ္ဆာစာရကံကြောင့် ခင်ပွန်းဖြစ်သူသည် အကောင်းမထင်ဘဲ အိမ်မှ နှင်ချခြင်းခံရ၏။

ဣသိဒါသီသည် ဒုတိယအကြိမ် ကြွယ်ဝသော သတို့သားတစ်ဦးနှင့် ထိမ်းမြားပြန်၏။ ကျူးလွန်ခဲ့သော ကာမေသုမိစ္ဆာစာရကံကြောင့် ဒုတိယအကြိမ် အိမ်မှ နှင်ချခံရပြန်၏။

ဖခင်ဖြစ်သူသည် လင်ကံဆိုးသော ဣသိဒါသီအား တတိယမြောက် သူတောင်းစားတစ်ဦးကိုခေါ်၍ ပေးစားပြန်၏။ သမက်ဖြစ်သူ သူတောင်းစားအား အိမ်ပေါ်သို့ ခေါ်ယူပြီး တင်ထား၏။ သူတောင်းစားသည် ဣသိဒါသီ၏ ကာမေသုမိစ္ဆာစာရ အတိတ်ကံကြောင့် စုံမက်နှစ်သက်ခြင်း မရှိဘဲ ဣသိဒါသီကို စွန့်၍ သူတောင်းစားဘဝသို့ ပြန်သွားလေ၏။

ဤကဲ့သို့ ယူတိုင်းယူတိုင်းသော ယောကျ်ားတို့၏ အကြိမ်ကြိမ် စွန့်ပယ်ခြင်းကို ခံရဖန်များသောအခါ သံဝေဂတရားရပြီး ရဟန်းပြုသဖြင့် ကာမတရားတို့ကို စက်ဆုပ်၍ တရားအားထုတ်သောကြောင့် ရဟန္တာထေရီမ ဖြစ်လေ၏။

ထေရီကျော် ဣသိဒါသီသည် ကာမေသုမိစ္ဆာစာရကံကြောင့် ဘဝအဆက်ဆက် ဒုက္ခရောက်ရပုံအကြောင်းစုံကို သူကိုယ်တိုင် ဇာတ်ကြောင်းပြန်၍ ဟောကြား ထားလေသည်။ (ထေရီဂါထာ အဋ္ဌကထာ)

**ကာမေသုမိစ္ဆာစာရဝိရတိ သုစရိုက်အကျိုးပြ မဟာပဒုမမင်းသားဝတ္ထု**

လွန်လေပြီးသောအခါက ဗာရာဏသီပြည်ကို ဗြဟ္မဒတ်မင်းကြီး စိုးအုပ်၏။ ဂေါတမဘုရားအလောင်းသည် ထိုမင်း၏ သားတော်ဖြစ်၏။ ပဒုမမင်းသားဟု အမည်တွင်၏။ မင်းသား၏မိခင် ကွယ်လွန်သောအခါ ဖခင်ဘုရင်ကြီးသည် မိဖုရား တစ်ဦးကို အဂ္ဂမဟေသီမိဖုရားကြီးအဖြစ် တင်မြှောက်၏။ ထို့နောက် ဖခင်ဘုရင် ကြီးသည် ပစ္စန္တရစ်အရပ်သို့ သူပုန်ရန် နှိမ်နင်းရန် သွားလေ၏။ ထိုအချိန်တွင် မိထွေးဖြစ်သူ မိဖုရားကြီးသည် ပဒုမမင်းသား၏ ရုပ်ရည်အဆင်းကို တပ်မက် နှစ်သက်၍ အဆောင်သို့ခေါ်ယူပြီးလျှင် ကိလေသာစိတ် ယိုဖိတ်ကာ ကာမဟိုဖြင့် အမျိုးမျိုးဖြားယောင်း၏။ ကာမနှင့်စပ်သော စကားကို ပြောဆို၏။ ပဒုမမင်းသား သည် အမှောင်ဆုံးသော အမှောင်ကို အသိဖြင့် ခွာရှောင်လျက် "အရှင်မ–မတော်လှပါ၊ အရှင်မသည် ဖခင်၏ မိဖုရားကြီးဖြစ်၍ မိခင်အရာ၌ တည်ပါသည်။ လင်ရှိ မယားလည်း ဖြစ်ပါသည်၊ အပြစ်ကြီးလေး၍ မလျော်ကန်လှပါဘုရား"ဟု ပြန်ပြော လေ၏။

သုံးကြိမ်သုံးခါ ဖြားယောင်းပါသော်လည်း မရ၍ မိဖုရားကြီးသည် ရှက်လည်း ရှက် ဒေါသလည်းထွက်ကာ" ငါ့ဆန္ဒကို မလိုက်လျောတဲ့လူသား သင့်ဖခင် ပြန်လာလျှင် ဦးခေါင်းကို ဖြတ်စေရမည်" ဟု ဒေါသတကြိမ်းမောင်း၏။ မိန်းမတို့ မာန်မာနကို ပြ၏။

ဖခင်ဘုရင်ကြီး ပြန်လာသောအခါ မိဖုရားကြီးသည် မင်းကြီးအား ပဒုမ မင်းသားက ကာမကို အနိုင်အထက်ပြု၍ ကြံစည်ခြင်း ခံရကြောင်း မိန်းမတို့ မာယာဖြင့် ကုန်းတိုက်လေ၏။ ဘုရင်ကြီးသည် ကာမအဆိပ်မွန်ပြီး အသိတရား ကင်းမဲ့ကာ ဒေါသအမျက်ထွက်လေ၏။ သားတော်မောင် ပဒုမအား လက်ပြန်ကြိုး တုတ်၍ အသူတစ်ရာနက်သော ချောက်ထဲသို့ ဦးစောက်ပြောင်းပြန် တွန်းချစေဟု အမိန့်တော်ချမှတ်၏။

ထိုသို့ တွန်းချခံရသော်လည်း မေတ္တာ၏စွမ်းအားကြောင့် အသက်မသေဘဲ တောင်စောင့်နတ်သည် ပွေ့ယူပြီး နဂါးမင်း၏အရွေ၌ တည်စေ၏။ နဂါးမင်းက စောင့်ရှောက်ထား၏။ ပဒုမမင်းသားသည် သံဝေဂရပြီး ရဟန်းဝတ်ကာ ဟိမဝန္တာတွင် တရားအားထုတ်နေ၏။

မုဆိုးတစ်ယောက်သည် ထိုအရပ်သို့ ရောက်ရှိပြီး ဗာရာဏသီမင်းကြီးအား ပဒုမမင်းသား၏ အကြောင်းစုံကို ပြန်၍ လျှောက်ထားလေ၏။ ဗာရာဏသီ မင်းကြီးသည် နောင်တကြီးမှာရရှိပြီး သားတော်ရှိရာ အရပ်သို့ လိုက်လာကာ မိမိအမှားကို တောင်းပန်သည့်ခံစေ၏။ ထီးနန်းစည်းစိမ်ကို လက်ခံရန် ပန်ကြား၏။ ပဒုမမင်းသား ရဟန်းတော်သည် ကာမစည်းစိမ်၏အပြစ်ကို မြင်၍ လက်မခံ ငြင်းဆန် တော်မူ၏။ ဖခင် ဘုရင်ကြီးအား တရားနှင့် အညီ အုပ်စိုးရန် ဆုံးမစကား ပြောကြားလေ၏။

ဘုရင်မင်းကြီးသည် တိုင်းပြည်သို့ ပြန်ရောက်သောအခါ သားတော် ပဒုမ မင်းသားအား ကာမဖြင့် ဖြားယောင်းသွေးဆောင်ပြီး မာယာပရိယာယ်ဖြင့် လိဆယ်တိုင်သော မိဖုရားကြီးအား အသူတစ်ရာနက်သော ခိုးသူပစ်ချရာ ချောက် ကမ်းပါးမှ ဦးစောက်ပြောင်းပြန် ကွန်းချ၍ သတ်စေဟု အမိန့်တော် ချမှတ်၏။ (ဒွါဒသကနိပါတ် မဟာပဒုမဇာတ် အဋ္ဌကထာ။ ဓမ္မပဒ အဋ္ဌကထာ ဒုတိယအုပ် စိဉ္စမာဏဝတ္ထု)

## မှသာဝါဒဒုစရိုက်အပြစ်ပြ ရင်သွေးကို ပြန်စားရသော ပြိတ္တာမဝတ္ထု

လွန်လေပြီးသောအခါက သာဝတ္ထိပြည်တွင် ဥပါသကာတစ်ဦး၏ ဇနီးသည် အဆင်းလှ၏။ အရွယ်ကောင်း၏၊ အကျင့်နှင့် ပြည့်စုံသော သားယောကျ်ားနှစ်ဦး ထွန်းကား၏။ ထိုအမျိုးသမီးသည် ငါ့၌ သားယောကျ်ားရှိသည်ဟူသော သံယောဇဉ် မာန်တက်၏။ ခင်ပွန်းဖြစ်သူအပေါ် အပြောအဆို အပြုအမူမှ အစ အပေါ်စီးကချည်း ဆက်ဆံသောကြောင့် ခင်ပွန်းဖြစ်သူသည် စိတ်ညစ်၍ နောက်အိမ်ထောင်ပြုလေ၏။

ဒုတိယဇနီးတွင် ကိုယ်ဝန်သုံးလရှိလာသောအခါ မယားကြီးသည် အစာတွင် ဆေးခတ်၍ ပရိယာယ်ဖြင့် ကိုယ်ဝန်ကို ပျက်ကျစေ၏။ ထိုအကြောင်းကို ခင်ပွန်း ဖြစ်သူနှင့် ဆွေမျိုးများ သိရှိရာ ကျိန်စာဆိုရမည်ဟု အကျပ်ကိုင်သောကြောင့်–

> "ကျွန်တော်မသည် လင်တူမယား၏ ကိုယ်ဝန်ကို ပျက်ကျအောင် ဖျက်ချရိုးမှန်ပါလျှင် ညစဉ် ညတိုင်း သားသမီး ခုနစ်ယောက်မွေး၍ ကိုယ့်ရင်သွေးကို ပြန်လည်စားသောက်ရပါစေသား၊ ယင်တလောင်း လောင်းနှင့် အမြင်မကောင်းသည့် ပြိတ္တာအတော်မကြီး ဖြစ်ရပါစေသား"
>
> ဟု ကျိန်ဆိုရလေ၏။

မမှန်မှုသား ထိုကျိန်စာစကားကြောင့် သေလွန်သောအခါ ထိုရွာ၏ အနီးတွင် ပြိတ္တာမကြီး ဖြစ်ရရှာလေ၏။ "ညစဉ်ညတိုင်း ခလေးခုနစ်ယောက်မွေး၍ ကိုယ့်ရင်သွေးကလေးများကို ပြန်လည် စားသောက်ရစေသား"ဟူသော မုသာဝါဒ ကျိန်စာဒဏ်ကို ခံရရှာလေ၏(ပေတဝတ္ထုအဋ္ဌကထာ။ သတ္တပုတ္တခါဒကပေတိဝတ္ထု)။

## မုသာဝါဒဝိရတိ သစ္စရှိက်အကျိုးပြ ကဏှဒီပါယနဇာတ်ဝတ္ထု

လွန်လေပြီးသောအခါက ရသေ့တစ်ဦးသည် ဥယျာဉ်၌ သီတင်းသုံးနေ၏။ မိတ်ဆွေဒကာတစ်ဦးသည် ဇနီးနှင့် သားငယ်ကို ခေါ်၍ ရသေ့ထံ ရောက်လာ၏။ ရသေ့နှင့် ဇနီးမောင်နှံ စကားလက်ဆုံကျနေခိုက် သားငယ်သည် ဂျင်ပေါက်၍ ဆော့ကစားနေရာ ဂျင်သည် တောင်ပို့တွင်းသို့ ကျသွားလေ၏။ သားငယ်သည် ဂျင်ပြန်ရလိုဇောဖြင့် တောင်ပို့တွင်းသို့ လက်ဖြင့်နှိုက်ယူရာ မြွေကိုက်ခံရသောကြောင့် အဆိပ်မွှန်ပြီး မေ့မြောလေ၏။

မိဘနှစ်ပါးသည် ကလေးကို ပွေ့၍ ရသေ့ထံခေါ်သွားပြီး မြွေဆိပ်ပြယ်စေရန် ကုသပေးပါဟု တောင်းပန်သောကြောင့်-

> "ငါသည် ရသေ့ဝတ်ခဲ့သည်မှာ အနှစ် (၅၀)ကျော် ခဲ့ပါပြီ၊ ရသေ့ဝတ်ခါစ ခုနစ်ရက်မျှသာ ပျော်ပိုက်၍ တရားအားထုတ်ခဲ့သည်။ ခုနစ်ရက်မှ ဤအချိန်အထိ မပျော်ပိုက်သော်လည်း အောင့်အည်းသည်းခံ၍ နေခဲ့၏။ မပျော်ပိုက်သည်ကို မပျော်ပိုက်ပါဟူ၍ မည်သူ့အားမျှ မပြောကြားခဲ့ပါ။ ဤမှန်သော သစ္စာစကားကြောင့် ကလေး၏ ရောဂါပျောက်ကင်းပါစေ"

ဤသို့ ရသေ့သစ္စာဆိုလိုက်သည်နှင့် တပြိုင်နက် ကလေးငယ်သည် မျက်လုံးကလေးဖွင့်၍ "အမေ" ဟု နှုတ်မှ ခေါ်လေ၏။ ရင်ဘတ်မှ အထက်ပိုင်းရှိ အဆိပ်တို့သည် အောက်သို့ လျှောကျလာသောကြောင့် အနည်းငယ် သက်သာစ ပြုလေ၏။

တဖန် ဖခင်သည်လည်း ရင်သွေးငယ်၏ ရောဂါပျောက်ရေးအတွက်-

> "အကျွန်ုပ်သည် အလှူပေးခြင်းကို လုံးဝမနှစ်သက်ပါ၊ အကျွန်ုပ်အိမ်သို့ အလှူခံပုဂ္ဂိုလ်များ လာသည်ကိုလည်း မကြိုက်ပါ၊ ယင်းသို့ မကြိုက်သော်လည်း နှမြောဝန်တို၍ ကပ်စေးနည်းသူအဖြစ် အလှူခံပုဂ္ဂိုလ်များ မရိပ်မိအောင် အစဉ် အလာမပျက် ပေးလှူခဲ့ပါ၏။ ဤမှန်ကန်သော သစ္စာစကားကြောင့် ကလေး၏ ရောဂါ ပျောက်ကင်းပါစေ"

ဤသို့ ဖခင်၏ သစ္စာစကားဆိုလိုက်သည်နှင့် တပြိုင်နက် ခါးအထက်ပိုင်းရှိ အဆိပ်တို့သည် အောက်သို့ လျှောကျလာသောကြောင့် ကလေးငယ်သည် အိပ်ရာမှ ထ၍ ထိုင်လေ၏။

ထို့ပြင် မိခင်ဖြစ်သူသည်လည်း ရင်သွေးငယ်၏ ရောဂါ ပျောက်ကင်းရေး အတွက်-

"ချစ်စွာသောသားငယ်- အမေသည် သင်၏အဖေနှင့် ဤမြွေဆိုးကြီးကို လုံးဝ မချစ်ဒိုးအမှန်ပါ၊ ထပ်တူထပ်မျှ ရွံမုန်းလှပါ၏။ သင်၏အဖေနှင့် ဤမြွေဆိုးကြီး အပေါ် ထားရှိသော စိတ်ဓာတ်တို့မှာ အတူတူပင် ဖြစ်ပါ၏။ သင်၏အဖေ အိမ်ဦးနတ်အပေါ် ဝမ်းတွင်းက မချစ်သော်လည်း ဆွေမျိုးမိဘ အရှက်မရစေလို၍ အောင့်အည်းသည်းခံပြီး ပေါင်းသင်းခဲ့ပါ၏။ ဤမှန်သော သစ္စာစကားကြောင့် သားငယ်၏ ရောဂါပျောက်ကင်းပါစေ"

ဤသို့ အမိ၏ သစ္စာစကားဆိုးသည်နှင့် တပြိုင်နက် ကလေးငယ်၏ ခန္ဓာကိုယ် တစ်ခုလုံး၌ရှိသော အဆိပ်တို့သည် လျှောကျပျောက်ကင်းပြီး ပကတိအတိုင်း ကျန်းမာ လန်းဆန်း၍ ဆော့ကစားလေ၏။

ဤကား မုသားကင်းခြင်း (မုသာဝါဒဝိရတိ) သုစရိုက်အကျိုးတည်း။ (ဒသကနိပါတ်၊ ကဏှဒိပါယနဇာတ်၊ အဋ္ဌကထာ)

## ပိသုဏာဝါစာဒုစရိုက်အပြစ်နှင့် ပိသုဏာဝါစာဝိရတိသုစရိုက်အကျိုးပြဝတ္ထု

ကဿပဘုရားရှင် လက်ထက်တော်၌ အမျိုးသားနှစ်ယောက်တို့သည် ရဟန်း ပြုပြီးလျှင် အကျင့်သီလနှင့် ပြည့်စုံ၍ ရွာငယ်တစ်ခု၌ အညီအညွတ်နေထိုင်ကြ၏။ ထိုနေရာသို့ ယုတ်မာသော အလိုဆိုးရှိသော အာဂန္တုရဟန်းတစ်ပါးရောက်လာ၏။ ကျောင်းနေရဟန်းတို့သည် အာဂန္တုရဟန်းအား ခရီးဦးကြိုဆိုပြုလျက် နေရာပေး ကြ၏။

နှစ်ရက်မြောက်သောနေ့တွင် "အာဂန္တုရဟန်းကို ခေါ်၍ ဆွမ်းခံရွာသို့ ဝင်ကြ၏။ ရွာသူရွာသားတို့က မြောက်မြားစွာသော လှူဖွယ်ဝတ္ထုကို လောင်းလှူ ကြ၏။ အာဂန္တုရဟန်းသည် ရွာသူရွာသားများ၏ စေတနာ သဒ္ဓါတရား ကောင်းခြင်း၊ ကျောင်းသခ်မ်း၏ အာဝါသနှင့် ပြည့်စုံခြင်းတို့ကို တပ်မက်၍

ကျောင်းနေရဟန်းနှစ်ပါးတို့ကို အချင်းချင်း မသင့်မြတ်အောင် ကုန်းတိုက်စကား ပြောကြားလေ၏။ ပြောစတွင် ကျောင်းနေရဟန်းတို့ မယုံကြည်ကြသော်လည်း အကြိမ်ကြိမ် ပြောပါများလတ်သော် မထေရ်နှစ်ပါးတို့သည် အချင်းချင်း စကား မဆို၊ အရိုအသေ မပြုကြတော့ဘဲ ကာလရှည်မြင့်စွာ ဖြစ်သော အချစ်သည် ဖြန်းဖြန်းကွဲ၍ သပိတ်သင်္ကန်းကို ယူပြီးလျှင် အသီးသီး ချမ်းသာရာအရပ်သို့ သွားကြကုန်၏။

ကုန်းတိုက်သောရဟန်းသည် သူတော်ကောင်းရဟန်းနှစ်ပါး၏ ချစ်ခြင်းကို ခွဲမိလေပြီဟု နောင်တကြီးစွာရပြီး ဝိပ္ပဋိသာရ = စိတ်နှလုံးပူပန်မှု နှိပ်စက်သော ကြောင့် စိုးရိမ်ခြင်းအဟုန်ဖြစ်၏။ နာလျက် မကြာမီ သေ၍ ကုန်းတိုက်မိသော ပိသုဏာဝါစာကံကြောင့် အဝီစိငရဲကျလေ၏။

မထေရ်နှစ်ပါးလည်း နောက်ကာလတွင် အကြောင်းအကျိုးကို သိသဖြင့် အချင်းချင်း မိမိတို့ကျောင်းသို့ ပြန်လာပြီးလျှင် တစ်ပါးနှင့်တစ်ပါး သည်းခံခွင့်လွှတ်၍ မေတ္တာပြဟွှစိုရ်ဖြင့် နေထိုင်ကြလေ၏။ ပိသုဏာဝါစာကံ (ကုန်းတိုက်ခြင်း)၏ ကြောက်ဖွယ်ကောင်းပုံကို သံဝေဂယူ၍ ရဟန်းတရား အားထုတ်ကြရာ အရဟတ္တ ဖိုလ်သို့ ရောက်ကြလေကုန်၏။ (ပိသုဏာဝါစာဝိရတိအကျိုးဟု မှတ်ရာ၏။)

ကုန်းတိုက်သော ရဟန်းမှာမူ ဘုရားတစ်ဆူနှင့်တစ်ဆူအကြား ကြာမြင့်စွာသော ကာလပတ်လုံး ငရဲ၌ ကျခံရပြီး ဂေါတမမြတ်စွာဘုရား လက်ထက်ဝယ် ရာဇဂြိုဟ် ပြည်၏ အနီး၌ ပူတိမုခပြိတ္တာ ဖြစ်ရလေ၏။ ထိုပြိတ္တာ၏ ကိုယ်ကား ရွှေအဆင်းနှင့် တူ၏။ ခံတွင်းမှ ပိုးလောက်တို့သည် ထွက်ကုန်၏။ ထိုမှ ဤမှ ခံတွင်းကို ခဲကုန်၏။ အရပ်ထက်ဝန်းကျင် ပျံ့နှံ့၍ မကောင်းသောအနံ့လှိုင်ပြီးလျှင် မစင်ပုပ်ငရဲ၌ ကာလ ရှည်မြင့်စွာ ခံရလေ၏။ ပိသုဏာဝါစာ၏အပြစ်ကား ကြောက်မက်ဖွယ်ကောင်းလှ၏။

(ပူတိမုခပေတဝတ္ထုအဋ္ဌကထာ၊ ဓမ္မပဒအဋ္ဌကထာဒုတိယအုပ်၊ သူကရပေတဝတ္ထု)

### ဖရုသဝါစာအပြစ်နှင့် ဖရုသဝါစာဝိရတိသုစရိုက်အကျိုးပြ နန္ဒိဝိသာလဝတ္ထု

လွန်လေပြီးသောအခါက ဂေါတမဗုဒ္ဓလောင်းလျာသည် နွားမျိုး၌ ဖြစ်၏။ နန္ဒိဝိသာလဟု အမည်တွင်၏။ ဝိုင်ရှင်ပုဏ္ဏားက သားရင်းပမာ ချစ်ခင်၍ ကောင်းမွန်စွာ ကျွေးမွေးပြုစု၏။ ခွန်အားနှင့်ပြည့်စုံ၏။

ပိုင်ရှင်ပုဏ္ဏားကြီးသည် မိမိနွားကြီး၏ ခွန်အားကို ယုံကြည်၍ ဝန်အပြည့် တင်ထားသော လှည်းအစီး တစ်ရာကို ရုန်းနိုင်, မရုန်းနိုင် ငွေတစ်ထောင်ကြေး ပေးကြစတမ်း ကတိပြု၍ သေဌေးတစ်ဦးနှင့် အလောင်းအစားပြုလေ၏။

ပိုင်ရှင်ပုဏ္ဏားသည် လှည်းဦးက နေ၍ နန္ဒိဝိသာလနွားကြီးအား နှင်တံဖြင့် ရိုက်လည်းရိုက်၏၊ ဆဲလည်းဆဲ၏။ "ဟဲ့ အမဲနွား ရုန်းပါတော့လား၊ ကောက်ကျစ် စဉ်းလဲသောနွား ရုန်းပါတော့လား" စသည်ဖြင့် ကြမ်းတမ်းသော စကားကို ပြောဆို၍ ရုန်းစေ၏။ ယင်းကဲ့သို့ ဖရုသဝါစာ နားမချမ်းသာဖွယ်ရာ စကားကို ပြောဆို၍ မောင်းနှင်ခြင်းကြောင့် နန္ဒိဝိသာလနွားကြီးသည် ဝန်ကို မရုန်းတော့ဘဲ ရပ်တန့် နေလေ၏။ ထို့ကြောင့် ပိုင်ရှင်ပုဏ္ဏားကြီးမှာ ငွေတစ်ထောင်ရှုံး၍ စိတ်ပျက်ကာ မှိုင်တွေနေတော့၏။

ထိုဖြစ်အင်ကိုသိသော နန္ဒိဝိသာလ နွားကြီးက "သခင် -အဘယ့်ကြောင့် မှိုင်တွေ နေရပါသနည်း"ဟု မေးလေရာ ငွေတစ်ထောင်ရှုံး၍ မှိုင်တွေနေကြောင်း ပုဏ္ဏားက ပြန်ပြောလေ၏။ ထိုအခါ နွားကြီးက-

"သခင်သည် အကျွန်ုပ် နားမချမ်းသာဖွယ်ရာ စကားများကိုသာ ကြမ်းတမ်းစွာ ပြောဆိုသောကြောင့် တမင် မရုန်းဘဲနေခြင်းဖြစ်သည်။ နောင်တွင် ဤကဲ့သို့ ဖရုသဝါစာ= ကြမ်းတမ်းသောစကားကို မပြောပါနှင့်၊ အကျွန်ုပ်သည် သခင်၏ အကျိုးကို သယ်ပိုးပါမည်၊ ပြန်၍ လောင်းပါ၊ နှစ်ထောင် ရစေရမည်"ဟု- ပြောလေ၏။ ထို့ကြောင့် ပုဏ္ဏားကြီးသည် ယခင်သေဌေးနှင့် နှစ်ထောင်ကြေး လောင်းပြန်လေ၏။

ပိုင်ရှင်ပုဏ္ဏားကြီးသည် ဤအခါ၌တွင် ပထမအခါကဲ့သို့ ကြမ်းကြမ်းတမ်းတမ်း မပြောဆိုတော့ဘဲ "ဖေ့သားကြီး ရုန်းလိုက်ပါကွ၊ နွားသူတော်ကောင်းကြီး ရုန်းလိုက်ပါကွ"ဟု အားမာန်တက်ဖွယ် ချိုချိုသာသာ ပြောဆိုခိုင်းစေသောကြောင့် နန္ဒိဝိသာလ နွားကြီးသည် ဝန်အပြည့်တင်ထားသော လှည်းအစီးတစ်ရာကို သွယ်လင့်တကူ ရုန်းပြလေ၏။ ထို့ကြောင့် ငွေနှစ်ထောင် ပြန်၍ နိုင်လေ၏။

(ကေနိပါတ်၊ ကုရုဝဂ်၊ နန္ဒိဝိသာလဇာတ်အဋ္ဌကထာ)

## သံမှုပ္ပလာပက်ကို ကျူးလွန်သော ဂါမဏိဝတ္ထု

လွန်လေပြီးသောအခါက မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ နေတော်မူ၏။ ကချေသည်တစ်ထောင်တို့၏ အကြီးအမှူး ဂါမဏိသည် ပစ္ဆိမဘာဝိကသားဖြစ်၍ ရင့်ကျက်သော ဉာဏ်ရှိသည်အဖြစ်ကြောင့် အခြံအရံနှင့်အတူ မြတ်ဗုဒ္ဓထံသို့ ချဉ်းကပ်ပြီးလျှင်-

"ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရား- ကချေသည်တို့သည် ပွဲသဘင်၏ အလယ်၌ မှန်သောအမှု၊ ချွတ်ယွင်းသောအမှုဖြင့် ပွဲသဘင်ရှုသူ လူအပေါင်းကို ရွှင်ပျဝမ်းမြောက်စေလျက် နှစ်သက်မွေ့လျော်ပျော်ပါးစေ၏။ ထိုကချေသည်သည် သေသည်မှ နောက်၌ ပဟာသအမည်ရှိသော နတ်သမီးတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်၏ဟု ရှေးအဆက်ဆက်ဖြစ်ကုန်သော ကချေသည်ဆရာတို့ထံမှ ဤစကားကို ကြားဖူးခဲ့ပါသည်။ ဤအရာဝယ် မြတ်ဗုဒ္ဓသည် အဘယ်အယူတော် ရှိပါသနည်း"ဟု မေးလျှောက်၏။ ဗုဒ္ဓမြတ်စွာလည်း "ဂါမဏိ - သင်သည် ဤစကားကို ငါ့အား မမေးလင့်"ဟု သုံးကြိမ်တိုင်အောင် ပယ်တော်မူ၏။ ဂါမဏိသည် သုံးကြိမ်တိုင်အောင် ထပ်မံလျှောက်ထား၏။ ဗုဒ္ဓမြတ်စွာဘုရားလည်း "သင့်ကို ငါ့အား မမေးမလျှောက်နှင့်ဟု ပယ်တော်မူပါလျက် သုံးကြိမ်တိုင်အောင် ထပ်၍ပင်မေးသည် ဖြစ်သောကြောင့် သင့်အား ငါပြောကြားအံ့။ ဂါမဏိ- လွန်လေပြီးသောအခါက သတ္တဝါတို့သည် မကင်းသော ရာဂ, ဒေါသ, မောဟ ရှိကုန်၏။ ယင်းတို့ဖြင့် နှောင်ဖွဲ့ကုန်၏။ ကချေသည်သည် ထိုသတ္တဝါတို့အလယ်သို့ ဝင်၍ ထိုသတ္တဝါတို့အား လွန်စွာနှစ်သက်ခြင်း၊အမျက်ထွက်ခြင်း၊ မိုက်မဲတွေဝေခြင်းငှာ တပ်နှစ်သက်စေတတ်သော အာရုံ၊ မိုက်မဲတွေဝေစေတတ်သော အာရုံတို့ကို အနီးသို့ ဆောင်၏။ ထိုကချေသည်သည် မိမိလည်း မေ့လျော့, လွန်စွာမေ့လျော့လျက် သူတပါးတို့ကိုလည်း မေ့လျော့, လွန်စွာ မေ့လျော့စေတတ်သောကြောင့် သေသည်မှ နောက်၌ ပဟာသအမည်ရှိသော ငရဲ၌ ဖြစ်ရ၏"ဟု ဟောတော်မူ၏။ (သံယုတ်ပါဠိတော်)

ပဟာသငရဲဟူသည် အသီးအခြား မရှိပေ။ စင်စစ်သော်ကား အဝီစိငရဲ၏ သာလျှင် တစ်ခုသော အဖို့၌ ကကုန်,သီကုန်သကဲ့သို့ ကချေသည်အသွင်ကို ယူ၍သာ ကျက်ရကုန်၏။ ထိုကျက်ရာအရပ်ကိုသာ ပဟာသငရဲဟု ဟောတော်မူ၏။

(သံယုတ် အဋ္ဌကထာ)

## သမ္ဖပ္ပလာပဝိရတီအကျိုး

ကုသိုလ်ရေး၊ ဥစ္စာရေး၊ ကျန်းမာရေး၊ ပညာရေး စသောအကြောင်းများနှင့် မပတ်သက်ဘဲ အကျိုးမပြီး အချည်းနှီးသော စကားမျိုးကို ပြောဆိုလျှင် သမ္ဖပ္ပလာပ ဟု မှတ်ရမည်။ ဥပမာအားဖြင့် အတွင်း၌ အဆံမပါသော စပါးဖျင်းများကဲ့သို့ လောကီ လောကုတ္တရာ မည်သည့်အကျိုးကိုမျှ မပြီးသော အကြောင်းအရာများကို ပြောဆိုခြင်းသည် သမ္ဖပ္ပလာပသဘောချည်း မည်၏။ ဗုဒ္ဓမြတ်စွာ လောင်းလျာသည် လူဖြစ်စဉ်အခါက သမ္ဖပ္ပလာပမှ ကောင်းစွာကြဉ်ရှောင်တော်မူသောကြောင့် လူ့ဘဝမှ သေလွန်၍ နတ်ပြည်၌ ဖြစ်တော်မူ၏။ အခြားနတ်တို့ထက် ဆယ်ပါးသော ဂုဏ်ကျေးဇူး တို့ဖြင့် ထူးကဲလွန်မြတ်တော်မူ၏။ တဖန် လူ့ပြည်၌ ဖြစ်သောအခါ စကြာမင်း ဖြစ်၍ ကျွန်းကြီးလေးကျွန်းတို့ကို စိုးပိုင်တော်မူ၏။ ခြင်္သေ့မင်း၏ မေးနှင့်တူသော မေးတော် ရှိတော်မူ၏။ သူတပါးတို့ မဖျက်ဆီးနိုင်သော သုံးဆယ့်နှစ်ပါးသော စက်လက္ခဏာရှိတော်မူ၍ ယောက်ျားမြတ် ဖြစ်တော်မူ၏၊ နောက်ဆုံးဘဝ၌ ဘုရား အဖြစ်သို့ ရောက်တော်မူ၏။ သူခပ်သိမ်းတို့ မဖျက်ဆီးနိုင်သော အကျိုးထူးကို ရတော်မူသည်မှာ ဤသမ္ဖပ္ပလာပမှ ရှောင်ကြဉ်ခြင်းကြောင့် ဖြစ်ပေသည်။

## အဘိဇ္ဈာဒုစရိုက်အပြစ်နှင့် အနဘိဇ္ဈာသုစရိုက်အကျိုးပြ ရွဲကုန်သည်ဝတ္ထု

လွန်လေပြီးသောအခါက ရွဲကုန်သည်နှစ်ဦးတို့သည် နီလဝါဟအမည်ရှိသော မြစ်တစ်ဖက်ရှိ အရိဋ္ဌပုရမြို့သို့ ရွဲရောင်းသွားကြ၏၊ သူတို့သည် မြို့တွင်းသို့ လှည့်လည် ရောင်းချရန် ခရီးလမ်းကို နှစ်ဦးသဘောတူခွဲဝေကြ၏။ ကိုယ့်ခရီးတွင် လှည့်လည် ရောင်းချပြီးမှ အခြားတစ်ဦး၏ခရီးတွင် လှည့်လည်ရောင်းချရန် ကတိပြုကြ၏။

ရွဲကုန်သည်နှစ်ဦးအနက် တစ်ဦးသည် ဖြောင့်မတ်ရိုးသား၍ အခြားတစ်ဦးသည် ကောက်ကျစ်စဉ်းလဲ၏။ ကောက်ကျစ်သော ရွဲကုန်သည်သည် မိမိခရီးစဉ်အတိုင်း လှည့်လည်ရောင်းချလေရာ ဥစ္စာပျက်၍ အလွန်ဆင်းရဲသော မြေးဘွားနှစ်ယောက် တို့၏ အိမ်ရှေ့သို့ ရောက်လာ၏။ မြေးကလေးက အဘွားအိုအား ရွဲဝယ်ပေးရန် ပူဆာ၏၊ အဘွားအိုလည်း ပေးစရာ အသပြာ မရှိ၍ ခွက်ဟောင်းတစ်ခုကို ရွဲကုန်သည်အား ပြကာ ရွဲအနည်းငယ်နှင့်လဲရန် ပြောကြား၏။ ထိုခွက်သည်ကား အသုံးမပြုဘဲ ပစ်ထားသည်မှာ ကြာမြင့်လှပြီဖြစ်၍ အညစ်အကြေးအထပ်ထပ် တင်နေ၏။ ကောက်ကျစ်သော ရွဲကုန်သည်သည် ခွက်ကို ကိုင်မိလျှင်ပင် ရွှေခွက်

ဖြစ်မည်ဟု သံချောင်းယော်ဖြင့် ခြစ်၍ ကြည့်၏။ ထိုအခါ ရွှေခွက်ဖြစ်ကြောင်းကို သိလေ၏။ သို့ရာတွင် ရွှေခွက်ကို မတရားယူလိုသော ဆန္ဒဖြင့် ပဲဝက်မျှမတန်သော ခွက်ကို မယူလိုဟု ဆို၍ ဘာ မြေပေါ်မှာ လှိမ့်၍ ပစ်ချပြီးလျှင် ထွက်သွားလေ၏။

မကြာမီ ဖြောင့်မတ်သော ရွှဲကုန်သည်သည် မြေးအဘွားတို့အိမ်သို့ ရောက်လာ၏။ မြေးကလေးက ပူဆာ၍ အဘွားအိုသည် ရွှဲကုန်သည်အား ရွှဲအနည်းငယ် ပေးရန် ရှေးနည်းအတိုင်း ပြောကြား၏။ ရွှဲကုန်သည်သည် ခွက်ကို ကိုင်ကြည့်လိုက်လျှင်ပင် ရွှေခွက်ဖြစ်ကြောင်းကို သိသဖြင့် "အဘွား– ဤခွက်သည် အဖိုးတစ်သိန်း ထိုက်သော ရွှေခွက်တည်း။ အကျွန်ုပ်တွင် ဤမျှထိုက်တန်သည့်ပစ္စည်း မရှိပါ"ဟု ပြော၏။

အဘွားအိုက "ပထမရွှဲကုန်သည်သည် ဤခွက်ကို ပဲဝက်မျှ မတန်ဟု ဆိုခဲ့သည်၊ ယခု သင်ကား အဖိုးတစ်သိန်းထိုက်သည်ဟုဆိုလျှင် သင့်ကုသိုလ်ကံပင်ဖြစ်သည်။ ခွက်ကိုယူ၍ ပေးလိုသမျှ ရွှဲကိုသာ ပေးခဲ့ပါ"ဟု ပြောလေ၏။

ဖြောင့်မတ်သော ရွှဲကုန်သည်လည်း ခရီးစရိတ် ၅၀အသပြာ၊ ချိန်ခွင်နှင့် လွယ်အိတ်တို့ကိုသာယူပြီးလျှင် မရောင်းရသေးသော ရွှဲငါးရာနှင့် ရောင်းချ၍ ရရှိခဲ့သော အသပြာငါးရာကိုပါ မြေးအဘွားနှစ်ယောက်အားပေး၍ မြစ်ဆိပ်သို့ အမြန်သွားလေ၏။ မြစ်ဆိပ်သို့ ရောက်သောအခါ လှေသမားအား ရှစ်အသပြာပေး၍ အခြားမည်သည့် ခရီးသည်ကိုမျှ မစောင့်ဘဲ မိမိကိုသာလျှင် အမြန်ပို့ရန် ပြောကာ တစ်ဖက်ကမ်းသို့ ကူးလေ၏။

ကောက်ကျစ်သော ရွှဲကုန်သည်သည် မြေးအဘွားတို့၏ အိမ်သို့ တဖန်ပြန်လာပြီးလျှင် မြေးမလေးအား "သူငယ်မ– ခွက်ကို ယူခဲ့လော့၊ သင့်အား ရွှဲအနည်းငယ် ပေးအံ့"ဟု ဆို၏။ မြေးမကလေးက "ငါတို့ခွက်သည် အဖိုးတစ်သိန်း ထိုက်တန်သည်ဖြစ်လျက် သင်သည် ပဲဝက်မျှ မတန်ဟု မဟုတ်မမှန် ပြောဆိုခဲ့သည်။ ဖြောင့်မတ်သော အခြားရွှဲကုန်သည်က ငါတို့အား အသပြာ ငါးရာနှင့် ပါသမျှ ရွှဲအားလုံးကို ပေး၍ ခွက်ကို ယူသွားလေပြီ"ဟု ခက်ထန်စွာ ပြန်ပြောလေ၏။

သူငယ်မ၏စကားကို ကြားလျှင် ကောက်ကျစ်သော ရွှဲကုန်သည်သည် အသပြာ တစ်သိန်းထိုက်သော ရွှေခွက်ကို မိမိမရလိုက်သဖြင့် ပြင်းစွာ ပူပန်၏။ ဣန္ဒြေကိုပင် မဆောင်နိုင်ဘဲ ပါသမျှ အသပြာနှင့် ရွှဲအားလုံးတို့ကို ကြဲဖြန့်ကာ ရွှေခွက်ကို လုယူအံ့ဟု မြစ်ဆိပ်သို့ အလျှင်အမြန် လိုက်လေ၏။

မြစ်ဆိပ်သို့ ရောက်သောအခါ ကောက်ကျစ်သော ရွဲကုန်သည်သည် လှေသမားအား မိမိရှိရာ ဆိပ်ကမ်းအနီးသို့ လှေကို ပြန်၍ လှော်ခဲ့ရန် အတန်တန်ဟစ်ခေါ်ခေါ်၏။ သို့ရာတွင် လှေသမားသည် သူ့ကို ယုံးဝ ဂရုမစိုက်ဘဲ ဆက်၍သာ လှော်သွားလေရာ ကောက်ကျစ်သော ရွဲကုန်သည်သည် အဘိဇ္ဈာဒေါမနဿတို့၏ အရှိန်ကြောင့် ပြင်းပြစွာ ပူပန်ခြင်းဖြင့် ရုတ်တရက် လဲကျသေဆုံးသွားလေ၏။

(ဓေနိပါတ် ဇာတ်အဋ္ဌကထာ သေရိဝဝါဏိဇ္ဇဇာတ်)

## ဗျာပါဒဒုစရိုက်အပြစ်နှင့် အဗျာပါဒသုစရိုက်အကျိုးပြ

## သည်းခံစိတ်ထားရှိသော ကျောင်းဒကာဝတ္ထု

ကဿပဘုရားရှင် လက်ထက်တော်အခါက သုမင်္ဂလအမည်ရှိသော သေဌေးတစ်ဦးသည် ကြီးကျယ်ခမ်းနားသော ရွှေကျောင်းတော်ကြီးတစ်ဆောင်ကို ဆောက်လုပ်လှူဒါန်းထား၏။ မကြာခဏ ဘုရားကျောင်းတော်သို့ သွားလေ့ရှိ၏။ တနေ့သ၌ ကျောင်းမှအပြန် မြို့တံခါးအနီးရှိ ဇရပ်တစ်ဆောင်ပေါ်တွင် သက်န်းကို ခေါင်းမြီးခြုံ၍ အိပ်နေသော သူခိုးတစ်ယောက်ကို တွေ့မြင်၏။

"ခြေထောက်တွင် ရွှံ့ညွန်အလိမ်းလိမ်းကပ်လျက် သင်္ကန်းကို ခေါင်းမြီးခြုံကြီး ဤဇရပ်ပေါ်၌ မတော်မလျော် အိပ်စက်နေသူမှာ ရဟန်းအယောင်ဆောင်ကားသော သူခိုးသာ ဖြစ်ရမည်။ ဘယ်နည်းနှင့်မျှ ရဟန်းကောင်း မဖြစ်နိုင်"ဟု မှတ်ချက်ချ၍ ပြောဆို၏။

အယောင်ဆောင်သူခိုးသည် သူ့အား ဤကဲ့သို့ ပြောရမည်လားဟု အမျက်ဒေါသ ပြင်းစွာထွက်လျက် သေဌေးကို ရန်ငြိုးဖွဲ့၏။ သေဌေးပိုင်သော လယ်ယာများကို ခုနစ်ကြိမ်တိတိ မီးတိုက်ဖျက်ဆီး၏။ သေဌေးပိုင်သော နွားခြံသို့ ဝင်၍ ခုနစ်ကြိမ်တိတိ နွားများ၏ ခြေထောက်ကို ဓားဖြင့် ခုတ်ဖြတ်၏။ သေဌေး၏ နေအိမ်ကို ခုနစ်ကြိမ်တိတိ မီးကွင်းပစ်၍ ရှို့၏။

ခိုးသူသည် ဤမျှလောက် ဖျက်ဆီးရသည်ကို မကျေနပ်သေးမူ၍ သေဌေး၏ ကုသိုလ်ဖြစ်သော ဂန္ဓကုဋီ(နံ့သာရွှေကျောင်းတော်ကြီး)ကို မြတ်စွာဘုရား ဆွမ်းခံကြွနေသည့်အခိုက် မီးတိုက် ဖျက်ဆီးပြန်လေ၏။ သုမင်္ဂလသေဌေးသည် မီးလောင်ရာသို့ ပြေးလာပြီးလျှင် စိတ်မချမ်းသာခြင်း၊ ဒေါသထွက်ခြင်း အလျှင်းမရှိမူ၍ တစ်ကြိမ်လောင်သော် နှစ်ကြိမ်လှူမည်ဟု လက်ရုံးဆန့်၍ ပြောကြား၏။ မကြာမီ နောက်ထပ် ကျောင်းသစ်ကြီးတစ်ဆောင် ဆောက်လုပ်ပြီးလျှင် သံဃာနှစ်သောင်း ခြံရံလျက် မြတ်စွာဘုရားအား လှူဒါန်းပြန်၏။

ဗျာပါဒအားကြီးသော ခိုးသူသည် "ဤသေဋ္ဌေးကို အရှင်ထား၍ အရှက်တကွဲ အကျိုးနည်းအောင် လုပ်နေခြင်းကကော် အသေသတ်ပစ်မှ နားအေးမည်" ဟု ပြင်းထန်သော အစွဲဖြင့် ဓားမြှောင်ကို ခါးထိုး၍ အမြဲတစေ ချောင်းမြောင်းနေ၏။ သို့သော် အခွင့်မသာ၍ မသတ်နိုင်။

သေဋ္ဌေးကြီးသည် မြတ်စွာဘုရားနှင့် ရဟန်းသံဃာတို့ကို ပင့်၍ ကျောင်းရေစက်ချပွဲကို ပြုလုပ်သောအခါ "တပည့်တော်၏ အကျိုးတရားပျက်ပြားအောင် ဖျက်ဆီးပြီး အသက်ကိုပင် ရန်ရှာနေသောသူသည် ဤပရိသတ်အတွင်း၌ ရှိနေပါသည်။ ထိုသူအား တပည့်တော် အမျက်ဒေါသမထားသည့်အပြင် ယခုပြုသော ကုသိုလ်အဖို့ကို ထိုသူအား ရှေးဦးစွာ ပေးပါ၏"ဟု လျှောက်ထား၏။

ထိုစကားကို ကြားသောအခါ သတ်ဖြတ်ရန် ချောင်းမြောင်းနေသော ခိုးသူသည် မိမိ၏ အမှားကိုသိ၍ သေဋ္ဌေးကြီးအား သည်းခံရန် တောင်းပန်၏။ သေဋ္ဌေးကြီးက သည်းခံသော်လည်း သူ၏ဗျာပါဒစေတနာကြောင့် သေသောအခါ အဝီစိငရဲ၌ နှစ်ပေါင်းများစွာ ခံရလေ၏။ ငရဲမှ လွတ်သောအခါ ရာဇဂြိုဟ်မြို့အနီး ဂိဇ္ဈကူဋတောင်ဝယ် တစ်ကိုယ်လုံး မီးလောင်၍ ဝေဒနာ ပြင်းပြစွာ ခံစားရသော စပါးကြီးမြွေ ပြိတ္တာကြီး ဖြစ်ရပြန်လေ၏။

(ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယအုပ်၊ ဒဏ္ဍဝဂ်၊ အဇဂရပေတဝတ္ထု)

## မိစ္ဆာဒိဋ္ဌိနှင့် သမ္မာဒိဋ္ဌိ ဒုစရိုက်သုစရိုက်နှစ်မျိုးရ အနာထပိဏ်သေဋ္ဌေးနှင့် တံခါးစောင့်နတ်ဝတ္ထု

ဗုဒ္ဓသာသနာသမိုင်းတွင် သာဝတ္ထိပြည်မှ အနာထပိဏ် သေဋ္ဌေးကြီးသည် အလှူဒါနပြုလုပ်ရာတွင် စံတင်ထိုက်သော သေဋ္ဌေးကြီးတစ်ဦးဖြစ်၏။ ဇေတဝန်ကျောင်းတော်ကြီးကို ငါးဆယ့်လေးကုဋေ အကုန်ခံ၍ လှူဒါန်းရသည်ကိုပင် အားရတင်းတိမ်မှုမရှိဘဲ တစ်နေ့သုံးကြိမ် ဘုရားကျောင်းတော်သို့ သွားလေ့ရှိ၏။ နံနက် သွားလျှင် ယာဂု၊ နေ့လယ်သွားလျှင် အဖျော်ယမကာ၊ ညနေသွားလျှင် ပန်းနံ့သာ ယူဆောင်သွားလေ့ရှိ၏။

တချိန်တွင် သေဋ္ဌေးကြီးသည် စီးပွားရေး မပြေလည်၍ ဆင်းရဲနွမ်းပါးသွား၏။ သို့သော် အလှူအတန်းကိုကား မလျှော့ပေ။ ဤကဲ့သို့ အလှူအတန်းပြုလုပ်ခြင်းကို သေဋ္ဌေးကြီး၏နေအိမ် စတုတ္ထတံခါးတွင် စောင့်နေသော မိစ္ဆာဒိဋ္ဌိနတ်သည် ကြားမှ ဝန်တိုမိစ္ဆာဖြစ်ပြီး မကြည်ညိုနိုင်ရှိ၏။ သေဋ္ဌေးကြီး အိမ်သို့ ရဟန်းသံဃာများ ကြွလာသောအခါ သူက နေရာမှ မကြာခဏ ဖယ်ပေးနေရသောကြောင့် အလိုလို အမျက်ထွက်၍နေ၏။

တနေ့တွင် မိစ္ဆာဒိဋ္ဌိနတ်သည် ကိုယ်ထင်ပြလျက် "အသင်သေဌေးကြီးသည် နောင်ရေးကို မကြည့်ဘဲ ဂေါတမသာသနာကိုချည်း အလကားလှူပစ်သောကြောင့် ပစ္စည်းပြုန်း၍ ဆင်းရဲခြင်းသို့ ရောက်ခဲ့ရသည်၊ ပေးလှူခြင်းဖြင့် ဘာအကျိုးရှိသနည်း၊ မိုက်လေစွ"ဟု အပြစ်တင်စကား ဆိုလေ၏။

ယင်းသို့ မိစ္ဆာအမြင်ဖြင့် အလှူဒါနကို မပြုလုပ်ရန် တားမြစ်သောအခါ သေဌေးကြီးသည် မိစ္ဆာနတ်အား မိမိနေအိမ် စတုတ္ထတံခါးမှ ထွက်သွားရန် နှင်ထုတ်လိုက်လေ၏။ မိစ္ဆာဒိဋ္ဌိနတ်သည် ခိုကိုးရာမဲ့ဖြစ်ကာ သိကြားမင်းထံသွား၍ သေဌေးကြီး ကျေနပ်သည်အထိ တောင်းပန်ပေးရန် ပန်ကြားလေ၏။

သိကြားမင်းက သေဌေးကြီးသည် အလှူဒါန၌ အလွန်ဝါသနာပါသူ ဖြစ်သည်၊ ဘားမြစ်ပိတ်ပင်၍ မလျော်၊ ယခုအချိန်၌ သေဌေးကြီးတွင် ပစ္စည်းဥစ္စာများ နွမ်းပါးလျက်ရှိရာ သေဌေးကြီးထံမှ ချေးငှားထားသူများကို သေဌေးကြီးအား ပစ္စည်းဥစ္စာများ မှန်မှန်ကန်ကန် ပြန်၍ ပေးဆပ်ကြရန် သင်က လိုက်လံ နှိုးဆော်ပေးပါဟု အကြံပြုလေ၏။

သိကြားမင်းအကြံပြုသည့်အတိုင်း ကြွေးယူသူများကို လိုက်လံဆော်ဩပေးရာ ပစ္စည်းယူသူအားလုံးက ပြန်လည်ပေးပို့ကြသောကြောင့် သေဌေးကြီးသည် ယခင်အတိုင်း ပြန်လည်ကြွယ်ဝချမ်းသာလေ၏။ မိမိမှားကြောင်း ဝန်ချ၍ တောင်းပန်သော မိစ္ဆာဒိဋ္ဌိနတ်အား ခွင့်လွှတ်ပြီးလျှင် အယူမှားကို စွန့်၍ အယူမှန်ကို ပြောင်းယူသဖြင့် သမ္မာဒိဋ္ဌိဖြစ်ပြီးလျှင် သောတာပတ္တိဖိုလ်၌ တည်၍ အကျွတ်တရားကို ရရှိသွားလေ၏ (ဓမ္မပဒအဋ္ဌကထာ ပါပဝဂ် အနာထပိဏ်ဍိကဝတ္ထု၊ ဇာတ်အဋ္ဌကထာ ကုလဝကဝဂ် ခဒိရင်္ဂဇာတ်)။

## ဝဋ်အမြဲ ငရဲအပ

မြန်မာ့စကားပုံတို့တွင် "ဝဋ်အမြဲ ငရဲအပ" ဟူသော စကားပုံလည်း ပါဝင်၏။ ထိုစကားပုံသည် ဗုဒ္ဓဘာသာနယ်ပယ်မှ စကားပုံဖြစ်သည်။ မြတ်ဗုဒ္ဓ၏တရားဓမ္မနှင့် ဆက်စပ်နေပြီး သဘောအဓိပ္ပာယ် လေးနက်သော စကားပုံ ဖြစ်သည်။

### ဝဋ်ဟူသည် အဘယ်နည်း

ဝဋ်"ဟူသည် "ဝဋ္ဋ"ဟူသော ပါဠိစကားမှ ဆင်းသက်လာ၏။ သံသရာ လည်ပတ်ခြင်း၊ အကြောင်းပြီးအကျိုး, အကျိုးပြီးအကြောင်း ဆက်စပ်ဖြစ်ပျက်ခြင်း၊ မကောင်းမှုပြုသည့်အတွက် သံသရာဘဝခရီး၌ ဆိုးကျိုးတစုံတရာကို ခံစားရခြင်း စသော သဘောအဓိပ္ပာယ်များ ရှိပါသည်။

အဘိဓမ္မတ္ထသင်္ဂဟ(သင်္ဂြိုဟ်)ကျမ်း၊ ပစ္စယသင်္ဂဟအပိုင်းတွင် "ဝဋ်"ဟူသည်-

(၁) ကိလေသဝဋ် (အဝိဇ္ဇာ၊ တဏှာ၊ ဥပါဒါန်သုံးပါး)

(၂) ကမ္မဝဋ် (ကုသိုလ်ကံ,အကုသိုလ်ကံ)

(၃) ဝိပါကဝဋ် (အကျိုးတရားများ)-

ဟူ၍ သုံးမျိုးပြထား၏။ ထိုတွင် အထက်ပါစကားပုံအရ "ဝဋ်"သည် နောက်ဆုံးအချက် ဝိပါက (အကျိုးတရား) ဝဋ်နှင့် သက်ဆိုင်၏။ သို့ဖြစ်၍ "ဝဋ်"နှင့် "ဝိပါက" (ဝိပါက်)သည် စကားလုံး ကွဲပြားသော်လည်း သဘောအဓိပ္ပာယ် မကွဲပြားပါချေ။ ထို့ကြောင့် တစ်စုံတယောက်သည် ဒုက္ခကြီးစွာ ခံစားနေရလျှင် "ဝဋ်ခံနေရတယ်၊ ဝိပါကဝဋ်ကြီးတယ်"ဟူ၍ လည်းကောင်း၊ "သူတပါးကို မညှဉ်းဆဲနဲ့၊ ဝဋ်လိုက်တတ်တယ်၊ ဝဋ်အမြဲ ငရဲအပ တဲ့"ဟူ၍ လည်းကောင်း အစဉ်အလာ ပြောဆိုကြခြင်း ဖြစ်သည်။

## ငရဲ၏အဓိပ္ပာယ်

"ငရဲ"ကား "နိရယ"ဟူသော ပါဠိစကားမှ ဆင်းသက်လာ၏။ [နိ + (ရ)အယ၊ အယ= ချမ်းသာ + နိ=မရှိ] ချမ်းသာသုခကို ရခွင့်မရှိသောကြောင့် ငရဲ(နိရဲ)ဟု ခေါ်ခြင်း ဖြစ်သည်။ ယင်းငရဲသည် သိဉ္ဇိုးငရဲစသည်ဖြင့် ငရဲကြီးရှစ်ထပ်ရှိကြောင်း ဤကျမ်းစာအုပ် အခန်း (၆) သံသရာနှင့် သုံးဆယ့်တစ်ဘုံ အခန်းတွင် ဖော်ပြထားပါသည်။ ထိုငရဲ တစ်ထပ်တစ်ထပ်တွင်လည်း ဘင်(မစင်)ပုပ် ငရဲ၊ ပြာပူငရဲ၊ ယက်ပံတောငရဲ၊ သံလျက်ရွက်ငရဲ၊ ကြိမ်ပိုက်ချောင်းငရဲဟု ငရဲငယ်(ဥဿဒ)ငါးထပ်စီ တံတိုင်းခတ်သလို ရံပတ်တည်ရှိနေ၏။ ထိုအားလုံးကို "ငရဲ"ဟု ခေါ်ခြင်းဖြစ်သည်။

## ဝဋ်အဘယ်သို့ မြဲသနည်း

တစ်စုံတယောက်သည် တစ်စုံတယောက်အား ပြစ်မှားမိပါက ထိုသူသည် ငရဲ၌ ဆင်းရဲဒုက္ခကို ခံစားနေရမည်ဖြစ်၏။ ငရဲမှ လွတ်လျှင်လည်း ဆင်းရဲဒုက္ခ တစ်မျိုးမျိုးကို ပြုမိခဲ့သော အကုသိုလ်အားလျော်စွာ ခံစားရတတ်ပြန်သည်။ ယင်းသို့ ခံစားရခြင်းကိုပင် ဝဋ် (ဝိပါက်)ဟု ခေါ်ခြင်းဖြစ်သည်။ ထိုဝဋ်(ဝိပါက်)ခေါ် မကောင်းကျိုးကို မြတ်စွာဘုရားသည်ပင် ရှောင်လွှဲ၍ မရနိုင်ချေ။

မြတ်စွာဘုရား ဝဋ်(ဝိပါက်)ခံတော်မူရခြင်းနှင့် ပတ်သက်၍ ကြည့်ကန်ရှင်ကြီးမည်သော ပညာရှင်က "ခြေမ တော်တဲ့၊ ကွဲပြန်ခဲ့၊ ဘဲ့ဝိပါက်တော်ပါနည်း"ဟု "အဲ့ကာရန္တ"သတ်ပုံ ပုစ္ဆာခန်းတွင် မေးမြန်းထားပါသည်။

ဤမေးခွန်းသည် "ဝဋ်"(ဝိပါက်)တော်သုံးပါးကို သိမ်းကျုံး၍ မေးမြန်းထားခြင်း ဖြစ်ကြောင်း ကျီးသဲလေးထပ်ဆရာတော်က "စွယ်စုံကျော်ထင်"ကျမ်းတွင် သုံးသပ် ဖြေဆိုထား၏။ သုံးပါးအနက် ပထမဝဋ်(ဝိပါက်)တော်ကား ဤသို့တည်း-

လွန်လေပြီးသောအခါ ဂေါတမဘုရားအလောင်းတော်သည် သူကြွယ်မျိုး၌ ဖြစ်၏။ ဖခင်တူညီယော်နှင့် စည်းစိမ်ဥစ္စာကို အကြောင်းပြုပြီး ခိုက်ရန်ဖြစ်ပွားကြ၏။ ညီယော်ကို လိမ်လည်လှည့်ဖြားခေါ်ပြီး တောင်ချောက်ကြား၌ ကျောက်ဖြင့် ထုခတ်သတ်လေ၏။ ဤမကောင်းမှု အကုသိုလ်ကြောင့် ငရဲ၌ ခံခဲ့ရရုံမျှမက နောက်ဆုံး ဘုရားဖြစ်သော ဘဝ၌ပင် အရှင်ဒေဝဒတ်၏ ဝေဘာရတောင်စောင်း၌ ကျောက်မောင်းဆင် လုပ်ကြံခြင်းကို ခံခဲ့ရလေသည်။ တောင်ထိပ်မှ ကျောက်တုံးကြီး လိမ့်လာသောအခါ ဘုရားရှင်၏ ဘုန်းတော်ကြောင့် လမ်းခုလတ်မှ ကျောက်တုံးတစ်တုံးက ဆီးကြိုခံလင့်၏။ ထိုကျောက်တုံးချင်း ထိခတ်စဉ် ကျောက်လွှာတစ်ခုသည် ပဲ့စင်ထွက်၍ ဘုရားရှင်၏ ခြေမတော်ကို ထိခိုက်ပြီး ဆင်းရဲဒုက္ခများစွာ ခံစားတော်မူရလေသည်။ ဤသည် ကား ပထမဝဋ်(ဝိပါက်)တည်း။

မြတ်စွာဘုရားတွင် ထိုကျောက်ထိမှုနှင့် ဆက်စပ်၍ နောက်ထပ် ရှေးဘဝ အကြောင်းကံတစ်ခု ရှိနေသေး၏။

လွန်လေပြီးသော ဘဝတစ်ခု၌ ဘုရားအလောင်းသည် ကလေးငယ်သဘာဝ ကစားနေစဉ် အရှင်ပစ္စေကဗုဒ္ဓါတစ်ပါး ဆွမ်းခံဝင်လာ၏။ ကလေးငယ်သည် ပျော်ရွှင် လိုသဖြင့် အရှင်ပစ္စေကဗုဒ္ဓါ၏ ခြေမတော်ကို ကျောက်ဖြင့် ပစ်ခတ်၏။ ခြေမတော်ကို ထိသဖြင့် အရှင်ပစ္စေကဗုဒ္ဓါသည် အလွန်နာကျင်သော ဝေဒနာကို ခံစားခဲ့ရလေသည်။ ထို မကောင်းမှုကံအစွမ်းကြောင့် အရှင်ဒေဝဒတ် ကျောက်မောင်းဆင် လုပ်ကြံစဉ် ခြေမတော်ကို ကျောက်ထိရုံမျှသာ မဟုတ်၊ ခြေမတော်၌ သွေးစိမ်းတည်သည်အထိ ဒဏ်ရာအနာတရဖြစ်ပြီး ဆင်းရဲဝေဒနာကို ကြာရှည်စွာ ခံစားရလေသည်။ ဤကား ဒုတိယဝဋ်(ဝိပါက်)ဖြစ်သည်။

ထိုသို့ ကျောက်ထိခြင်းနှင့်ဆက်စပ်၍ နောက်ထပ် ရှေးဘဝ အကုသိုလ်ကံ တစ်မျိုးလည်း ရှိနေခဲ့ချေသေး၏။

လွန်လေပြီးသောအခါ ဂေါတမဘုရားအလောင်းတော်သည် ပဒေသရာဇ်မင်း ဖြစ်ခဲ့ဖူး၏။ ထိုဘဝတွင် လူယုတ်မာနှင့် ပေါင်းမိသဖြင့် သောက်စားမူးယစ်ပြီး အပြစ်မရှိ သူအား ဓားဖြင့် ခွဲစိတ်ခဲ့ဖူးလေသည်။ ထိုအကုသိုလ်ကံကြောင့် ငရဲ၌

ခံရပြီးနောက် ဘုရားရှင်ဖြစ်တော်မူလာသော ဘဝမှာပင် ခြေမတော်ကို ကျောက်ထိရုံ့ သွေးစိမ်းတည်ရုံနှင့် မပြီးသေး။ ဆေးဆရာဇီဝက၏ ဓားဖြင့်ခွဲ၍ ခြေမတော်၌ တည်နေသည့်သွေးခဲကို ထုတ်ယူကုသမှုအတွက် ပြင်းထန်သော ဝေဒနာကိုပါ ခံစားရရှာလေသည်။ ဤကား တတိယဝဋ် (ဝိပါက်)ဖြစ်သည်။

မြတ်စွာဘုရား ခံတော်မူရသော ဝဋ်(ဝိပါက်)တော်တို့ကား ဖော်ပြပါ သုံးပါး အပါအဝင် တစ်ဆယ့်နှစ်ပါးရှိကြောင်း အပဒါန်ပါဠိတော်တွင် [၁] ဖော်ပြထားပါသည်။

အရှင်မောဂ္ဂလာန်၏ "ဝဋ်" (ဝိပါက်)တော်လည်း ရှိသေး၏။ အရှင်မောဂ္ဂလာန် အလောင်းတော်သည် တစ်ခုသောဘဝ၌ မယား၏အလိုဆန္ဒအရ မိဘနှစ်ပါးကို တောသို့ထုတ်ပြီး သူခိုးဓားပြယောင်ဆောင်ကာ ရိုက်ခဲ့ဖူး၏။ ထိုအကုသိုလ်ကံကြောင့် သေလျှင် ငရဲသို့ ကျခဲ့ရသည်။ နောက်ဆုံး အရှင်မောဂ္ဂလာန်ဘဝ၌ တန်ခိုးအရာမှာ ဧတဒဂ်ရပါလျက် ခိုးသူတို့၏ ရိုက်နှက်သတ်ဖြတ်မှုကို ခံရပြီး ပရိနိဗ္ဗာန်စံခဲ့ရလေသည်။ [၂]

အထက်ပါ သာဓကတို့ကို ကြည့်လျှင် ပြုခဲ့မိသော အကုသိုလ်ကံကြောင့် ငရဲသို့ ကျရောက်ရုံမျှဖြင့် မပြီးသေး။ အခွင့်သင့်သော ဘဝမှာ ဝဋ်(ဝိပါက်)ခေါ် ဆင်းရဲဒုက္ခတစ်မျိုးမျိုးကို ဆက်လက် ခံစားရသေးသည်။ မခံစားရအောင် မည်သူမျှ မရှောင်လွှဲနိုင်ကြချေ။ သို့ဖြစ်၍ "ဝဋ်မှာအမြဲ"ဟု ဆိုထုံးပြုခဲ့ကြခြင်း ဖြစ်လေသည်။

## ငရဲကို ဘယ်လို ပ–သနည်း

ငရဲကား ဝဋ်(ဝိပါက်)ကဲ့သို့ မဟုတ်၊ မကောင်းမှု အကုသိုလ်ကို ပြုလုပ်လျှင် ငရဲသို့ ကျရောက်ရတတ်၏ဟု ဆိုသော်လည်း အကုသိုလ်ပြုမိတိုင်း ငရဲသို့ ရောက်ကြရသည်မဟုတ်၊ အကုသိုလ်ကို အမှန်တကယ် ပြုပါလျက် ငရဲနှင့် လွဲချင်လွဲတတ်သော သာဓကများ ရှိကြပါသည်။

မြတ်ဗုဒ္ဓ၏လက်ထက်တော်က ရာဇဂြိုဟ်ပြည်တွင် တမ္ဗဒါဌိကမည်သော ခိုးသူသတ်သမား တစ်ဦး ရှိခဲ့၏။ သူသည် နှစ်ပေါင်း ငါးဆယ့်ငါးနှစ်တိုင်တိုင် ဘုရင့် အကျဉ်းထောင်မှ သေဒဏ် အပေးခံရသူများကို သတ်ခဲ့လေသည်။ ထိုအကုသိုလ်ကြောင့် သေလျှင် ငရဲသို့ ရောက်ရမည်ဖြစ်၏။ ဤအခြေအနေတွင်

---

၁။ အပဒါန်ပါဠိတော်-၃၄၆။ ၂။ ဓမ္မပဒဒ၊ မဟာမောဂ္ဂလာနတ္ထေရဝတ္ထု။ ၄၁။

**မွေးမိခင်၏ အိမ်၌** ဝါတွင်းသုံးလပတ်လုံး ဆွမ်းကဦးပေး၍ နေပါသော်လည်း "**ဦးပဉ္ဇင်းက ဒါယိကာမကြီး၏**သား၊ ဒါယိကာမကြီးက ဦးပဉ္ဇင်း၏မယ်တော်"ဟု ဤမျှကိုသော်မှ **မပြောဘဲ** နေနိုင်တော်မူပါသည်၊ အံ့ဩဖွယ် ယောကျာ်းပါတကား ဟု မထေရ်အား လျှောက်ထား၏။ ဤပဉ္ဇင်းငယ်ကား အမိအဘတို့သော်မှလည်း ပလိဗောဓ မဖြစ်ပေ၊ အခြားသော အလုပ်အကျွေးဖြစ်သော ဒါယကာ၊ ဒါယိကာမ တို့မှုကား အဘယ်ဆိုဖွယ်ရာရှိအံ့နည်း။

## (၃) လာဘပလိဗောဓ

ပစ္စည်းလေးပါးတို့ကို လာဘ်ဟု ဆိုအပ်ပေသည်၊ ထိုပစ္စည်းလေးပါးတို့သည် အဘယ်သို့လျှင် ပလိဗောဓဖြစ်သနည်းဟူမူ- ဘုန်းတန်ခိုးကြီးမားသော ရဟန်းအား ရောက်လေရာရာ အရပ်၌ လူတို့သည် များစွာသော ပစ္စည်းတို့ကို လှူဒါန်း ကြ၏။ ထိုရဟန်းသည် လူတို့အား အနုမောဒနာတရား ဟောရသည်ဖြစ်၍ ရဟန်း တရားကို အားထုတ်ခြင်းငှါ အခွင့်မရတော့ပေ။

တဖန် မိုးမလင်းမီ နံနက်စောစော၌ပင် ပစ္စည်းများခြင်းကို လိုလားသော ပိဏ္ဍပါတ်စုတင်ဆောင်ရဟန်းတို့သည် ကြွလာကြသောအခါ "အရှင်ဘုရား- ဤမည် သော ဥပါသကာ, ဥပါသိကာမ, အမတ်, အမတ်၏သမီးသည် အရှင်ဘုရား တို့ကို ဖူးမြင်လိုပါသည်"ဟု လျှောက်ကြ၏။ ထိုဘုန်းကြီးသော ရဟန်းသည် "ငါ့ရှင် သပိတ် သက်န်းကို ယူခဲ့လော့"ဟု အလုပ်အကျွေး တပည့်ရဟန်းကို စေခိုင်း၍ သွားခြင်းငှါစီမံရ၏။ ဤနည်းဖြင့် ဒါယကာတို့ကို ချီးမြှင့်ခြင်း၌ အမြဲကြောင့်ကြ စိုက်ရ၏။ ထိုကဲ့သို့သော ရဟန်းအားသာလျှင် ပစ္စည်းလေးပါးတို့သည် ပလိဗောဓ ဖြစ်ကြပေသည်။ ထိုဘုန်းကြီးသော ရဟန်းသည် ဒါယကာ၊ ဒါယိကာမအပေါင်းကို စွန့်ခွါ၍ မိမိကို သိသူတို့မရှိကြရာအရပ်၌ တစ်ပါးတည်း ကျင့်သင့်ပေသည်။ ဤသို့ ကျင့်သည်ရှိသော် ပလိဗောဓ ပြတ်လေတော့၏။

## (၄) ဂဏပလိဗောဓ

သုတ္တန်ဆောင်ဂိုဏ်းကိုဖြစ်စေ၊ အဘိဓမ္မာဆောင်ဂိုဏ်းကိုဖြစ်စေ ဂိုဏ်းဟု ဆိုအပ် ပေသည်။ ထိုဂိုဏ်းအား ပါဠိကိုဖြစ်စေ အဋ္ဌကထာကိုဖြစ်စေ ပို့ချပေးရသည်ဖြစ်၍ ရဟန်းတရား အားထုတ်ခြင်း၏ အခွင့်မရသော ရဟန်းအားသာလျှင် ဂိုဏ်းသည် ပလိဗောဓဖြစ်ပေသည်။ ဂိုဏ်းပလိဗောဓရှိသော ထိုရဟန်းသည် ပလိဗောဓကို ဤသို့ ဖြတ်အပ်၏၊ အကယ်၍ ထိုသင်ယူသူ ရဟန်းတို့သည် များစွာသင်ယူအပ်ပြီး သည်ဖြစ်၍ အကြွင်းအကျန်နည်းသည်ဖြစ်အံ့၊ ထိုအကြွင်းအကျန်ကို အပြီးသတ်၍

တောသို့ဝင်အပ်၏။ အကယ်၍ အနည်းငယ်သာ သင်ယူရသေးသည်ဖြစ်၍ အကြွင်းအကျန်များသေးသည်ဖြစ်အံ့၊ တစ်ယူဇနာထက် အလွန်မသွားဘဲ တစ်ယူဇနာ အပိုင်းအခြားအတွင်း၌ ဂိုဏ်းအား စာပေပို့ချတတ်သော အခြားရဟန်းသို့ ချဉ်းကပ်၍ "အရှင်သည် ဤရဟန်းတို့ကို ပါဠိသင်ပေးခြင်း စသည်တို့ဖြင့် ချီးမြှောက်တော်မူပါ"ဟု ပြောဆို လျှောက်ထားအပ်၏။ ဤသို့ လွှဲအပ်ရမည့် ပုဂ္ဂိုလ်ကို မရသော ရဟန်းသည် "ငါ့ရှင်တို့- ငါ့မှာ ကိစ္စတစ်ခု ရှိနေ၏၊ သင်တို့သည် ချမ်းသာရာ အရပ်များသို့ သွားကြပါကုန်"ဟု ဆို၍ ဂိုဏ်းကို စွန့်ပြီးလျှင် မိမိ၏ ရဟန်းကိစ္စကို ပြုသင့်ပေသည်။

## (၅) ကမ္မပလိဗောဓ

အမှုသစ်ကို အမှုကိစ္စဟု ဆိုအပ်ပေသည်။ ထိုအမှုကိစ္စကို ပြုသော ရဟန်းသည် လက်သမား စသည်တို့၏ လုပ်ခရသည် မရသည်ကို သိအပ်၏။ ပြုပြီးသော အမှု၊ မပြုရသေးသော အမှု၌ သိအောင် ကြောင့်ကြစိုက်ရ၏။ ထို့ကြောင့် အခါခပ်သိမ်း ပလိဗောဓ ဖြစ်ပေသည်။ ထိုအမှုကိစ္စဟူသော ပလိဗောဓကိုလည်း ဤဆိုလတ္တံ့သောနည်းဖြင့် ဖြတ်အပ်၏။ အကယ်၍ အမှုကိစ္စသည် အနည်းငယ် ကြွင်းကျန်သည် ဖြစ်အံ့၊ ထိုအနည်းငယ် ကြွင်းကျန်နေသော အမှုကိစ္စကို ပြီးဆုံး စေအပ်၏။ အကယ်၍ အကြွင်းအကျန်များသော် ထိုအမှုကိစ္စသည် သံဃာ့ အမှုကိစ္စဖြစ်မူ သံဃာအားဖြစ်စေ၊ သံဃာ့ဝန်ဆောင် ရဟန်းတို့အားဖြစ်စေ လွှဲအပ် သင့်၏။ ထိုသို့ လွှဲအပ်ရမည့်သူကို မရရှိသော ရဟန်းသည် သံဃာအား စွန့်ခွါ၍ သွားသင့်ပေသည်။

## (၆) အဒ္ဓါနပလိဗောဓ

ခရီးသွားခြင်းကို "အဒ္ဓါန" (ခရီး)ဟု ဆိုအပ်ပေသည်။ အကြင်ရဟန်းအား တစုံတခုသောအရပ်၌ ရှင်ပြုပေးရမည့် ရှင်လောင်းသော်လည်း ရှိငြားအံ့၊ ရသင့်ရထိုက်သော တစုံတခုသော ပစ္စည်းသော်လည်း ရှိငြားအံ့၊ ရှင်ပြုပေးရမည့် ရှင်လောင်းကို ရှင်မပြုရခြင်း၊ ရသင့်ရထိုက်သော ပစ္စည်းကို မရရှိခြင်းတို့ကြောင့် သည်းမခံနိုင်ပါမူ တောသို့ ဝင်၍ ရဟန်းတရားကို အားထုတ်နေသော်လည်း ခရီးသွားလိုစိတ်ကို ဖျောက်နိုင်ခဲ၏။ ထို့ကြောင့် ခရီးသွား၍ အမှုကိစ္စအားလုံးကို ပြီးဆုံးစေပြီးမှသာလျှင် ရဟန်းတရား၌ ကြောင့်ကြစိုက်ခြင်း၊ အားထုတ်ခြင်းကို ပြုသင့်ပေသည်။

## (၇) ဉာတိပလိဗောဓ

ဆွေမျိုးဟူသည်ကား ကျောင်း၌ ဆရာ၊ ဥပဇ္ဈာယ်ဆရာ၊ အတူနေတပည့်[၁]၊ အနီးနေတပည့်[၂]၊ ဥပဇ္ဈာယ်တူသီတင်းသုံးဘော်၊ ဆရာတူသီတင်းသုံးဘော် တို့သည် (ဆွေမျိုး)မည်၏။ အိမ်၌ အမိ၊ အဘ၊ အစ်ကို၊ နှစ်မ အစရှိသော သူတို့သည် (ဆွေမျိုး)မည်၏။ ထိုဆရာ စသည်တို့သည် မမာမကျန်းကုန်လတ်သော် ဤယောဂီ ရဟန်းအား ပလိဗောဓ ဖြစ်ကုန်၏။ ထို့ကြောင့် ဆရာ စသော ပုဂ္ဂိုလ်တို့ကို လုပ်ကျွေးပြုစု၍ ပကတိအတိုင်း ကျန်းမာအောင် ပြုခြင်းဖြင့် ထိုပလိဗောဓကို ဖြတ်အပ်၏။

ထိုဆရာစသည်တို့တွင် ရှေးဦးစွာ ဥပဇ္ဈာယ်သည် မမာမကျန်းဖြစ်၍ နာတာ ရှည်ရောဂါဖြစ်ကာ အိပ်ရာမှ မထနိုင်သည့်တိုင်အောင် ဖြစ်ငြားအံ့၊ တစ်သက်လုံး သော်လည်း လုပ်ကျွေးပြုစုအပ်၏။ ရှင်ပြုပေးသော သရဏဂုံဆရာ၊ ရဟန်းပြုပေးသော ကမ္မဝါစာဆရာ၊ အတူနေတပည့်၊ မိမိက ကမ္မဝါဖတ်၍ ရဟန်းပြုပေးထားသော အနီးနေတပည့်၊ သရဏဂုံပေး၍ ရှင်ပြုပေးထားသော အနီးနေတပည့်၊ ဥပဇ္ဈာယ်တူ သီတင်းသုံးဘော်တို့ကိုလည်း ထို့အတူပင် လုပ်ကျွေးပြုစုအပ်၏။ နိဿရည်းဆရာ၊ ကျမ်းဂန်သင်ကြားပေးသောဆရာ၊ နိဿရည်းယူတပည့်၊ ကျမ်းဂန်သင်ယူသည့် တပည့်၊ ဆရာတူ သီတင်းသုံးဘော်တို့ကိုမူကား နိဿရည်း(သို့မဟုတ်) ကျမ်းဂန် သင်ကြားမှု မပြတ်သေးသမျှ ကာလပတ်လုံး လုပ်ကျွေးပြုစုအပ်၏၊ စွမ်းနိုင်ပါမူ ထို့ထက်အလွန်လည်း လုပ်ကျွေးပြုစုအပ်သည်သာတည်း။ အမိအဘတို့၌လည်း ဥပဇ္ဈာယ်၌ကဲ့သို့ ကျင့်အပ်၏။

## (၈) အာဗာဓပလိဗောဓ

အနာရောဂါဟူသည်ကား - တစုံတခုသော အနာရောဂါတည်း။ ထိုအနာ ရောဂါသည် နာကျင်ခံခက် နှိပ်စက်လတ်သော် ရဟန်းအား ပလိဗောဓ ဖြစ်၏။ ထို့ကြောင့် ထိုပလိဗောဓကို ဆေးကုခြင်းဖြင့် ဖြတ်ရမည်။ အကယ်၍ ရက်အနည်း ငယ် ဆေးကုသော်လည်း မပျောက်အံ့၊ "ငါသည် ခန္ဓာကိုယ်တည်းဟူသော ယင်း၏ ကျွန် မဟုတ်၊ အခစားလည်း မဟုတ်၊ သင့်ကိုသာလျှင် လုပ်ကျွေးလျက် အစ မထင်သော သံသရာ၌ ဆင်းရဲသို့ ရောက်ခဲ့ရလေပြီ"ဟု ခန္ဓာကိုယ်ကို ကဲ့ရဲ့၍ ရဟန်းတရားကိုသာလျှင် အားထုတ်သင့်ပေသည်။

---

၁။ သဒ္ဒိဝိဟာရိကခေါ် အတူနေတပည့်ဟူသည်မှာ - ဥပဇ္ဈာယ်ယူထားသော တပည့်ဖြစ်သည်။
၂။ အန္တေဝါသိကခေါ် အနီးနေတပည့်ဟူသည်မှာ - ဥပဇ္ဈာယ်မှတပါးသော ဆရာတို့၏ တပည့် ဖြစ်သည်။

## (၉) ဂန္ထပလိဗောဓ

ကျမ်းဂန်ဟူသည်ကား ပိဋကတည်းဟူသော ပရိယတ်ကို ဆောင်ရွက်ခြင်းတည်း ထိုကျမ်းဂန်သည် ရွတ်အံသရဇ္ဈာယ်ခြင်း စသည်ဖြင့် အမြဲကြောင့်ကြစိုက်နေရသော ရဟန်းအား ပလိဗောဓ ဖြစ်၏။ အမြဲကြောင့်ကြစိုက်မနေရသော ရဟန်းအား ပလိဗောဓ မဖြစ်ပေ။

## မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်နှင့် မလယဝါသီ ဒေဝမထေရ်

မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်သည် မလယဝါသီ (မလယအရပ်၌ နေသော) ဒေဝမထေရ်၏ အထံသို့ သွား၍ ကမ္မဋ္ဌာန်း တောင်းလေ၏။ မလယဝါသီ ဒေဝမထေရ်သည် မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်အား "ငါ့ရှင်.... ပရိယတ်၌ ဘယ်အခြေအနေသို့ ရောက်ရှိပါသနည်း"ဟု မေးလေသည်။ မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်က "မဇ္ဈိမနိကာယ်ကို နှုတ်တက်ဆောင်ပါသည်ဘုရား"ဟု လျှောက်ထား၏။

ထိုအခါ မလယဝါသီ ဒေဝမထေရ်က "ငါ့ရှင်.... ဤမဇ္ဈိမနိကာယ်သည် ဆောင်ရန်ခက်ခဲ၏၊ မူလပဏ္ဏာသကို ရွတ်အံသရဇ္ဈာယ်သူအား မဇ္ဈိမပဏ္ဏာသသည် နှုတ်သို့ ရောက်လာတတ်၏။ ထိုမဇ္ဈိမပဏ္ဏာသကို ရွတ်အံသရဇ္ဈာယ်သူအား ဥပရိပဏ္ဏာသသည် နှုတ်သို့ ရောက်လာတတ်၏။ သင့်အား အဘယ်မှာလျှင် ကမ္မဋ္ဌာန်းနှလုံးသွင်းမှု ဖြစ်နိုင်လိမ့်မည်နည်း"ဟု လျှောက်ထား၏။

တဖန် မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်က "အရှင်ဘုရားတို့အထံ၌ ကမ္မဋ္ဌာန်းကို ရပြီးသည်ရှိသော် ပရိယတ်ကို နောက်တဖန် ပြန်၍ မကြည့်တော့ပါ ဘုရား"ဟု လျှောက်ထား၍ ကမ္မဋ္ဌာန်းကို ယူပြီးလျှင် ၁၉-နှစ်ပတ်လုံး ရွတ်အံသရဇ္ဈာယ်ခြင်းကို မပြုဘဲ အနှစ် (၂၀)ရောက်သောအခါ အရဟတ္တဖိုလ်သို့ ရောက်လေ၏။

ထိုအခါ သရဇ္ဈာယ်ခြင်းငှါ လာကြကုန်သော ရဟန်းတို့အား "ငါ့ရှင်တို့.... ငါသည် ပရိယတ်ကို မကြည့်သည်မှာ အနှစ်နှစ်ဆယ် ရှိပေပြီ၊ သို့သော်လည်း ငါသည် ဤမဇ္ဈိမနိကာယ်၌ လေ့ကျင့်ကျေပွန်ပြီး ဖြစ်၏၊ အားထုတ်ကြပါကုန်" ဟု မဇ္ဈိမနိကာယ်ဆောင် ဒေဝမထေရ်က ပြောကြားလေသည်။

## (၁၀) ဣဒ္ဓိပလိဗောဓ

တန်ခိုးဟူသည်ကား ပုထုဇဉ်တို့၌ဖြစ်သော တန်ခိုးတည်း၊ မှန်ပေ၏၊ ထိုပုထုဇဉ် တန်ခိုးသည် ပက်လက်အိပ်တတ်ကာမျှ သူငယ်ကဲ့သို့ လည်းကောင်း၊ ကောက်နု ကဲ့သို့ လည်းကောင်း မပျက်အောင် ဆောင်ထားရန် ခက်ခဲ၏၊ အနည်းငယ်မျှ

သော အနှောင့်အယှက်ဖြင့်ပင် ပျက်စီးတတ်၏။ ထိုတန်ခိုးသည် ဝိပဿနာ၏ ပလိဗောဓသာ ဖြစ်၏။ သမာဓိ၏ ပလိဗောဓကား မဖြစ်ပေ။ အဘယ်ကြောင့် ဆိုသော် သမာဓိသို့ ရောက်ပြီးမှသာ ထိုတန်ခိုးကို ရောက်နိုင်ခြင်းကြောင့်တည်း။

ထို့ကြောင့် ဝိပဿနာကို အလိုရှိသော သူသည် တန်ခိုးဟူသော ပလိဗောဓ ကိုလည်း ဖြတ်အပ်၏။ သမာဓိကို အလိုရှိသောသူကား ကြွင်းသောပလိဗောဓကြီး ၉-ပါးတို့ကိုသာ ဖြတ်အပ်ပေ၏။

ဆောင်ပုဒ်။ ။အာ, ကု, လာဘ၊ ဂိုဏ်း, ကိစ္စ၊ ပထ, ဉာ, အနာ။
ကျမ်းဂန်, တန်ခိုး၊ ဤဆယ်မျိုး၊ ဖြတ်ရိုး ဝိပဿ်မှာ။
(အရှင်ဇာဂရ-ဝိပဿနာကြေးမုံကျမ်း)

## ပလိဗောဓငယ် (၅)ပါး

"ခုဒ္ဒကပလိဗောဓပစ္ဆေဒံ ကတွာ" စသည်ဖြင့် ဝိသုဒ္ဓိမဂ်၌ ကြောင့်ကြဖွယ် ဟူသော ပလိဗောဓငယ် ၅-ပါးလာ၏-

၁။ ရှည်သောဆံပင်၊ မုတ်ဆိတ်၊ လက်သည်း၊ ခြေသည်းတို့ကို ပယ်အပ်၏။

၂။ ဆွေးမြေ့ စုတ်ပြတ်သော သင်္ကန်း၊ အဝတ် စသည်များကို ခိုင်မြဲအောင် ဖာထေးစပ်ချုပ်ခြင်းကို ပြုအပ်၏။

၃။ ဟောင်းနွမ်း ညစ်ပေသော သင်္ကန်း၊ အဝတ် စသည်များကို ဖွပ်လျှော် ထပ်ဆိုး လိပ်နယ်ခြင်းကို ပြုအပ်၏။

၄။ အညစ်အကြေးတင်သော သပိတ်များရှိလျှင် စင်ကြယ်အောင် မီးဖုတ်ခြင်း စသည်ကို ပြုလုပ်အပ်၏။

၅။ အိပ်ရာ၊ ခုတင်၊ အင်းပျဉ်၊ ညောင်စောင်း စသည်ကို ပြုပြင်အပ်၏- ဟူ၍ ၅-ပါးရှိပါသည်။

လူများမှာလည်း ခေါင်းဆေးလျှော်ခြင်း စသော အထက်၌ ဆိုခဲ့သည့် စပ်ဆိုင်ရာ ကြောင့်ကြဖွယ် အမှုငယ်များကို ပြုပြင်၍ ထားအပ်၏။

ဤပလိဗောဓငယ်မှာ ကမ္မဋ္ဌာန်းအာရုံကို နှလုံးသွင်း၍ ဝိပဿနာသဘောကို မရိပ်မိသေးမီ ၅-ရက်၊ ၇-ရက်၊ ၁၀-ရက် စသည်ဖြင့် နေ့ရက် နှစ်ဉ်အတွင်းမှာ ကြောင့်ကြခြင်း မရှိစေရန်သာ ရှေးဦးစွာ ပြုလုပ်ထားရသည်။ ဝိပဿနာသဘောကို ရိပ်မိသောအခါ မခဲယဉ်းပေ။ စမ်းသပ်အားထုတ်ကြည့်လျှင် ထင်ရှား သိသာပေ လိမ့်မည်။

**စရိုက်**

စရိုက်ဆိုသည်မှာ ပင်ကိုရိုးရာ သူတကာဖြစ်နေကျထက် လွန်လွန်ကဲကဲ ဖြစ်တတ်သည်ကို ခေါ်သည်။

**စရိုက် ၆-ပါး**

စရိုက်သည် ၆-ပါး အပြားရှိ၏၊ ထို ၆-ပါးကား-

(၁) ရာဂစရိုက် - ဝတ္ထုကာမ၊ ကိလေသာကာမတို့၌ လွန်ကဲစွာ ကပ်ငြိတတ်သောအကျင့်၊
(၂) ဒေါသစရိုက် - အာဃာတ၊ ဗျာပါဒ၊ မစ္ဆရိယ စသည်တို့၌ လွန်ကဲသည့်အကျင့်၊
(၃) မောဟစရိုက် - ထိုင်းမှိုင်းတွေဝေခြင်း လွန်ကဲသည့်အကျင့်၊
(၄) သဒ္ဓါစရိုက် - ယုံကြည်လွယ်လေ့ရှိသောအကျင့်၊
(၅) ဝိတက်စရိုက် - စိတ်ကူးယဉ်တတ်သောအကျင့်၊
(၆) ပညာစရိုက် - အရာအရာ၌ အကြောင်းအကျိုး အကောင်းအဆိုးတို့ကို ဆင်ခြင်တတ်သောအကျင့်-

ဟူ၍ စရိုက်အပြား ၆-ပါးရှိပါသည်။

**မိမိစရိုက်ကို ဆန်းစစ်ရန် လိုအပ်ခြင်း**

ထိုစရိုက်သည် လူတို့၌ တစ်ပါးဖြစ်စေ၊ နှစ်ပါးဖြစ်စေ၊ သုံးပါးဖြစ်စေ တွဲလျက်ရှိတတ်သည်။ ဤသူသည် အဘယ်စရိုက်ရှိသည်ဟု အကဲခတ်နိုင်မှုမှာ အသွားအလာ၊ အနေအထိုင်၊ အပြောအဆို ဣရိယာပုထ်ကိုလည်းကောင်း၊ လုပ်မှုကိုင်မှုကိစ္စ၊ စားသောက်မှုဘောဇဉ်၊ ကြည့်ခြင်း ဒဿန စသည်တို့ကို ကြည့်ရှုအကဲခတ်ခြင်းဖြင့်လည်းကောင်း သိနိုင်သည်။

ထိုစရိုက် ၆-ပါးတို့တွင် ရာဂနှင့်သဒ္ဓါ၊ ဒေါသနှင့်ပညာ၊ မောဟနှင့်ဝိတက် စရိုက်တို့သည် သဘောအားဖြင့် တူသလိုလို ရှိတတ်သည်။

ရာဂနှင့် သဒ္ဓါစရိုက်ရှိသောသူသည် ပကတိ သွားမြဲ သွားသည်ရှိသော် ယဉ်ယဉ်ကျေးကျေး တင့်တင့်တယ်တယ်ရှိသည်၊ ဖြည်းဖြည်းသာ ခြေကို ချသည်၊ ညီညီကြွသည်၊ လုပ်မှုကိုင်မှုတို့၌ ယဉ်ကျေးသေသပ်သည်၊ အချိုအဆိမ့် စားသောက်ဖွယ်တို့နှင့် အမွှေးအကြိုင်တို့ကို ကြိုက်နှစ်သက်တတ်သည်။

**ထူးသည်ကား-**

ရာဂစရိုက်ရှိသောသူသည် ကာမဂုဏ်အာရုံများကို စွဲမက်တတ်သည်၊ ပရိယာယ မာယာ အလိမ်အကောက်များသည်၊ မာနကြီးသည်၊ လိုချင်လောဘများသည်။

သဒ္ဓါစရိုက်ရှိသောသူသည် စွန့်ကြဲပေးကမ်းလှူဒါန်းလေ့ရှိသည်၊ ဘုရားကို ပူဇော်ခြင်း၊ တရားတော်ကို နာယူခြင်း၊ သံဃာတော်များကို ဝပ်တွားဆည်းကပ်ခြင်း အလေးအမြတ်ပြုခြင်းတို့ကို ပြုလုပ်လေ့ရှိသည်၊ ဤသို့ထူးပါသည်။

ဒေါသနှင့် ပညာစရိုက် ရှိသောသူသည် အသွားအလာ၊ အနေအထိုင်၊ အပြော အဆို ကြမ်းကြမ်းတမ်းတမ်း ကတိုက်ကရိုက်ရှိသည်၊ လုပ်မှု, ကိုင်မှုတို့၌ ယဉ်ကျေး သေသပ်ခြင်း မရှိလှ၊ အချဉ်၊ အငန်၊ အစပ်၊ အခါး၊ စူးရှသော အစာအာဟာရကို ကြိုက်နှစ်သက်တတ်သည်၊ မကောင်းသော အဆင်း၊ အသံစသည်နှင့် တွေ့ကြုံ သောအခါ သည်းခံချုပ်တည်းခြင်းမရှိဘဲ ဆဲဆိုငေါက်ငမ်း ကြမ်းတမ်း စိတ်တို လွယ်သည်။

**ထူးသည်ကား-**

ဒေါသစရိုက်ရှိသောသူသည် ရန်ငြိုးဖွဲ့မှု၊ ငြူစူမှု၊ သူတပါးဂုဏ်ကို ဖျက်ဆီးလိုမှု၊ ဂုဏ်တုဂုဏ်ပြိုင်ပြုလိုမှု၊ အဆုံးအမခက်ခဲမှုတို့ ဖြစ်လေ့ရှိသည်။

ပညာစရိုက် ရှိသောသူသည် စားသောက်ဖွယ်တို့၌ နှိုင်းနှိုင်းချိန်ချိန် စားသောက် လေ့ရှိသည်။ သံသရာနောင်ရေးကို သတိပညာဖြင့် ကောင်းစွာမြော်မြင်လေ့ရှိရကား ဂတိကောင်း၍ ထက်ထက်မြက်မြက်ရှိအောင် ပါရမီကုသိုလ်များကို လုံ့လသန်သန်ဖြင့် မှန်မှန်ကြိုးစားလေ့ရှိသည်၊ ဤသို့ထူးပါသည်။

မောဟနှင့် ဝိတက်စရိုက် ရှိသောသူသည် ယမ်းဖယ်ယမ်းဖယ် သွားလေ့ရှိသည်၊ ကြောက်ရွံ့လျက် ခြေကို ချသည်၊ ကြွသည်၊ မေ့မေ့လျော့လျော့ရှိသည်၊ လုပ်ငန်း ကိစ္စ ရှုပ်ရှုပ်ထွေးထွေး ပွေပွေလိမ်လိမ်ရှိသည်၊ စားသောက်မှု၌လည်း အဘယ်အစာကို ကြိုက်နှစ်သက်တတ်သည်ဟူ၍မရှိ၊ မိမိအစွမ်းဖြင့် မည်မည်ရရ ပြောလောက်ဆိုလောက် အောင် ပြီးမြောက်သည်ဟူ၍ မရှိတတ်၊ အကြောင်းအကျိုး အကောင်းအဆိုးကို နှိုင်းချိန်ခွဲခြား၍ မသိတတ်၊ အရပ်ရပ်ကိစ္စမှာ သူတကာ၏ နောက်လိုက်သာ ဖြစ်ရ သည်၊ သူများချီးမွမ်းသည်ကို နောက်က လိုက်၍ ချီးမွမ်းတတ်သည်၊ သူများကဲ့ရဲ့ သည်ကိုလည်း နောက်ကလိုက်၍ ကဲ့ရဲ့တတ်သည်၊ သတိပညာကင်းလျက် ထိုင်းမှိုင်း ခြင်း, ပျံ့လွင့်ခြင်းတို့နှင့်သာ အချိန်ကို ကုန်လွန်စေသည်။ ထိုစရိုက်နှစ်ပါးသည် ထူးမခြားနားဖြစ်၍ ထိုထိုအမှုကိစ္စ၌ စကားတွေပေါ်လျက် ကိစ္စမချောဘဲ မော၍

သာနေတတ်သည်၊ လူပေါ်ကျော့၊ လူလေ၊ လူလွင့်တို့နှင့် ပျော်မွေ့ကာ အကြံများလျက် အလကားလူပိုတွေသာ ဖြစ်တတ်သည်။

## စရိုက်အလိုက် နှလုံးသွေးဖြစ်တတ်ပုံ

ရာဂစရိုက်ရှိသောသူသည် နှလုံးသွေးနီသည်။ ဒေါသစရိုက်ရှိသောသူသည် နှလုံးသွေးညိုသည်။ မောဟစရိုက် ရှိသောသူသည် အမဲသားဆေးသော ရေလောက်သာ နှလုံးသွေးရောင်ဖျော့သည်။ သဒ္ဓါစရိုက်ရှိသောသူသည် နှလုံးသွေးဝါသည်။ ပညာစရိုက်ရှိသောသူသည် ပတ္တမြားကြောင်မျက်ရွဲကဲ့သို့ နှလုံးသွေးပြိုးပြိုးပြက်ရှိသည် ဖြူသည်။ ဝိတက်စရိုက်ရှိသောသူသည် ပဲပြုတ်ရေ အဆင်းကဲ့သို့ နှလုံးသွေးရောင်ရှိသည်။

ထိုစရိုက်တို့ဖြစ်ရခြင်းမှာ ရှေးကံအကြောင်း မကင်းပေ၊ ရှေးဘဝက ကုသိုလ်ကောင်းမှုပြုလုပ်သောအခါ လောဘခြံရံ၍ ပြုလုပ်ခဲ့လျှင် လောဘစရိုက် ရှိတတ်သည်၊ ဒေါသခြံရံ၍ ပြုလုပ်ခဲ့လျှင် ဒေါသစရိုက်ရှိတတ်သည်။ မောဟခြံရံ၍ ပြုလုပ်ခဲ့လျှင် မောဟစရိုက်ရှိတတ်သည်။ သဒ္ဓါတရားခြံရံ၍ ပြုလုပ်ခဲ့လျှင် သဒ္ဓါစရိုက်ရှိတတ်သည်။ သတိ, ပညာခြံရံ၍ ပြုလုပ်ခဲ့လျှင် ပညာစရိုက်ရှိတတ်သည်။ မကောင်းသော အကြံအစည် ထွေထွေလာလာဖြင့် ခြံရံ၍ ပြုလုပ်ခဲ့လျှင် ဝိတက်စရိုက်ရှိတတ်သည်။

ထို့ကြောင့် နောင်အနာဂတ်ဘဝတို့၌ စရိုက်ဆိုးများ မဖြစ်ရအောင် ကုသိုလ်ကောင်းမှုလုပ်သောအခါမှာ သတိ, ပညာတို့ဖြင့် ခြံရံ၍ ပြုလုပ်ကြရမည်။ သို့မှသာ နောင်ဖြစ်လတ္တံ့သော ဘဝတို့၌ စရိုက်ကောင်းများ ဖြစ်နိုင်၍ ကောင်းမှုကုသိုလ်တိုးပွားပေမည်။

## စရိုက် ၆-ပါးနှင့် သင့်လျော်သောကမ္မဋ္ဌာန်း

၁။ ရာဂစရိုက်ရှိသောသူသည် အသုဘ ၁၀-ပါး၊ ကာယဂတာသတိ ဤ ၁၁-ပါးသော ကမ္မဋ္ဌာန်းတို့နှင့် သင့်လျော်ပေသည်။

၂။ ဒေါသစရိုက်ရှိသောသူသည် မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာဟူသော အပ္ပမညာ(ဗြဟ္မစိုရ်)၄-ပါး၊ နီလ, ပီတ, လောဟိတ, ဩဒါတ ဟုဆိုအပ်သော ဝဏ္ဏကသိုဏ်း ၄-ပါး၊ ဤ ၈-ပါးသော ကမ္မဋ္ဌာန်းတို့နှင့် သင့်လျော်သည်။

၃။ မောဟနှင့် ဝိတက်စရိုက် ရှိသောသူသည် ထွက်လေဝင်လေကို နှာသီးဖျား၌ ရှုမှတ်သော အာနာပါနဿတိကမ္မဋ္ဌာန်းနှင့် သင့်လျော်သည်။

၄။ သဒ္ဓါစရိုက်ရှိသောသူသည် ဗုဒ္ဓါနုဿတိ၊ ဓမ္မာနုဿတိ၊ သံဃာနုဿတိ၊ သီလာနုဿတိ၊ စာဂါနုဿတိ၊ ဒေဝတာနုဿတိ၊ ဤ ၆-ပါးသော ကမ္မဋ္ဌာန်းတို့နှင့် သင့်လျော်သည်။

၅။ ပညာစရိုက်ရှိသောသူသည် မရဏာနုဿတိ၊ ဥပသမာနုဿတိ၊ (နိဗ္ဗာန်ကို အာရုံပြုခြင်း) စတုဓာတုဝဝတ္ထာန် (ဓာတ်ကြီးလေးပါးရှုမှတ်ခြင်း)၊ အာဟာရေ ပဋိကူလသညာ၊ ဤ ၄-ပါးသော ကမ္မဋ္ဌာန်းတို့နှင့် သင့်လျော်သည်။

ထိုသို့ဆိုခဲ့ပြီးသော ၃၀-သော ကမ္မဋ္ဌာန်းတို့မှ ကြွင်းကုန်သော ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ အာကာသ၊ အာလောက ဟုဆိုအပ်သော ကသိုဏ်း ၆-ပါး၊ အာရုပ္ပ ၄-ပါး၊ ဤ ၁၀-ပါးသော ကမ္မဋ္ဌာန်းတို့သည် အလုံးစုံသော **စရိုက်** ၆-ပါးလုံးနှင့် သင့်လျော်သည်။

ကသိုဏ်းတို့တွင် အလုံးစုံငယ်သော ကသိုဏ်းဝန်းသည် ဝိတက်စရိုက်ရှိသူအား သင့်လျော်သည်။ ကြီးသော ကသိုဏ်းဝန်းသည် မောဟစရိုက် ရှိသူအား သင့်လျော်သည်။

ရာဂကိုပယ်ခြင်းငှါ အသုဘကမ္မဋ္ဌာန်းကို ပွားအပ်သည်။ ဒေါသကိုပယ်ခြင်းငှာ မေတ္တာကို ပွားအပ်သည်။ ဝိတက်ကို ပယ်ခြင်းငှာ အာနာပါနဿတိကို ပွားအပ်သည်။ မာနကို ပယ်ခြင်းငှာ အနိစ္စသညာကို ပွားအပ်သည်။

ကမ္မဋ္ဌာန်း အားထုတ်လိုသူတို့သည် ပြဆိုခဲ့သော ကမ္မဋ္ဌာန်း ၄၀-တို့တွင် မိမိတို့၏ စရိုက်နှင့် သင့်၊ မသင့် နှိုင်းချိန်၍ သင့်လျော်မည်ထင်သော ကမ္မဋ္ဌာန်း တစ်ခုခုကို ပွားများအားထုတ်သင့်လေသည်။

# အခန်း (၈)

# သမထကမ္မဋ္ဌာန်းအားထုတ်နည်း

## ပထဝီကသိုဏ်းဖြင့် ဈာန်ရအောင် ပြုလုပ်နည်းအညွှန်း

## (က) ပရိကံပိုင်း

သမ္မာသမ္ဗုဒ္ဓမြတ်စွာဘုရားသည် ဈာန်ရအောင် လုပ်နည်းနှင့် မဂ်ဖိုလ်ရအောင် လုပ်နည်းဟူသော နည်းမှန်ကြီး နှစ်မျိုးကို ကမ္ဘာလူသားတို့၏ အကျိုးစီးပွား အတွက် ထားရစ်ခဲ့သည်။ ယင်းနည်း နှစ်နည်းအနက် ဈာန်ရအောင် လုပ်နည်းကို ဖော်ပြပါမည်-

### (၁) အခြေခံပြင်ဆင်ချက်

ဈာန်ယာဉ်စီးနိုင်အောင် လေ့ကျင့်လိုသူသည် ပထမဦးဆုံး ကျန်းမာရေး ပြည့်စုံအောင် ကြိုးစားရမည်။ ရောဂါတစ်မျိုးမျိုး ရှိနေလျှင်လည်း ထိုရောဂါ ပျောက်ကင်းအောင် ကုသပစ်ရသည်။ မည်သည့်ရောဂါမျှ မရှိ၊ ပကတိကျန်းမာသူ ဖြစ်မှသာလျှင် ဈာန်သူရဲကောင်း အလောင်းအလျာ ဖြစ်ထိုက်သည်။ ထို့နောက် အိမ်ထောင်ရေး၊ သားသမီးရေး၊ ဓိဘရေးတို့ကို ယာယီဖြစ်စေ ပယ်ပစ်လိုက် ရသည်။ လူပျိုဖြစ်က ပို၍ ကောင်းသည်၊ သို့သော် အာကာသမောင်တွေလည်း လေ့ကျင့်ခန်း ယူနေသည့် ကာလအတွင်း အိမ်ပြန်အိပ်ခွင့် မရကြပေ၊ ထို့အတူ အားကစားသမားများလည်း ပြိုင်ပွဲနီး၍ အပူတပြင်း လေ့ကျင့်နေချိန်၌ မယားနှင့်အတူ အိပ်ခွင့် မရကြပေ၊ ဤကိစ္စသည် လူ၏ခန္ဓာထဲရှိ ခွန်အားကို ဆုတ်ယုတ်စေတတ် သဖြင့် အရေးကြီးသောကိစ္စကို ဆောင်ရွက်ခါနီးတိုင်း ရှောင်ကြဉ်ကြရခြင်း ဖြစ်သည်။ ဆောင်ရွက်ရမည့်အလုပ်၏ အတိုင်းအတာအလိုက် ဤကိစ္စကို ကန့်သတ် ရှောင်ကြဉ်ရသည်၊ ပို၍အရေးကြီးသော အလုပ်ဖြစ်လေ ပို၍ရှောင်ရလေ ဖြစ်သည်။ ထို့ကြောင့် အားကစားသမားများထက် အာကာသမောင်တို့က ပို၍ ရှောင်ကြ ရသည်။ အာကာသမောင်တို့ထက် ဈာန်သင်တန်းသားက ပို၍ ရှောင်ကြဉ်ရမည် ဖြစ်သည်။ ဤကိစ္စရှောင်ဖို့ကလည်း ခက်ခဲလှသည် မဟုတ်ပါပေ။ မယားနှင့် ခွဲအိပ်ရမှာကို တွန့်နေလျှင်လည်း ပါရာဇိကလေးပါး အမြဲထိန်းထားသော ယော်ဖြူ ရဟန်းတော်များ ရှိနေသော ဤနိုင်ငံတွင် ရှက်ဖွယ်လိလိ ဖြစ်ရာသည်။

ထို့ပြင် မိမိ မိသားစု၏ စားဝတ်နေရေး ကြောင့်ကြမှုမှ အခြေအနေကို ဖန်တီးပေးခဲ့ရမည်။ ပြည့်ပြည့်စုံစုံ ရှိစေရမည်။ သို့မဟုတ်က သူတို့ဘဝကို သူတို့ စွမ်းရည်နှင့် ရုန်းကန်နိုင်ကြသည်ဟု သဘောထားရမည်။ နောက်ဆုံး ဘာပဲဖြစ်ဖြစ် သူတို့အတွက် ငါ ပူမနေနိုင်ပါဘူးဟု သံယောဇဉ်ကြိုးကို တိခနဲ ဖြတ်လိုက်ရမည်။ ဤသို့ သံယောဇဉ်ကို ဖြတ်ရန်လည်း ခဲယဉ်းလှသည်မဟုတ်၊ စျာန်လုပ်ငန်းခွင်ထဲ ရောက်သွားသောအခါ တဖြည်းဖြည်း သံယောဇဉ်ကွာကျ သွားတတ်ပါသည်။

နောက်တစ်ချက်က ပညာရေးဖြစ်၏၊ ပညာတပိုင်းတစနှင့် သူများ စျာန် သူရဲကောင်း အလောင်းအလျာ မဖြစ်ထိုက်၊ ကျောင်းတက်နေစဉ်မျိုး၊ ပညာ ရှာချိန်မျိုး၌ ရှေ့တွင် မည်သည့်စာမေးပွဲ အောင်ချင်သေးတယ်၊ မည်သည့်ဘွဲ့ လေးလိုချင်သေးတယ် စသည်ဖြင့် မျှော်လင့်ချက်ရှိနေတတ်သည်။ ငါ ဒီမှာ လာပြီး ကျင့်ကြံနေတုန်း ငါ့သူငယ်ချင်း ဘယ်သူ ဘယ်ဝါဖြင့် ဘာဘွဲ့ကြီးတွေရလို့ ဘာရာထူးကြီးနှင့် ဖြစ်နေမှာပဲ စသည်ဖြင့် စိတ်ရောက်တတ်သည်။ ထို့ကြောင့် ပညာသင်ချင်လျက် တန်းလန်းနှင့် စျာန်သင်တန်း မတက်သင့်၊ သို့မဟုတ် ပညာရေး ကြောင့်ကြမှု အားလုံးကို ဖယ်ပစ်ပြီး စိတ်ပြတ်ပြတ်ထားနိုင်လျှင် ဤသင်တန်းနှင့် သင့်လျော်သည်။

ဤသို့ဆိုသဖြင့် တစ်သက်လုံး ပညာညွန့်တုံးရမည်ဟု အပေါ်ယံမထင်ပါနှင့်၊ စျာန်သင်တန်းတက်ပြီးမှ ပြန်သင်ချင်လည်း ရပါသည်။ ထိုအခါကျလျှင် ယခု တစ်လ သင်ရမှာကို တစ်ရက်တည်းနှင့် တတ်ပေလိမ့်မည်။ အကြောင်းကား သူ၏စိတ်ဓာတ် သူ၏ပညာသည် အရည်အသွေး ပိုရှိလာပြီး သမာဓိအား ကောင်းလာသဖြင့် မှတ်ဉာဏ် အလွန်ထက်မြက်နေမည် ဖြစ်သောကြောင့်တည်း။

ရစရာ အလားအလာ မျှော်လင့်ချက်ရှိကလည်း သင်တန်းမဝင်မီ ရှင်းပစ် ရမည်။ ကြွေးမြီရစရာရှိလျှင် စိတ်ပူနေတတ်သည်။ မိဘထံမှ ခပ်မြန်မြန် အမွေ ရဖို့ မျှော်လင့်ချက် ရှိနေပြန်လျှင် ငါမရှိတုန်း မိဘဆုံးလျှင် မီးခံသေတ္တာသော့ မည်သူ့ဆီရောက်သွားမှဖြင့် အခက်ပဲဟု ကြောင့်ကြတတ်သည်။ ယုတ်စွအဆုံး စျာန်သင်တန်း မတက်ခင် ထီးမထိုးအပ်ပေ၊ ထီပေါက်လျှင် ဘာလုပ်လိုက်မည် စသည်ဖြင့် စိတ်ကူးဟွေ ဝင်လာတတ်သည်။ ငါမရှိတုန်းများ ထီပေါက်နေမှဖြင့် ငါ့ထီလက်မှတ် ထားတဲ့နေရာကိုလည်း အိမ်သားတွေ သိမှာမဟုတ်ဘူး၊ အစိုးရ ဘဏ္ဍာတော် ဖြစ်ရချည့်ရဲ့ဟု တွေးပူမိတတ်သည်။ အကောင်းဆုံးက ဘာရစရာ ဘာမျှော်လင့်ချက်မှ မထားဘဲ ကိုယ်လွတ်စိတ်လွတ် ပေါ့ပေါ့ပါးပါး ရှိနေရန် လိုပေသည်။

ကိုယ်ပိုင် ပစ္စည်းဥစ္စာ စိန်ရွှေငွေများ ရှိလျှင်လည်း လုံးဝ စိတ်ချရမည့်သူနှင့် လွှဲထားရမည်။ ဤပစ္စည်းများအတွက် ကြောင့်ကြစိုက်မှု ထိန်းသိမ်းမှု လုံးဝ မရှိရပေ။ အဝတ်အစား ချုပ်လုပ်ခြင်း၊ တဲဆောက်ခြင်း၊ အိမ်ဆောက်ခြင်း၊ ဆိုင် ဆောက်ခြင်း၊ စက်ရုံတည်ခြင်းမှ စ၍ လုပ်ချင်သောအလုပ်, လုပ်စရာရှိသော အလုပ်များရှိနေကလည်း သင်တန်းမတက်မီ ပြီးစီးအောင် လုပ်ခဲ့ရမည်။ သို့မဟုတ် ဤအလုပ်တွေ မလုပ်တော့ဘူးဟု စိတ်ကိုပိုင်းဖြတ်ထားရမည်။ ကိုယ်ရေးကိုယ်တာ ကိစ္စအတွက်ဖြစ်စေ၊ ဗဟုသုတအလို့ငှာဖြစ်စေ၊ ယုတ်စွအဆုံး အပျော်ဖြစ်စေ ခရီးထွက်စရာ ရှိလျှင်လည်း နောက်မှ သွားမည်ဟု သဘောမထားအပ်၊ မသွား တော့ဘူး၊ သွားစရာ မလိုဘူးဟု စိတ်ပိုင်းဖြတ် ပစ်ရမည်၊ သို့မဟုတ်က သင်တန်းခွင်ဝင်နေစဉ် ရောက်လိုသည့် နေရာတွေအကြောင်း စိတ်ထဲမှာ လာလာ ပေါ်ပြီး လုပ်ငန်းအနှောင့်အယှက် ဖြစ်တတ်သည်။

သင်တန်းတက်နေစဉ် ကာလအတွင်း သင်တန်းပြဆရာမှ အခြား မည်သူ တစ်ဦးတစ်ယောက်မျှ အပေါင်းအသင်း မလုပ်ရပေ၊ မည်သူနှင့်မျှ အတွေ့မခံ ရပေ၊ ထို့ပြင် စာဖတ်ခြင်းကို အထူးရှောင်ရမည်။ ကမ္မဋ္ဌာန်းထိုင်ရင်း စာဖတ် ခြင်းသည် လူနှင့်ပတ်ဝန်းကျင် ဘဝဆီသို့ စိတ်ရောက်သွားစေနိုင်သည်။ လုပ်ငန်း ခွင်မှ စိတ်အာပြင်ထွက်သွား၍ ဖြစ်၏။ နေ့စဉ် ဒိုင်ယာရီရေးခြင်း အပါအဝင် စာရေးခြင်း၊ မှတ်သားခြင်း၊ တေးထားခြင်း မည်သည်ကိုမျှ မလုပ်ရပေ။

အချုပ်အားဖြင့် စျာန်သင်တန်းတက်နေစဉ် ကာလအတွင်း ပတ်ဝန်းကျင်နှင့် စိတ်ရောလူပါ အဆက်အသွယ် ဖြတ်ထားရမည်။ သို့မှသာ လုပ်မည့်လုပ်ငန်းခွင်၌ စိတ်ဝင်စားနိုင်မည် (ဝါ) သမာဓိရနိုင်မည် ဖြစ်ပါသည်။ ဤသို့ ပြုသည်ကို "ပလိ ဗောဓဖြတ်သည်"ဟု စာသုံးကျကျ ခေါ်ကြလေသည်။

## (၂) နေရာယူခြင်း

ပြင်ဆင်မှု ပြုလုပ်ပြီးနောက် နေရာရွေးရမည်။ ဖြစ်စေချင်သည့် ကိစ္စတစ်ခု အောင်မြင်ရေးအတွက် နေရာယူ မှန်ကန်မှုသည် လွန်စွာအရေးကြီးလှပါသည်။ တာပေနှင့် မွေ့လျော်ပြီး ရေဒီယိုသီချင်းဖြင့် စိမ်ခံချင်သူသည် သိမ်ကြီးဈေး အလယ် ခေါင်၌ နေရာယူလျှင် မသင့်တော်ပါ။ သူ့ရည်ရွယ်ချက် ထမြောက်အောင်မြင်မည် မဟုတ်ပါ။ ထိုနည်းအတူ ရုပ်ရှင်, ဘောပွဲ အသည်းစွဲ ကြိုက်တတ်သူများလည်း လက်ရှိအခြေအနေအရ အသွားအလာ ခက်ခဲလှသော မြို့စွန်မှာ သွားနေမိလျှင် အတော်ပွကျပေလိမ့်မည်။ ကိုယ့်အလုပ် ကိုယ့်ဝါသနာနှင့် လိုက်အောင် နေရာယူ မှန်မှ အဆင်ပြေပါသည်။

စျာန်အလုပ်သည် 'သမာဓိ'အလုပ်၊ သမထအလုပ် ဖြစ်သည်၊ စိတ်ကို ရှေ့တန်းတင်၍ စေစားရခြင်း ဖြစ်သည်။ စိတ်တည်ကြည်မှုရရေး၌ (ဝါ)သမာဓိ ထူထောင်ရေး၌ အကြီးမားဆုံး အဖျက်အဆီးမှာ အသံဗလံများ ဖြစ်သည်။ သမာဓိ စာပို့ရထားကြီးကို အသံဗလံ မိုင်းဗုံးများက ရစရာမရှိအောင် ဖျက်ဆီးပစ်တတ်ကြသည်။ ရှေ့သို့ဆက်၍ မသွားနိုင်အောင် ဟန့်တားတတ်ကြသည်။

အသံဆိုက မည်သည့်အသံပဲဖြစ်ဖြစ် စျာန်လုပ်ငန်းကို အနှောင့်အယှက်ပေးပေသည်။ သာယာသောအသံ၊ ဆိုးဝါးသောအသံ၊ မျိုးစုံဆူညံသောအသံ၊ လူသံ၊ ငှက်သံ၊ ရထားသံ၊ ကားသံ ဘာသံမှ သမာဓိကို အကျိုးမပြုပေ။ အကြောင်းမှာ အသံတစ်ခုကို ကြားရသည်ဆိုလျှင် ကြားရသူ့စိတ်သည် ထိုအသံ လာရာ အရပ်၊ ထိုအသံပြုရာ လူ၊ တိရစ္ဆာန်၊ ယာဉ် စသည်ဆီသို့ ရောက်သွားတတ်မြဲ ဖြစ်သည်။ သမာဓိအလုပ်ကို စိတ်ဖြင့် လုပ်နေရသည်ဖြစ်ရာ အသံလာရာဆီသို့ စိတ်ကလေးက ထွက်ထွက်သွားနေပါလျှင် အလုပ်ခွင်တွင် ဖင်မမြဲသော လူလို ဖြစ်ပြီး အလုပ်မတွင်ကျယ်နိုင်တော့ပါ။ လက်သမားအလုပ်၊ စက်ကိရိယာ အလုပ်၊ လယ်ယာအလုပ် စသည်က အလုပ်မတွင်ကျယ်လျှင် ကြာရုံပဲရှိမည်။ ဆက်လုပ်၍ ဖြစ်နိုင်သေးသည်။ သမာဓိအလုပ်မှာမူ စိတ်ကလေးက အပြင်ထွက်ပြီး လမ်းသလားလွန်းပါက လုပ်ငန်းပျက်ကျသွားတတ်ပါသည်။ ပျင်းရိမှု၊ ငိုက်မျဉ်းမှု၊ တွန့်ဆုတ်မှုတွေ ဒလဟော ဝင်ရောက် ယှမ်းမိုးပြီး လုပ်ငန်းကို ဖျက်ဆီးပစ်တတ်ပါသည်။

သို့ဖြစ်သောကြောင့် စျာန်သင်တန်းအတွက် အကောင်းဆုံး အသင့်တော်ဆုံး နေရာမှာ ဘာသံမျှ မကြားရသော ဆိတ်ငြိမ်နေရာမျိုး ဖြစ်ပါသည်။ မြတ်ဗုဒ္ဓက သမာဓိထူထောင်ချင်သူသည် 'အရညဂတော၊ တောသို့ သွား။ ရုက္ခမူလဂတော၊ သစ်ပင်ရင်းမှာ ထိုင်၊ သို့မဟုတ် သုညာဂါရဂတော၊ ဆိတ်ငြိမ်တဲ့ တစ်နေရာရာကို ရွေး'ဟု အလွယ်ဆုံး ညွှန်ကြားခဲ့ပါသည်။

## (၃) လုပ်ငန်းပြင်ဆင်ခြင်း

**ဆိတ်ငြိမ်ရာဒေသတွင် တဲငယ်ဖြစ်စေ၊ ပိုရ်ကောင်းသွော ခေတ်မီအဆောက်အအုံကိုဖြစ်စေ ဆောက်လုပ်ရပါမည်။** အကယ်၍ အဆောက်အအုံကို မဆောက်နိုင်သေးလျှင် မိုးနည်းသော ဒေသဖြစ်ပါက နံရံတစ်ခုကို ထောင်ရပါမည်။ ဤလောက်မျှ မလုပ်နိုင်သေးပါကလည်း သစ်ပင်ပါးပျဉ်း ကြီးကြီးတစ်ခုကို ရှာ၍ နံရံအဖြစ် အသုံးပြုရပါမည်။

ထိုနံရံပေါ်တွင် လူတထိုင်စာ အမြင့်လောက်၌ နေရာတစ်ခု သတ်မှတ်ပါ၊ ထိုနေရာသည် လူထိုင်၍ ကြည့်လျှင် မော့လည်း မမော့ရ ငုံ့လည်း မငုံ့ရဘဲ မျက်စိနှင့် မျဉ်းဖြောင့်တတန်းတည်းကျသော နေရာမျိုး ဖြစ်ရမည်။ အကယ်၍ လူက ထိုင်ခုံပေါ်မှာ ထိုင်မည်ဆိုလျှင် မိမိမျက်စိနှင့် မျဉ်းဖြောင့်ကျကျ နံရံပေါ်မှာ နေရာသတ်မှတ်ပါ၊ ထိုင်ခုံပေါ်မှ ခြေတွဲလဲချထိုင်လျှင် ဖြစ်နိုင်စရာ ရှိသည်။ သို့သော် ယခု ကုလားထိုင်များလို နောက်မှီလက်တင် မပါသင့်၊ ပက်လက် ကုလားထိုင်နှင့် ဆိုဖာကိုမူ လုံးဝ မသုံးသင့်၊ အိပ်ပျော်သွားတတ်သည်။

ကြမ်းပြင်ညီပေါ်မှာဆိုလျှင် တင်ပျဉ်ခွေထိုင်၊ ထိုင်ခုံပေါ်မှာဆိုလျှင် ခြေတွဲလဲချထိုင်နိုင်သည်။ မည်သို့ ထိုင်ထိုင် မိမိမျက်စိနှင့် မျဉ်းဖြောင့်ကျကျ နံရံပေါ်မှာ နေရာတစ်ခု သတ်မှတ်ရမည် ဖြစ်ပါသည်။ မတ်တတ်ထလျှင်သော်လည်းကောင်း၊ အိပ်၍ လဲလျောင်းလျက်သော်လည်းကောင်း သင်တန်းဝင်ရန် မဖြစ်နိုင်ပါ။

## ကသိုဏ်းဝန်းတင်ခြင်း

ကသိုဏ်းဝန်းကို ရွှံ့မြေစေးဖြင့် ပြုလုပ်ရသည်။ နံရံမှာ ကပ်ထားလျှင် ကွာမကျလာအောင် စေးကပ်လျှင် လုံလောက်သည်။ အတုံးအခဲ ကျောက်ပြုတ် ကျောက်ခဲများ မပါစေရပါ။ ထိုရွှံ့စေးကို အချင်းတစ်ပေခန့်ရှိ အဝိုင်းတစ်ခု ပြုလုပ်ရသည်။ ကြည့်မည့် မျက်နှာပြင်ဘက်တွင် မညီမညွတ် မရှိစေရပါ။ ချောနေစေရပါမည်။

ထိုမြေကသိုဏ်းဝန်းကို နံရံပေါ်ရှိ မိမိသတ်မှတ်ထားသော နေရာ၌ တင်ထားရပါမည်၊ ယင်းသို့ တင်ထားရာ၌ ခိုင်မြဲစေလိုသဖြင့် ချိတ်ခြင်း၊ ဆွဲခြင်း၊ ထောက်ခြင်း မလုပ်ရပါ။ သဘောက ကြည့်လိုက်သောအခါမှာ ဘေးဆီက ဘာအဆက်အသွယ်မှ မရှိဘဲ ကသိုဏ်းဝန်းသန့်သန့် မြင်နိုင်စေရန် ဖြစ်ပါသည်။ လူများလျှင် တစ်ယောက် တစ်ခန်းကျ၊ တစ်ယောက် ကသိုဏ်းဝန်း တစ်ခုကျစီ ထားရပါမည်။

## (၄) အထိုင်ကျင့်ခြင်း

အားလုံး ပြင်ဆင်ပြီးသောအခါ မိမိနေရာ၏ အလင်းရောင်အလိုက် ကသိုဏ်းဝန်းနှင့် ၃-ပေမှ ၆-ပေကွာ နေရာလောက်တွင် ကျကျနန ထိုင်ရပါမည်။ ကြမ်းပြင်ပေါ်မှာဖြစ်က ခြေနှစ်ခုကို ကြက်ခြေခတ်ယှက်၍ တင်ပျဉ်ခွေ ထိုင်ပါ၊ ခါးနှင့် ဦးခေါင်းကို အတတ်နိုင်ဆုံး ၉၀ ဒီဂရီကျအောင် မတ်မတ်ထားပါ၊ ခါးနှင့် ဦးခေါင်း

ကို မတ်မတ်ထားရခြင်းအကျိုးမှာ ကြာရှည် ထိုင်နိုင်စေပါသည်။ ကျောရိုးဆက်မှု ကြားရှိ ရိုးတွင်းခြင်ဆီတို့ စနစ်တကျ လည်ပတ်နိုင်သဖြင့် ကုန်းကုန်းကွေးကွေး ထိုင်သည်ထက် ပိုကြာရှည်ထိုင်နိုင်စေပါသည်။ ထိုင်ခုံနှင့် ထိုင်လျှင်လည်း ခါးနှင့်ဦးခေါင်း မတ်မတ်ထားရပါမည်။ လက်တို့မှ ပက်လက်လှန်၍ နှစ်ခုထပ်ကာ ပေါင်ရင်း၌ ချထားနိုင်ပါသည်။ သို့မဟုတ် လက်မှောက်ခုံချ၍ ပေါင်နှစ်ခုပေါ်မှာ တင်ထားနိုင်ပါသည်။ အမျိုးသမီးသင်တန်းသူဖြစ်က ပုဆစ်တုပ်၍ မိန်းမထိုင် ထိုင်နိုင်ပါသည်။ သို့သော် ခါးနှင့်ခေါင်းကို မတ်မတ်ထားရပါမည်။

ဤသို့ထိုင်ရာ၌ အစတွင် ဝန်လေးလှရာ ရှိပါသည်။ ခါးကို မတ်မတ်ထောင်ထားရသည်မှာ ဝန်တစ်ခုကို ထမ်းထားရသလို စိတ်တွင် ခံစားရတတ်ပါသည်။ အမြင်မှာ သက်သာသလို စိတ်လိုလိုက်၍ ထားချင်ထား၊ ထောင်ချင်ထောင်၊ ကုန်းချင်ကုန်း၊ ကော့ချင်ကော့၊ ထိုင်ချင်သလို ထိုင်နေရာမှ အခု အလုပ်ခွင် စည်းကမ်းနှင့် ထိုင်ရသောအခါ စိတ်ကျဉ်းကျပ် လာပါလိမ့်မည်။ ဤသည်မှာ အပြောင်းအလဲ တစ်ခုကြုံတိုင်း တွေ့ရတတ်သည့် ဝေဒနာပါ၊ နောက်တဖြည်းဖြည်း ရိုးလာပါလိမ့်မည်။

စနစ်တကျ ထိုင်ပုံထိုင်နည်း တန့်ပြေလာသောအခါ ဟာသိုက်ဝန်းကို ဝမ်းကြည့်ရပါမည်။ အမြင်မရှင်းလျှင် ရှေ့တိုး ထိုင်တန် ထိုင်၍ ကပ်လွန်းသလို ထင်ပြီး စိတ်ထဲမှာ ခပ်ဝိတ်ဝိတ် ဖြစ်နေသည်ဆိုပါက နောက်သို့ အနည်းငယ် ဆုတ်ထိုင် ဝမ်းကြည့်ရပါမည်။ အလေ့တော်ကျပြီဆိုလျှင် ထိုနေရာကို ယူရပါမည်။

## (ခ) ဆက်လက်အားထုတ်ခြင်း

### (၁) စိတ်နှိုးခြင်း

ရောက်ရှိလာချိန်ခန်းကို ပဝေ ဝိဝိတ်ကို နှိုးပေးသင့်ပါသည်။ "ယခု ငါ ပြမည့် သင် လေ့ကျင့်ရမည့် နည်းသည် ဘုရား ရဟန္တာနှင့်တကွ ထက်မြက်သူတွေ ကိုယ်တိုင် ကျင့်သွားတဲ့ နည်းပဲဖြစ်တယ်၊ သူတို့ကိုယ်တိုင် ရရှိအောင်မြင်သွားလို့တဲ့ သာဓက ပြနည်း တိုင်နည်းတွေကို ထားခဲ့နိုင်ခြင်း ဖြစ်တယ်၊ ယခုလည်း အိန္ဒိယ၊ ကမ္ဘာ့ အသီးသီးတွေမှာ သမထယောဂီတွေ လက်တွေ့ အောင်မြင်နေကြသဲ ဖြစ်တယ်၊ ငါ့နည်း ကြိုးစားလျှင် သူတို့လိုပဲ ရောက်ရှိရမယ်၊ ကြိုးစားဖို့သာ လိုတယ်၊ အနေ ရှိလျှင်၊ လုံ့လဝီရိယ ရှိလျှင်၊ စိတ်ရှိလျှင်၊ ပညာရှိလျှင် ဘယ်တော့မဆို အောင်မြင်နိုင်တယ်" ဤသို့ စသည်ဖြင့် စိတ်ဓာတ်အားကို နှိုးပေးသင့်ပါသည်။

အကယ်၍ ဈာန်ယာဉ် စိမံကိန်းရေးဆွဲ၍ စနစ်တကျ စုပေါင်းကြိုးစားသော အခါမျိုး၌မူ နည်းစနစ်ပေါ် ယုံကြည်ချက် ခိုင်မြဲအောင် ကြိုးစားချင်စိတ် ပေါက်အောင် ၃-၄ ပတ်လောက် သင်တန်းပေးသင့်သည်။ ထိုသင်တန်းမှုရသော နှိုးစိတ်ကို လုပ်ငန်းခွင်မစမီ အသုံးပြုရမည်။

အထူးအရေးကြီးသော အချက်မှာ ယင်းသို့ စိတ်ဓာတ်ခိုင်မြဲရေး သင်တန်း ပေးရာတွင် ဈာန်လုပ်ငန်းခွင်ဝင်လျှင် တွေ့တတ် ကြုံတတ် ခံစားရတတ်သော အချက်တို့ကို အနည်းငယ်မျှ စကားဦးသန်း၍ မပြောရပေ။ ဤအချက် လွန်စွာ အရေးကြီးသည်။ မပြောအပ်တာကို ပြောမိလျှင် လုပ်ငန်းခွင်၌ သွားပြီး အနှောင့် အယှက် ဖြစ်တတ်သည်။ စိတ်ကူးတွေ၊ စိုးရိမ်စိတ်တွေ၊ ကြောက်စိတ်တွေ ဝင်လာ တတ်သည်။ ကြပ်ကြပ်ဖြံဆင်ခြင်ပါ။

စီမံကိန်းနှင့် အကောင်အထည်ဖော်သောအခါ သင်တန်းဆရာများ ထားရပါမည်။ ဆရာက စစ်ဆေးခြင်းမျိုးမဟုတ်ဘဲ သင်တန်းသားက သူ့အတွေ့ထူး အမြင်ထူးကို ပြောပြသည့်အခါ နားထောင်ရမည်။ ဆရာက စာနှင့် ပေနှင့် ညှိ၍ ရှေ့သို့ မည်သို့တိုး၍ ကြိုးစားရှုမြင်ရန် အကြံဉာဏ် ပေးရပါမည်။ သင်တန်းသား တစ်ဦးမှာ အပြင်းအထန် စွပ်လုပ်နေလျှင် သိမ်မွေ့စွာ အကဲခတ်၍ သူ့အမြင်အတွေ့ကို ပြောပြရန် တောင်းပန်သင့်က တောင်းပန်ရသည်။ သူလုပ်နေပုံ ဘုရားနည်းနှင့် ကိုက်ညီနေက သာဓုခေါ်၍ အားပေးရမည်။ တိမ်းယိမ်းနေသည်ထင်က တည့်မတ် ပေးရမည်။ တစ်ဦးတည်း ကြိုးစားသူ ဖြစ်လျှင်လည်း ဤသို့သော ဆရာကောင်းကို ချဉ်းကပ်သင့်သည်။

## (၂) နိမိတ်ကို စောင့်ရှောက်ခြင်း

မိမိ ကြိုတင်ပြင်ဆင်ထားသည့်အတိုင်း ကသိုဏ်းဝန်းရှေ့မှာ ထိုင်ပါ၊ ကိုယ်ကို နေသားတကျ နေရာယူပြီးနောက် မျက်စိကို မှန်တမ်းထား၍ ကသိုဏ်းဝန်းကို စိုက်ကြည့်နေပါ။ ကြည့်ခါစတွင် မျက်တောင် ခဏခဏ ခတ်ချင်လာတတ်သည်၊ ခတ်ပါ၊ နောက်တဖြည်းဖြည်း မျက်တောင်ခတ်ကြိမ် နည်းလာပါလိမ့်မည်။

ကသိုဏ်းဝန်းကို စူးစိုက်ကြည့်ရင်း စိတ်ထဲက မြေ-မြေ (ပထဝီ-ပထဝီ) ဟု တရစပ် မှတ်ပေးနေရမည်။ ပါးစပ်က ထုတ်ဆိုရန် မလိုပါ၊ သဘောက ကိုယ့် စိတ်ကို ကသိုဏ်းဝန်းမှာပဲ ရှိနေအောင် သိနေအောင် မပြုက်လုပ်ပေးနေရခြင်းမျိုး ဖြစ်ပါသည်။ စိတ်ကို ကသိုဏ်းဝန်းနှင့် ဖမ်းနေခြင်းဖြစ်ပါသည်။

ဤအခါတွင် စိတ်သည် နွားဆိုးကြီးလို ကသိုဏ်းဝန်းချည်တိုင်မှ ရုန်း၍ ရုန်း၍ ထွက်ပြေးပါလိမ့်မည်။ ကသိုဏ်းဝန်းကြီးကို ရှေ့မှာ ထားပြီး စိတ်က ဟိုဟိုဒီဒီ ပေါက်ကရ လျှောက်သွားပါလိမ့်မည်။ ဤသို့ စိတ်ထွက်ပြေးသောအခါ သတိ အလွတ်မခံဘဲ ချက်ချင်း ကသိုဏ်းဝန်းဆီ စိတ်ကို ပြန်ပို့ပေးရမည်။ "မြေ မြေ"လို့ သိနေအောင် စိတ်ကို ကသိုဏ်းဝန်းပေါ် ပြန်တင်ပေးရမည်။ စိတ်က ပြေးထွက်လိုက် သတိနှင့် ဝီရိယက ပြန်ဖမ်းပြီး ကသိုဏ်းဝန်းပေါ် တင်ပေးလိုက်နှင့် ဖြစ်နေ လိမ့်မည်။

ဤသို့ စိတ်နှင့် သတိ ဝီရိယတို့ နပန်းလုံးနေကြစဉ် ငိုက်မျဉ်း ထိုင်းမှိုင်းမှု ဖြစ်လာတတ်သည်။ ဟုတ်မှ ဟုတ်ပါ့မလား၊ ဟန်မှ ဟန်ပါ့မလားဟု သံသယ တွေလည်း ဝင်လာတတ်သည်။ တွန့်ဆုတ်မှု၊ လုပ်ငန်းခွင် စွန့်လွှတ်ပြေးချင်မှု၊ တစ်ခုခုကို အလိုမကျ၍ စိတ်ဆိုးမှု၊ ကိုယ်စိတ် ဂနာမငြိမ်လွန်း၍ ဒေါသထွက်မှု မျိုးလည်း ဝင်လာတတ်သည်။ တောင်ကြံ၊ မြောက်ကြံ၊ တောင်တွေး၊ မြောက်တွေး၊ ကြံကတ်၊ တွေးတတ်မိ၏။ ဤအတွင်း စိတ်ကူးယဉ်မှာ အချောအလှ အနိုပ်တွေမြင်ပြီး လိုချင်တပ်မက်လွန်းသည့် စိတ်တွေလည်း ပေါ်လာတတ်သည်။ ဤသည်တို့မှာ လုပ်ငန်း၏ ရန်သူတို့ပါတည်း။

ဤရန်သူတော်များ ခြေရှုပ်လာမှုကို အောင်မြင်ဖို့ရန် ကိုယ့်စိတ်ကို ကသိုဏ်း ဝန်းပေါ်မှာ မပြတ်တင်ပေးဖို့ပင် ဖြစ်သည်။ စိတ်ကလေးသည် ကသိုဏ်းဝန်းပေါ် မှာသာနေလျှင် မည်သည့်ရန်သူကမျှ မဖျက်ဆီးနိုင်၊ ကသိုဏ်းဝန်းပေါ်က ဆင်းပြေးသည်နှင့် တပြိုင်နက် ရန်သူနှင့် တိုးတော့သည်ပင်။

သို့သော် ဇွဲသန်သန်နှင့် ဆက်ကာဆက်ကာ ကြိုးစားပေးလျှင် တစ်ခါနှင့်တစ်ခါ တစ်ရက်နှင့် တစ်ရက်၊ တစ်လနှင့် တစ်လ မပူဘဲ စိတ်ကလေးသည် ကသိုဏ်း ဝန်းပေါ်မှာ ပျော်မွေ့လာပါလိမ့်မည်။ စိတ်ကလေးသည် ကသိုဏ်းခြံ၍ လုံလာသည် နှင့်အမျှ ရန်သူတော်များလည်း လက်လျှော့လက်လျှော့၍ ဆုတ်ခွါသွားကြလိမ့်မည်။

မိမိစိတ်ကလေးကို ကသိုဏ်းဝန်းပေါ်မှာ ခပ်ကြာကြာတင်ထား၍ ရလာပြီ ဆိုလျှင် မိမိဖြစ်စေချင်တာ ဖြစ်လာ၍လည်းကောင်း၊ မနိုင်ဖူးသည့်စိတ်ကို နိုင်စ ပြုလာ၍လည်းကောင်း သဘောကျလာပါလိမ့်မည်။ လန်းဆန်းပေါ့ပါးလာပါ လိမ့်မည်။ စိတ်ကလေးသည် တစ်နေရာတည်းမှာ ဝပ်လာသည့်အတွက် စိတ်ငြိမ်မှု (ဝါ) စိတ် ချမ်းသာမှု ဖြစ်လာပါလိမ့်မည်။ စိတ်ငြိမ်လျှင် ကိုယ်လည်း ချမ်းသာလာမြဲ ဓမ္မတာပါ။

ဤအဆင့်မှ တိုးတက် ကြိုးစားသွားလျှင် စိတ်ကလေးသည် ကသိဏ်းဝန်းပေါ် တင်ထားလိုက်သည်နှင့် တပြိုင်နက် ဘယ်မှ မထွက် မသွားတော့ဘဲ ကသိဏ်းကိုပဲ သိနေပါတော့သည်။ သမာဓိ တည်နေသည်ဟု ခေါ်ပါသည်။ စိတ်သည် ယခင်က ပရမ်းပတာဘဝနှင့် မတူတော့ဘဲ အင်အားသတ္တိ ရှိလာပါသည်။ ထိုအခါတွင် ကသိဏ်းဝန်းကို ရိုးရိုးမြင်နကျထက် ပိုပြီး ပြတ်ပြတ်သားသား ထင်ထင်ရှားရှား မြင်လာပါတော့သည်။

ဤအဆင့်မှ ဇွဲသန်သန်ဖြင့် ဆက်လက် ကြိုးစားသွားပြန်သောအခါ စိတ်တန်ခိုး ပို၍ ရှိလာသဖြင့် နံရံပေါ်က ကသိဏ်းဝန်းကို မျက်စိဖြင့် မကြည့်တော့ဘဲ မျက်စိမှိတ်ထားလိုက်လျှင်လည်း မျက်စိဖြင့် ကြည့်သလိုပင် ကသိဏ်းဝန်းကို မြင်လာရသည်။ ကသိဏ်းဝန်းမရှိသော အခြားဘက်သို့ ကြည့်သော်လည်းကောင်း၊ တော တောင် ကောင်းကင်ကို ကြည့်သော်လည်းကောင်း၊ ဘယ်ကိုပဲ ကြည့်ကြည့် မျက်စိထဲမှာ ကသိဏ်းဝန်းကိုပဲ မြင်နေရတော့သည်။ နံရံမှာ ကပ်ထားသည့် ကသိဏ်းဝန်းပုံအတိုင်း ချွတ်စွပ်ထပ်တူ မြင်နေရတော့၏။

ဤအဆင့် ရောက်လာသောအခါ နံရံပေါ်က မြေကသိဏ်းဝန်း မလိုတော့ပြီ၊ သူ့ကိုကြည့်ရန် မလိုတော့ပြီ၊ မျက်စိထဲမှာ မြင်နေသည့် ကသိဏ်းဝန်း အတုကိုပဲ ဆက်၍ ရှုရန်လိုတော့၏။ ဤကသိဏ်းဝန်းအတုကို ဆက်၍ဆက်၍ ရှုမြင်ပေးသော အခါ ကသိဏ်းဝန်းသည် နဂိုနှင့်မတူတော့ဘဲ တဖြည်းဖြည်းချင်း ပို၍ ပို၍ နူးညံ့လာလိမ့်မည်၊ လှပလာလိမ့်မည်၊ မှုန်ချောလာလိမ့်မည်၊ ကြည်လင်လာလိမ့်မည်။

မိမိ ကိုယ်တွင်းမှာလည်း အင်မတန် စက်ကောင်းတဲ့ နာရီအသေးဆုံးကလေး၏ စက်လှုပ်နေသလို အသက်ရှူတာရော၊ နှလုံးခုန်တာရော လွန်စွာ ညင်သာနေ လိမ့်မည်။ ဝမ်းဗိုက်အဖောင်းအပွ အလှုပ်အရှား ရိုက်ချက်သိမ်မွေ့လာ၏၊ စိတ်က ကသိဏ်းဝန်းအာရုံမှာသာ ရောက်နေခြင်းကြောင့် ထမင်းဆာခြင်း၊ ရေငတ်ခြင်း တို့လည်း နဂိုကထက် သိသိသာသာ နည်းလာလိမ့်မည်။ ဤအခြေအနေသည် ပထမဈာန်ပန်းဆွတ်ခါနီး အခြေအနေမျိုးတည်း။

ဤမျှလောက် ခရီးပေါက်လာလျှင် အချို့ သင်တန်းဝင် ပုဂ္ဂိုလ်များမှာ ဝင်းဝင်း လက်လက် အရောင်အဝါတွေ မြင်လာတတ်သည်။ မိမိ နားရွက်အနီးကပ်ပြီး တစုံတစ်ယောက်က တစ်ခုခုပြောလိုက်သလိုလည်း ကြားရတတ်သည်။ အထိတ် တလန့်ဖြစ်စရာ အသံဗလံမျိုးကိုလည်း မမျှော်လင့်ဘဲ ကြားရတတ်သည်။ ဘယ်လိုပဲဖြစ်ဖြစ် သင်တန်းဝင်ပုဂ္ဂိုလ်အနေဖြင့် ဂရုစိုက်စရာ မဟုတ်ပေ၊ မိမိစိတ်

ကိုသာ ကသိုဏ်းဝန်းအာရုံ၌ ထက်ကြပ်မကွာ ကပ်ပေးထားရမည် ဖြစ်သည်။ စိတ်နှင့် ကသိုဏ်းအာရုံ ဂဟေမြဲနေဖို့သာ အရေးကြီးဆုံး ဖြစ်သည်။ ဤသို့ အထူးအဆန်းတွေနောက် စိတ်ပါသွားလျှင် ကသိုဏ်းဝန်းတုအာရုံ ပျောက်သွားလိမ့်မည်။

ထိုသို့ ကသိုဏ်းဝန်းတု အာရုံပျောက်သွားလျှင် နံရံပေါ်ရှိ မူလမြေကသိုဏ်းဝန်းကို ပြန်ရှုရပြန်သည်။ တစ်ကပြန်ပြီး စရပြန်သည်။ သို့သော် အစိမ်းလောက်မခက်တော့ပေ၊ စားရပြီးမှ မေ့သွား၍ ပြန်ကျက်သည့် ကျောင်းသားလိုရလွယ်ပါသည်။ သို့ရာတွင် ပုလိုက်မေ့လိုက် ခဏခဏ ဖြစ်ပါများလျှင် မကောင်းပေ၊ ရှေ့လည်း ခရီးမပေါက် စိတ်လည်း လေလာတတ်သည်။ ထို့ကြောင့် မော်တော်ကားကို ဂီယာထိုးပြီး တချီတည်းတက်သကဲ့သို့ တရှိန်တည်း သမာဓိမပျက် ဆက်နိုင်အောင် ကြိုးစားအပ်သည်။

## (၃) ချဉ်းကပ်ခြင်း

ကသိုဏ်းဝန်းတု အာရုံနုကလေးကို အချိန်မရွေး မြင်နေရသော အဆင့်တွင် ဇွဲလုံ့လသန်သန်ဖြင့် ထပ်မနား စူးစိုက်ကြည့်မြင်ဖန်များလျှင် ထူးဆန်းသော စိတ်တမျိုး မိမိသန္တာန်မှာ ပေါ်လာလေသည်။ ဤစိတ်သည် မိမိမွေးကတည်းက တစ်ခါမျှ မဖြစ်ဖူးသေးသော စိတ်ဖြစ်သည်။ ယခုမှ မိမိကိုယ်ထဲမှာ အသစ် ဖြစ်ပေါ်လာသော စိတ်ဖြစ်သည်။

ဤစိတ်သည် အရည်အချင်း ငါးမျိုးပါလာသည်။ ယင်းတို့ကား--

- စိတ်နှင့် အာရုံ ဆွဲစပ်ပေးတတ်သော သဘော (ဝိတက်)
- အာရုံပေါ်မှာ စိတ်ကလေး ကြာကြာနေအောင် ဖန်တီးတတ်သော သဘော(ဝိစာရ)
- နှစ်သက်မှုသဘော (ပီတိ)
- ချမ်းသာ အေးမြမှုသဘော (သုခ)နှင့်
- အာရုံ၌ စိုက်၍ တည်ကြည်နေသောသဘော (ဧကဂ္ဂတာ)တို့-

ဖြစ်ကြသည်။

ဤစိတ်မှာ လောဘ၊ ဒေါသ၊ မောဟ စသော စိတ်၏ အဆိပ်အတောက်များကင်းနေသည်။ ထို့ကြောင့် ဤစိတ်သည် စျာန်မရသော လူသာမန်တို့၏ စိတ်ထက် သတ္တိထက်မြက်သည်။ စွမ်းအားပိုသည်။

ဤစိတ်သည် ကသိုဏ်းဝန်းတု အာရုံနုကလေးကို ယခင်စိတ်များထက် ပိုပြီး စူးစူးစိုက်စိုက် ကြည့်မြင်နိုင်သည်။ အာရုံပေါ်မှာ ပို၍ ခိုင်မြဲစွာ စူးစိုက်ထားနိုင်သောကြောင့် စိတ်ထိုင်းမှိုင်းမှု၊ သို့လော သို့လော သံသယဖြစ်မှု၊ ဆုတ်နစ်မှု၊ ပျံ့လွင့်မှု၊ လိုချင်တပ်မက်မှုများ လုံးဝ မသိနိုင် မကပ်နိုင်တော့ချေ။ ဤစိတ်ကလေး ပလ္လင်ခံလာကတည်းက ဆိုခဲ့ပါ ရန်သူတော်တွေ လုံးဝ လက်နက်ချလိုက်ကြရတော့သည်။

ဤစိတ်ကလေးကို ပထမစျာန်စိတ်ဟု ခေါ်သည်။ စျာန်သင်တန်းသား ကိုယ်နှိုက်က ဤစိတ်ကလေးကို သိသည်။ ဤစိတ်ကလေး၏ အရည်အသွေးကို နားလည်လျက် ရှိသည်။ စာပေဗဟုသုတ အခံရှိသူ သင်တန်းသားမှာမူ ပထမစျာန်ကို ရပြီဟု သိ၏။ ထိုသို့ အာဂုံမရှိက စိတ်သစ်နှင့် ယင်း၏ အရည်အသွေးကိုသာ သိသည်။ ဘာစိတ်ပဲဟု နာမည်မခေါ်တတ်ပေ။

အချို့သော သူများသည် ဤပထမစျာန်စိတ်ကလေး ရပြီးနောက် ရှေ့သို့ ဆက်လက်၍ မကြိုးစား၊ နည်းကိုလည်း မသိ၊ ကြိုးစားပြန်လည်း တချို့မရ၊ ထို့ကြောင့် ဤစျာန်လေးကိုသာ မပျောက်ပျက်ရအောင် ထိန်းသိမ်းပြီးနေရင်း အသက်တမ်းစေ့သောအခါ သေကြရသည်။ ပထမစျာန်ရ ပုဂ္ဂိုလ်အဖြစ်နှင့် သေသည့်အတွက် ပထမစျာန်ဘုံမှာ ဗြဟ္မာဖြစ်ကြရသည်။

သို့သော် အဘိညာဉ် လိုချင်သူအနေဖြင့် ဤတွင် ရပ်၍ မရ၊ ရှေ့သို့သာ တိုး၍ ကြိုးစားရမည်ဖြစ်သည်။ ရှေ့အဆင့်တက်ပုံကား ဤသို့တည်း-

မိမိ ရထားပြီးသော ပထမစျာန်ကို ဆင်ခြင်သုံးသပ်ရသည်။ ဤစိတ်မှာ ဝိတက်ပါသည်၊ ဝိစာရပါသည်၊ ပီတိပါသည်၊ သုခပါသည်၊ ဧကဂ္ဂတာခေါ် သမာဓိပါသည်။ ဤအင်္ဂါအရည်အသွေးများကို လေ့လာရသည်။ ထိုပထမစျာန်စိတ်ကလေးကို ဖော်ကြည့်လိုက် အင်္ဂါတွေကို ဆင်ခြင်လိုက် ထပ်တလဲလဲ လုပ်ရသည်။ အင်္ဂါမျိုးကို ဆင်ခြင်တုန်းမှာ ပထမစျာန်စိတ်ကလေး ချုပ်နေလိမ့်မည်။ ဝေဖန်တတ်သည့် စိတ်နှင့် သူ၏ အင်္ဂါအရည်အချင်းတွေကို ဆစ်ပိုင်း သုံးသပ်ခြင်းဖြစ်၏။

ထိုစျာန်စိတ်ကလေးကို ဖော်ကြည့်ပြီး သူ့အတိုင်း ထားကြည့်ရသည်။ ဘယ်လောက်ကြာကြာ မိမိထားနိုင်မလဲဟု စမ်းသပ်ခြင်းဖြစ်သည်။ သဘောက ကသိုဏ်းကို အာရုံပြု၍ ဥပါဒ်ဌီဘင်ဖြင့် ဖြစ်ချုပ်နေကြသောကြောင့် စိတ်တစ်ခုတည်း အကြာကြီး ဖြစ်နေသည်မဟုတ်၊ ကားပလတ်မှ မီးတဖျပ်ဖျပ် ပွင့်နေသည့်

သဘောမျိုးပင်။ ဤစိတ်မျိုး ယပ်တလဲလဲ ဖြစ်နေစေခြင်းသာတည်း။ ဤသို့ တသွင်သွင်ဖြစ်နေသည့် စိတ်ကလေးကို ရပ်ချင်လျှင်လည်း အချိန်မရွေး ရပ်နိုင်အောင် (ဝါ) စိတ်အပြောင်းအလဲ မြန်မြန်လုပ်နိုင်အောင် လေ့ကျင့်ရပြန်သည်။

ထို့နောက်–

"ဒီစိတ်မှာ ပါဝင်နေတဲ့ မြင်မြင်ကရာ အာရုံကို ကြံစည်တတ်သည့်သဘော (ဝိတက်)သည် ရုန့်ရင်းသေးတယ်၊ သူ့ကြောင့် ငါရထားသော စျာန်စိတ်မှာ လာပြီး ဂယက်ရိုက်တယ်။ သူမရှိလျှင် စိတ်ပိုပြီး တည်ငြိမ်မယ်"

ဤသို့ သုံးသပ်ဆင်ခြင်ရမည်။ ဤသို့ သုံးသပ်ဆင်ခြင်ပါများလျှင် ဝိတက်သဘောကို လက်လွှတ်ချင်လာသည်။ တောင်ကြံ မြောက်ကြံ ဘရုံတောက်တီး အချည်းနှီးကို သိမ်းဆည်းလိုလာပေသည်။

ထိုအခါ စျာန်သင်တန်းသားသည် ကသိုဏ်းဝန်းကို ရှုသည့်အခါတွင် ကြောင့်ကြစိုက်ပြီး စိတ်ကို အာရုံပေါ်သို့ တင်ပေးမှု မပြုတော့ပေ၊ စိတ်ကို အာရုံပေါ်သို့ ကြိုးစားမတင်ဘဲ စိတ်ကလေးက အာရုံကို သိနေရုံမျှသာ ထားလိုက်သည်။

ဤသို့ ဝိတက်ကိုလွှတ်၍ စိတ်နှင့်ကသိုဏ်းတု အာရုံနုကလေး တွေ့ဆိုင်နေပါများလျှင် နောက်ထပ် စိတ်သစ်တစ်မျိုး ပေါ်လာပြန်သည်။ ဤစိတ်တွင်မူ **ဝိစာရ**, ပီတိ, သုခ, ဧကဂ္ဂတာဟူသော အင်္ဂါ (၄)ရပ်သာ ပါရှိလာသည်။ ဝိတက် သဘာဝ မပါတော့ချေ။ ဤစိတ်၌ သုံးသပ်မှုသဘော၊ နှစ်သက်မှုသဘော၊ ချမ်းအေးမှုသဘော၊ စူးစိုက်တည်ငြိမ်မှု သဘော ရှိသည်။ ဝိတက်မပါသော စိတ်ကို ဒုတိယစျာန်စိတ်ဟု ခေါ်သည်။

ပထမစျာန်မှ ဒုတိယစျာန်သို့ တက်သောနည်းအတိုင်း ထိုဒုတိယစျာန်စိတ်ကို ဖော်ကြည့်၊ ထားကြည့်၊ လွှတ်ကြည့်၊ စျာန်အင်္ဂါဆင်ခြင်ကြည့်၍ အလေ့အကျင့်ရသော အခါ "ဤစိတ်မှာ ပါသော ဝိစာရသဘောသည် ရုန့်ရင်းသေးတယ်၊ ဝိတက်နှင့် သဘာဝချင်းနီး၍ စိတ်မချရ"ဟု ဆင်ခြင်လျက် ဝိစာရကိစ္စကို လွှတ်ချင်လာပေသည်။

ကြိုးစားဖန် များသောအခါ ဝိစာရအပေါ် တွယ်တာမှုလျက် ဝိစာရမပါဘဲ နောက်ထပ် စိတ်သစ်တစ်မျိုး ပေါ်လာပြန်သည်။ ဝိတက်, ဝိစာရ မပါသောစိတ်ကို တတိယစျာန်စိတ်ဟု ခေါ်သည်။

ဤတတိယစျာန်စိတ်ကိုလည်း ဖော်ကြည့်လိုက်၊ ကြာရှည်ထားကြည့်လိုက်၊ အင်္ဂါအရည်အသွေး ဆင်ခြင်သုံးသပ်ကြည့်လိုက် စသည်ဖြင့် ယခင်နည်းအတိုင်း ပြုလုပ်ရသည်။ ဤအကြိမ်တွင် စိတ်၏နှစ်သက်မှု (ပီတိ)ကို ဝေဖန်ပြီး ပယ်ချရန် ဆုံးဖြတ်ရသည်။ ပီတိ၏ ဇိမ်ရှိမှုသဘောသည် ရုပ်ကိုယ်ကာယနှင့် ဆက်သွယ်နေသေး၍ ရုန့်ရင်းသေးသည်ဟု ပီတိကိုပယ်၍ ကသိုဏ်းဝန်းတု အာရုံနုကလေးကို ယပ်၍ ထပ်၍ ရှုသောအခါ သုခနှင့် ဧကဂ္ဂတာ အင်္ဂါနှစ်ရပ်သာ ပါသော စတုတ္ထစျာန်စိတ်သစ်တစ်မျိုး ပေါ်လာပြန်ပေသည်။

ဤစတုတ္ထစျာန်စိတ်ကိုလည်း ယခင်အတိုင်း သုံးသပ်ဝင်စား တည်ထားထမြောက်စေပြီးနောက် "သုခ"အပေါ် အပြစ်ရှုလျက် ဆက်လက် ကြိုးစားရပြန်သည်။ ထိုအခါ ဥပေက္ခာနှင့် ဧကဂ္ဂတာအားဖြင့် အင်္ဂါနှစ်ရပ်သာ ရှိသော ပဉ္စမစျာန်စိတ်သစ် ပေါ်လာလေသည်။ ဤစိတ်သည် ကသိုဏ်းဝန်းတု အာရုံနုကလေးအပေါ် စိုက်၍စွဲ၍ သိကာမျှမတ္တကလေးသာ ရှိတော့သည်။ အလွန့် အလွန်တည်ငြိမ်လျက် ရှိလေပြီ၊ အလွန့်အလွန် သိမ်မွေ့၍ နေချေပြီ။

စျာန်သင်တန်းသားများအနက် ဉာဏ်စွမ်းဉာဏ်စ ပို၍ထက်မြက်သူဖြစ်လျှင် ဝိတက်, ဝိစာရကို ယခုလို တစ်ခုစီ ပယ်မနေဘဲ နှစ်ခုလုံး တစ်ခါတည်း ပယ်ပစ်နိုင်သည်။ ထိုသူမျိုးအတွက် ပထမ၊ ဒုတိယ၊ တတိယ၊ စတုတ္ထဟူ၍ စျာန်လေးဆင့်သာ ဖြစ်သည်။ လှေကားကို ငါးလှမ်းနှင့် တက်သည်နှင့် လေးလှမ်းနှင့် တက်သည့်သဘော ဖြစ်သည်။ နောက်ဆုံးအဆင့်တွင် အတူတူပင် ဖြစ်သည်။ ထို့ကြောင့် ဉာဏ်နုံ့သူ၏ ပဉ္စမစျာန်နှင့် ဉာဏ်ထက်သူ၏ စတုတ္ထစျာန်မှာ အရည်အသွေးခြင်း အတူတူသာတည်း။

ကသိုဏ်း ၁၀-ပါးတို့တွင် အစဆုံးဖြစ်သော ပထဝီကသိုဏ်းဖြင့် စျာန်ရအောင် အားထုတ်နည်းကို အထက်တွင် ဖော်ပြခဲ့ပါပြီ။ ကသိုဏ်း ၁၀-ပါးတို့တွင် မည်သည့်ကသိုဏ်းဖြင့်မဆို အထက်ပါ ပထဝီကသိုဏ်းကျင့်စဉ်အတိုင်း လက်တွေ့ကျင့်သုံး၍ စျာန်ကို အရယူနိုင်ကြပါသည်။ မိမိစိတ်က ချစ်ခင်နှစ်သက်သော တွယ်လွယ်သော အာရုံစွဲမြဲလွယ်မည်ထင်သော ကသိုဏ်းတစ်ခုခုကို မိမိစိတ်ကြိုက်ရွေး၍ အားထုတ်နိုင်ပါ၏။

သို့ရာတွင် အခြေခံမရှိသေးသော ရိုးရိုးပုဂ္ဂိုလ်တို့အတွက် လွယ်သော ကသိုဏ်း၊ ခက်သော ကသိုဏ်းဟူ၍ ခွဲခြားမှုရှိကြောင်းကိုမူ လက်တွေ့သမားတို့က မှတ်တမ်း တင်ထားခဲ့ကြပါသည်။ ထိုသူတို့၏ မှတ်တမ်းအရ ပထဝီကသိုဏ်း၊ ဝါယောကသိုဏ်း၊ အာလောကကသိုဏ်း (မြေကသိုဏ်း၊ လေကသိုဏ်း၊

အလင်းကသိုဏ်း) တို့သည် ခက်ခဲသည်။ နိမိတ်ရခဲသည်။ အာပေါကသိုဏ်း၊ တေဇောကသိုဏ်း၊ အာကာသကသိုဏ်း (ရေကသိုဏ်း၊ မီးကသိုဏ်း၊ ကောင်းကင်ကသိုဏ်း)တို့မှာမူ အတန်ငယ် လွယ်ကူသည်ဟု သိရပါသည်။

ပို၍ လွယ်သည်မှာ နီလကသိုဏ်း (အညိုကသိုဏ်း)၊ ပီတကသိုဏ်း (ရွှေဝါကသိုဏ်း)၊ လောဟိတကသိုဏ်း(အနီကသိုဏ်း)၊ ဩဒါတကသိုဏ်း(အဖြူကသိုဏ်း) ဟူသော ဝဏ္ဏကသိုဏ်း (အရောင်ရှိကသိုဏ်း) လေးပါးတို့ ဖြစ်ပါသည်။

ထိုဝဏ္ဏကသိုဏ်း လေးမျိုးထဲတွင်လည်း ဩဒါတကသိုဏ်း (အဖြူကသိုဏ်း)သည် အလွယ်ဆုံး ဖြစ်ကြောင်း မှတ်တမ်း တင်ထားကြပါသည်။ လွယ်ကူပုံမှာ– ကသိုဏ်းဝန်းလုပ်ရ လွယ်သည်။ ကြည့်ရှုရလွယ်သည်၊ နိမိတ်ရလွယ်သည်။ ထို့ပြင် ဩဒါတကသိုဏ်းသည် ငိုက်မျဉ်းထိုင်းမှိုင်းမှု ထိနမိဒ္ဓကို လျင်မြန်စွာ ကင်းစေသည်။ ယောဂီ၏ စိတ်ဉာဏ်ကို လွန်စွာကြည်လင်စေသည်။ ကသိုဏ်းဝန်းတူ အာရုံနု (ပဋိဘာဂနိမိတ်)ကို မရဆင့် အားထုတ်ဆဲ လမ်းခရီးမှာလည်း အထည်ဝတ္ထု အဆင်းဟူသမျှကို အလိုရှိတိုင်း မြင်စေတတ်သည်။ တန်ခိုးအာနုဘော်ကြီးသည်။ ဘုရားရှင်ကိုယ်တိုင်ကလည်း ဩဒါတကသိုဏ်းကို ကသိုဏ်းတကာတို့ထက် အသာဆုံး အကောင်းဆုံးဟု ဟောကြားပါသည်။

သို့ဖြစ်သောကြောင့် သမထကမ္မဋ္ဌာန်းကို စတင်အားထုတ်လိုသူသည် အဖြူ ဩဒါတကသိုဏ်းကို ရွေးဦးစွာ ကြည့်ရှုအားထုတ်သင့်ကြောင်း ရှေးဆရာမြတ်တို့က တိုက်တွန်းညွှန်ကြားထားကြလေသည်။

အဖြူ ဩဒါတကသိုဏ်းဝန်းကို ပြုလုပ်ပုံမှာ အဖြူရောင်စက္ကူတစ်ချပ်ကို ယူ၍ စလောင်းဖုံးလောက်လည်း မငယ်၊ ဆန်ကောအရွယ်ထက်လည်း မကြီး (အချင်း ၁–ပေခန့်) အဝန်းအဝိုင်းပြုလုပ်ပြီး ပထဝီကသိုဏ်းနည်းတူ နံရံမှာ ကပ်ထားရန် ဖြစ်ပါသည်။

ထို့နောက် ထိုင်ပုံနှင့် ရှုမှတ်ပွားများပုံမှာ ရှေ့ကသိုဏ်း၌ ဖော်ပြခဲ့သည့် နည်းအတိုင်းပင် ဆက်လက်အားထုတ်ရန် ဖြစ်ပါသည်။ ဤတွင် မြန်မာလို "အဖြူ၊ အဖြူ"ဟူ၍လည်းကောင်း၊ ပါဠိလို "ဩဒါတော၊ ဩဒါတော"ဟူ၍ လည်းကောင်း စိတ်ထဲက ပွားများရန် ဖြစ်ပါသည်။ အသံထွက် မဆိုရပါ။ အရေးကြီးသည်က စိတ်မှတ်ပင် ဖြစ်ပါသည်။ ကသိုဏ်းဝန်းပေါ်မှာ မိမိစိတ်ကလေး ရစ်ဝဲတည်တံ့လာဖို့ ကြိုးစားရမှာ ဖြစ်ပါသည်။

ဘုရားပေးသော နည်းမှန်၊ လမ်းမှန်၊ ကျင့်စဉ်မှန် ဖြစ်၍ ဟုတ်တိ ပတ်တိ အားထုတ်လျှင် ပထမစျာန်၊ ဒုတိယစျာန်၊ တတိယစျာန်၊ စတုတ္ထစျာန် (ပဉ္စမစျာန်) အထိ ဆက်ကာဆက်ကာ ရရှိသွားမည် ဖြစ်ပါသည်။

ဤစတုတ္ထစျာန်စိတ် (ဉာဏ်နှံ့သူအတွက် ပဉ္စမစျာန်စိတ်) ပေါ်လာသောအခါ စျာန်ရှင်လူသား အခြေအနေမှာ အကြီးအကျယ်ပြောင်းလဲသွားလေပြီ၊ မျှဉ်းမျှဉ်းကလေး ရှူနေသော အသက်သည် တစ်ခါတည်း ယတိပြတ် ရပ်သွားလေသည်။ စတုတ္ထစျာန် ဝင်စားနေသောအခါ အသက်ရှူ လုံးဝ ရပ်နေသောကြောင့် လူသည် အရုပ်တစ်ခုလို အလွန့်အလွန် တည်ငြိမ်လေသည်။

အဘိညာဉ်ခရီးကား မဆုံးသေး၊ စတုတ္ထစျာန်စိတ် (ပဉ္စမစျာန်စိတ်)ကို ရရှိပြီးနောက် ရှေ့သို့တက်ရန် ကြိုးစားရဦးမည်ဖြစ်သည်။ ဤစျာန်စိတ်ကလေးကို ဖော်ကြည့် ထားကြည့် လွှတ်ကြည့် အင်္ဂါအရည်အချင်း သုံးသပ်ကြည့် အမျိုးမျိုး လေ့လာပြီးနောက် စျာန်အင်္ဂါမှာ ဥပေက္ခာနှင့် ဧကဂ္ဂတာနှစ်မျိုးသာ ကျန်ရှိတော့သဖြင့် ထပ်ဖြုတ်ချရန် မဖြစ်နိုင်တော့၍ အာရုံဘက် လှည့်ရပြန်၏။

"ဤယခု ငါရထားတဲ့ စတုတ္ထစျာန်စိတ်သည် ကသိုဏ်းဝန်းတု အာရုံနုကလေးကို စွဲမှီဖြစ်ပေါ်သဖြင့် ရုပ်နှင့် မကင်းသေး ရန့်ရင်းသေး၏။ ဤရုပ်နယ်က အာရုံကို ဖယ်ချပစ်ရလျှင် ပို၍ ကောင်းပေလိမ့်မည်" ဤသို့ ယူဆ၍ ကသိုဏ်းဝန်းတု အာရုံနု ကလေးကို မရှု မမြင်တော့ဘဲ လွှတ်ပစ်လိုက်သည်။ ကသိုဏ်းဝန်းတု အာရုံနုကလေး ပျောက်သွားသဖြင့် ကျန်နေခဲ့သည့် ဟင်းလင်းလဟာကိုသာ စူးစိုက်ပြီး "အဆုံးမရှိသော ကောင်းကင်လဟာ"ဟု အထပ်ထပ် ရှုမှတ်ရလေသည်။ ဤသို့ ရှုမှတ်ဆင်ခြင်ဖန် ပွားများဖန် များသောအခါ "အာကာသာနဉ္စာယတန စျာန်စိတ်"ခေါ် စိတ်သစ်တစ်မျိုး ပေါ်လာပြန်သည်။ ဤစျာန်ကို အသားကျအောင် ဆက်၍ လေ့လာရပြန်သည်။

နောက်တစ်ဆင့်ဆက်ရန်မှာ "ဤအာကာစျာန်စိတ်သည် ရုပ်အာရုံပြုသော အောက်နားက စတုတ္ထစျာန်နှင့် နီးနေ၏"ဟု နှလုံးသွင်းကာ ကောင်းကင်ပညတ် အာရုံကို လွှတ်လိုက်ပြီး အာကာစျာန်စိတ်ကလေးကိုပင် ပြန်၍ အာရုံပြုလျက် အားထုတ်ရပြန်သည်။ အားထုတ်ပွားများဖန် များသောအခါ ဝိညာဏဉ္စာယတန စိတ်ခေါ် စိတ်သစ်တစ်မျိုး ပေါ်လာပြန်သည်။

ဝိညာစျာန်စိတ် တော်တော် အသားကျလာသော အခါ ရှေ့သို့ တက်ရဦးမည်။ "ဤဝိညာဉ်စိတ်သည် အာကာစျာန်စိတ်သို့ အလွယ်တကူ ပြန်ကျသွားနိုင်သည်။ သိပ်လည်း မငြိမ်လှသေး"ဟု နှလုံးသွင်းလျက် အာကာစျာန်စိတ်ကိုပင် အာရုံမပြုတော့ဘဲ လွှတ်ပစ်လိုက်သည်။ ဤသို့ လွှတ်ပစ်လိုက်ပြီးခါမှ ထို အာကာစျာန်စိတ်ကလေး လုံးဝ ချုပ်ဆုံး ပျောက်ကွယ်သွား၍ ဘာမျှ မကျန်ခဲ့ခြင်းကိုပင် "ဘာမျှ မရှိ (နတ္ထိ ကိဉ္စိ)"ဟု အဖန်ဖန် ရှုရလေသည်။ လူတစ်ယောက်

ထိုင်နေသော နေရာမှ ထသွားပြီးနောက် ကျန်နေခဲ့သောနေရာကို "ဘာမျှမရှိဘူး၊ သူမရှိတော့ဘူး"ဟု မှန်းကြည့်ရခြင်းမျိုး ဖြစ်သည်။ ဤသို့ ရှုဖန်များသော အခါ အာကိဉ္စညာယတနစျာန်စိတ်ခေါ် စိတ်သစ်တစ်မျိုး ဖြစ်လာပြန်သည်။ ဤအာကိန် စိတ်သည် တုန်လှုပ်မှု လုံးဝ ကင်းလေပြီ၊ အတိုင်းမသိ ငြိမ်သက်လေပြီ။

နောက်ဆုံးတွင် ဤအာကိန်စိတ်ကား "ငြိမ်သက်ပေစွ၊ မွန်မြတ်ပေစွ"ဟု အထပ်ထပ် ပွားများသောအခါ နေဝသညာ နာသညာယတနစျာန်စိတ်ခေါ် စိတ်သစ်တစ်မျိုး ပေါ်လာလေသည်။ ဤစိတ်ကား စိတ်လောကထဲမှာ ထိပ်ပိတ်တည်း၊ ခေါင်ချုပ်တည်း၊ စိတ်ဟူ၍သာ ဆိုရသည်။ စိတ်မှ ဟုတ်ပါ လေတော့ရဲ့လား၊ ရှိသည်ဟုသာ ဆိုရသည်၊ ရှိမှ ရှိပါတော့ရဲ့လား၊ ဤသို့ ထင်ရလောက်အောင် အလွန့်အလွန် သိမ်မွေ့နူးညံ့နေလေပြီ။

ဤအာကာ၊ ဝိညာ၊ အာကိန်၊ နေဝ စျာန်စိတ်လေးမျိုးတွင်လည်း ဥပေက္ခာနှင့် ဧကဂ္ဂတာဟူသော စျာန်အင်္ဂါ ၂-ပါးစီပင် ရှိသည်။ သို့သော် တဆင့်ထက်တဆင့် ပို၍ နူးညံ့သိမ်မွေ့လာသည်။ အရည်အသွေး ပိုရှိလာလေသည်။

စိတ်သစ်တစ်ခု ပေါ်ခါနီးတွင် လက်ရှိစိတ်ပေါ် တွယ်တာမှု (နိကန္တိတဏှာ) ကွာကျသွားမြဲ ဖြစ်သည်၊ မူလ လက်ရှိစိတ်ပေါ် အတွယ် အတာ ကင်းမဲ့စွာဖြင့် ဆက်လက်အားထုတ်တော့မှ နောက်စိတ်သစ် ပေါ်လာရခြင်း ဖြစ်သည်။

မြတ်ဗုဒ္ဓဟောပြ နည်းပေးခဲ့သဖြင့် ယခုလို စျာန်အင်္ဂါနှင့် စျာန်အာရုံများကို စီကာစဉ်ကာ "တက်လမ်း"ကို ဖြူးဖြူးဖြောင့်ဖြောင့် သိရခြင်းဖြစ်သည်။ အချို့ ရှေးက ယောဂီများမှာမူ ပထမစျာန်စိတ်ရပြီး နောက်တစ်ဆင့်တက်ဖို့ ဘာလုပ်ရမှန်း တော်တော်နှင့် မသိဘဲ စမ်းတဝါးဝါး ဖြစ်နေကြရသည်။ ထိုနည်းတူ စတုတ္ထစျာန် ရပြီးနောက်လည်း အာကာစျာန်သို့ ဘယ်လို ကူးရမည်ကို သိနိုင် ခဲ့သည်။ ဘုရားအလောင်း၏ ဆရာ နာမည်ကျော် အာဠာရ ရသေ့ကြီးသည်ပင် အာကိန်စျာန် ရထားပြီး ရှေ့ ဘယ်လို တက်ရမှန်း မသိ၍ သေသည်အထိ ရှေ့နေဝစျာန်သို့ တက်၍ မသွားရပေ။ ဝိ နှင့်ရှိထားသော စျာန်လက်ရှိနှင့် သေရလျှင် သက်ဆိုင်ရာ ပြဟ္မာ့ဘုံ၌ ပြဟ္မာဖြစ်ကြရသည်။ စျာန်ရမှ ပြဟ္မာဖြစ်သည်။ စျာန်မရလျှင် မည်သည့်ကုသိုလ်ပြုပြု ပြဟ္မာမဖြစ်နိုင်ချေ။

ပြန်၍ ပေါင်းရုံးကြည့်လျှင် စျာန်ယာဉ်သင်တန်းသား၌ အောက်ပါအတိုင်း သမာပတ်ရှစ်ပါး(ကိုးပါး)ကို ရရှိနေပြီးဖြစ်ကြောင်း သိရပေမည်-

**သမာပတ်ကိုးပါး (ရှစ်ပါး)**

| | စိတ် | အင်္ဂါအရည်အချင်း | အာရုံ |
|---|---|---|---|
| ၁။ | ပထမစျာန်စိတ် | (ဝိတက်၊ဝိစာရ၊ပီတိ၊သုခ၊ဧကဂ္ဂတာ) | ကသိုဏ်းဝန်းတု အာရုံနှ |
| ၂။ | ဒုတိယစျာန်စိတ် | (ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ) | ။ |
| ၃။ | တတိယစျာန်စိတ် | (ပီတိ၊ သုခ၊ ဧကဂ္ဂတာ) | ။ |
| ၄။ | စတုတ္ထစျာန်စိတ် | (သုခ၊ ဧကဂ္ဂတာ) | ။ |
| ၅။ | ပဉ္စမစျာန်စိတ် | (ဥပေက္ခာ၊ ဧကဂ္ဂတာ) | ။ |
| ၆။ | အာကာစျာန်စိတ် | ။ | ကသိုဏ်းကွာသည့် လဟာပညတ် |
| ၇။ | ဝိညာစျာန်စိတ် | ။ | အာကာစျာန်စိတ် |
| ၈။ | အာကိန်စျာန်စိတ် | ။ | အာကာစိတ်ကင်းမဲ့မှု မရှိပညတ် |
| ၉။ | နေဝစျာန်စိတ် | ။ | အာကိန်စျာန်စိတ် |

မှတ်ချက်။ ။ယခု ပြထားသော သမာပတ် ၉-ပါးအစီအစဉ်မှာ ဉာဏ်နုံ့သူ၏ တက်ရောက်စဉ် ဖြစ်သည်။ ဉာဏ်ထက်မြက်သူမှာ ဝိတက်နှင့် ဝိစာရကို တပေါင်းတည်း တကြိမ်တည်း ပယ်ပစ်လိုက်နိုင်သည်။ ထို့ကြောင့် သူ့အနေဖြင့် ပထမ၊ ဒုတိယ၊ တတိယနှင့် စတုတ္ထဟူ၍ လေးဆင့်သာ ဖြစ်သည်။ ဉာဏ်ထက်သူ၏ ဒုတိယစျာန်သည် ဉာဏ်နုံ့သူ၏ တတိယစျာန်နှင့်တူသည်၊ ဉာဏ်ထက်သူ၏ စတုတ္ထစျာန်သည် ဉာဏ်နုံ့သူ၏ ပဉ္စမစျာန်နှင့် အင်္ဂါချင်းတူသည်။ ဉာဏ်ထက်သူအဖို့ သမာပတ် ရှစ်ပါးဟုသာ ရေတွက်ရသည်။

ပထမမှ စတုတ္ထ(ပဉ္စမ)အထိ စျာန်လေးမျိုးက စျာန်၏အာရုံကို အသေထားပြီး စျာန်အင်္ဂါအရည်အချင်း လျှော့လျှော့ပြီး တက်ယူသည်။ ယင်းတို့ကို "ရူပစျာန်"ဟု ခေါ်၏။ အာကာမှ နေဝစျာန်စိတ်အထိ လေးမျိုးက စျာန်အင်္ဂါကို အသေထားပြီး အာရုံများကို ပြောင်း၍ ပြောင်း၍ တက်သွားသည်။ ယင်းတို့ လေးမျိုးကို "အရူပစျာန်"ဟု ခေါ်သည်။

ဖော်ပြပါ စိတ်၊ အင်္ဂါ၊ အာရုံ ဇယားကို ကြည့်၍ ပထမစျာန်အာရုံပြုသည့် ကသိုဏ်းဝန်းနှင့် နောက်ဆုံး နေဝစျာန်က အာရုံပြုသော အာကိန်စျာန်စိတ်တို့၏ သိမ်မွေ့ပုံချင်း အပြတ်အသတ် ကွာခြားကြောင်း သိအပ်သည်။ ကသိုဏ်းအာရုံက ရုပ်အာရုံ၊ ကြမ်းသည်၊ မြင်လွယ် ထင်လွယ်သည်။ အာကိန်စျာန်စိတ်ဆိုသည်မှာ နာမ်အာရုံ၊ သိမ်မွေ့လွန်းသည်၊ သိရန် မြင်ရန် ထင်ရန် အလွန်ခက်ခဲသည်။

စိတ်ဘက် ပြန်ကြည့်လျှင် အာရုံကြမ်းသော ပထမစျာန်စိတ်က အာရုံနုသော နေဝစျာန်စိတ်လောက် စွမ်းအား မကြီးချေ။ မတည်ငြိမ်ချေ။ မသိမ်မွေ့ချေ။ အာရုံ သိမ်မွေ့လေလေ နုလေလေ စိတ်စွမ်းအား ထက်မြက်လေလေ အားကောင်းလေလေ ဖြစ်သည်။

အာရုံနှင့် စိတ်ဆက်သွယ်ပုံ စဉ်းစားကြည့်လျှင် သိနိုင်ပါသည်။ ဥပမာ ကျွန်ုပ်တို့ ဘောပွဲ ကြည့်စဉ်အခါ ဂယက်ထနေသော စိတ်မျိုးနှင့် ယိုးဒယားသီချင်းကို အေးဆေးစွာ နားထောင်နေသောအခါ တည်ငြိမ်စွာ ဖြစ်နေသည့် စိတ်မျိုး ဤနှစ်ရပ်ကိုပင် နှိုင်းယှဉ်ကြည့်ပါ၊ စိတ်သည် အာရုံအလိုက် အထက်, အနိမ့် အကြမ်း,အနု ဖြစ်တတ်သော သဘောရှိပါသည်။

စျာန်ယာဉ် သူရဲကောင်းအလျာသည် ယခုအထိ သမာပတ်ရှစ်ပါး (ဉာဏ်နှံ့သူအနေဖြင့် ၉-ပါး)ကို ရနေပြီ ဖြစ်ပါသည်။ သို့သော် သမာပတ် ရှစ်ပါးကို ရရုံမျှဖြင့် မြေလျှိုး မိုးပျံ တန်ခိုး မဖန်နိုင်သေးပါ၊ ဤသမာပတ် ရှစ်ပါးကို အခြေပြု၍ အဘိညာဉ် ရသောအခါမှ စိတ်သွားတိုင်း ကိုယ်ပါ၍ လိုရာ အောင်မြင်ပါလိမ့်မည်။

## အဘိညာဉ်အဆင့်သို့

မူလက အခြေခံခဲ့သော ပထဝီကသိုဏ်းကို အာရုံပြု၍ မိမိရရှိပြီးသော စျာန်စိတ်များကို ပြန်လည် ဖော်ကြည့်ရပါမည်။ ပြန်လည် ဝင်စားရပါမည်။ ပထမတွင် အစဉ်အတိုင်း ပထမစျာန်စိတ်မှ စ၍ ဖော်ပြရပါသည်။ စျာန်စိတ် ပေါ်လာလျှင် ထားကြည့်၊ လွှတ်ကြည့်၊ စျာန်အင်္ဂါ ဆင်ခြင်ကြည့် စသည်ကို လုပ်ရပါသည်။ တဆင့်ပြီး တဆင့်တက်၊ ဤနည်းဖြင့် နေဝစျာန်အထိ တက်ရပါသည်။ အစပိုင်းတွင် ဝင်စားမှု နှေးနေပါလိမ့်မည်။ ဝင်စားပါ များလာလျှင် မပင် မပန်းဘဲ ပထမစျာန်မှ အဆုံးစျာန်အထိ အလျင်အမြန် ဖော်ဆောင်ဝင်စားလာနိုင်ပါလိမ့်မည်။

ဤသို့ **အစအဆုံး** အနုလောမနည်းဖြင့် နိုင်လာသောအခါ **အဆုံးနေဝစျာန်မှ** ပြောင်းပြန် ပထမစျာန်သို့ ပြန်ဆင်း ဝင်စားကြည့်ရသည်။ **"နမော တဿ"**ကို ပြောင်းပြန် ဆိုကြည့်သလိုပင်။ ဤသို့ ဆုံးမှစ ပဋိလောမ နိုင်နင်း လာပြန်သော အခါ အနုလောမ တကျော့၊ ပဋိလောမ တကျော့၊ အတက်–အဆင်း အပြန်ပြန် ဝင်စားရသည်။ ယင်း ပဋိလောမနည်း နိုင်နင်းလာပြန်သောအခါ တစ်ခုကျော်၊ နှစ်ခုကျော်လည်းကောင်း၊ အလယ်က ဖောက်၍လည်းကောင်း ဝင်စားကြည့်ရပြန် သည်။ "ဝင်စား"ဆိုသည်မှာ စျာန်စိတ်ကို ဖော်ထား – လွှတ် – ဆင်ခြင် စသည်ကို လုပ်နေခြင်း ဖြစ်ပါသည်။

ဤသို့ ပထဝီကသိုဏ်းအာရုံဖြင့် သမာပတ်ရှစ်ပါးကို နိုင်နင်းပြီးသောအခါ အာပေါ ကသိုဏ်း စသည်ကို ပြောင်း၍ အထက်ပါ နည်းအတိုင်း ဝင်စား လေ့ကျင့် ရပါသည်။ ကသိုဏ်း ၁၀–ပါးစုံလျှင် အစကသိုဏ်းမှ အဆုံးကသိုဏ်း အတက် အဆင်း အထွင်း အဖောက် ဝင်စားရပါသည်။ ကသိုဏ်းကို အားလုံး နိုင်ပြီးသော အခါ သမာပတ်ရှစ်ပါးနှင့် ကသိုဏ်း ၁၀–ပါး ရောပြီး ကျင့်ရပြန်ပါသည်။ ဥပမာ– ပထမစျာန်က ပထဝီကသိုဏ်းကို အာရုံပြုလျှင် ဒုတိယစျာန်က အာပေါကသိုဏ်းကို အာရုံပြုသည် စသည်မျိုးဖြစ်၏။

ဤသို့ ဖွဲ့ရှိရှိ လေ့ကျင့်ဝင်စားဖန်များသောအခါ စျာန်သူရဲ၏ စိတ်သည် **အတိုင်း** မသိ သိမ်မွေ့လာသည်။ အတိုင်းမသိ စူးရှထက်မြက်လာသည်။ စိတ်၌ ယှဉ်သော သမာဓိ အားအစွမ်းလည်း အတိုင်း မသိ ကြီးမားလာသည်။ စိတ်၌ ယှဉ်သော ပညာမှာ ဘာမဆို သိသည့်အစွမ်း ရှိလာပြီး အဘိညာဉ်အဆင့် ရောက်လာသည်၊ ထိုအခါ စျာန်သူရဲသည် အဘိညာဉ်ရပြီး ဖြစ်ပါသည်။

မှတ်ချက်။ ။ပါရမီဓာတ်ခံ ကြီးမြင့်၍ ဉာဏ်အလွန် ထက်မြက်သူဆိုလျှင် ယခုလို ကသိုဏ်း ၁၀–ပါးကို အနုလောမနည်း စသည်ဖြင့် အထပ်ထပ် လေ့လာဝင်စားရန် မလိုပေ၊ ပဥ္စမစျာန် (စတုတ္ထစျာန်)ရ ကတည်းက အဘိညာဉ်ကိုပါ ရလာတတ်ပေသည်။

ဤနေရာတွင် ရူပဗေဒဘက်သို့ လှည့်ကြည့်သင့်ပါသည်။ ရိုးရိုးမျက်စိဖြင့် မြင်ရန် မဆိုထားဘိ၊ မိုက်ကရိုစကုပ် အကောင်းဆုံးဖြင့်သော်မှ မမြင် မတွေ့ရလောက် အောင် သေးငယ် သိမ်မွေ့လှသော **အနုမြူ**သည် မည်မျှ စွမ်းရည် သတ္တိ ကြီးမား ထက်မြက်လေသနည်း။ အနုမြူကို **ထပ်ခွဲ၍** တွေ့ရှိအပ်သော အီလက်ထရွန်၊ ပရိုတွန်၊ နျူထရွန်ဓာတ်တို့သည် မည်မျှ ဆန်းကြယ်လေသနည်း။ မည်မျှ အသုံးဝင်

လေသနည်း။ ပဋိပက္ခနှင့် တွေ့သောအခါ မည်မျှလောက် သတ္တိပြကြသနည်း။ ဤသို့လျှင် အတိုင်းမသိ သိမ်မွေ့သော ရုပ်အနှစ်ဓာတ်၏ အကြောင်းကို ဆင်ခြင်အပ်သည်။

စိတ်ပိုင်းတွင်လည်း ဤသဘောမျိုးပင် ဖြစ်သည်။ လမ်းပေါ်က လူတို့၏ ရိုးရိုးစိတ်ဓာတ်မှာ ကိလေသာ အညစ်အကြေးမကင်း၍ ရိုးရိုးစွမ်းရည်မျှသာ ရှိသည်။ ဈာန်သူရဲ၏ အတိုင်းမသိ သိမ်မွေ့သန့်ရှင်းသော ကိလေသာ ကင်းကွာသော စိတ်မှာ အတိုင်းမသိ ထူးခြားထက်မြက်သော စွမ်းရည်ရှိလေသည်။ ဤသည်မှာ သဘာဝကျသော အချက်ပင်ဖြစ်သည်။

သို့ဖြစ်သောကြောင့် အဘိညာဉ်ကို ရထားသူသည် သူ့စိတ်က ဖြစ်စေချင်သမျှ အကုန်ဖြစ်လာပေတော့သည်။ အာကာသရှိ မည်သည့်ဂြိုဟ်၊ မည်သည့် ဗိမာန်သို့ မဆို ပျံတက်ရောက်ရှိနိုင်၏။ မြေလွှာခွဲဝင်၍ မြေသို့ လျှိုးချင်သလို လျှိုးနိုင်၏။ သမုဒ္ဒရာရေပြင်ပေါ်မှာ လမ်းလျှောက်နိုင်သည်။ သမုဒ္ဒရာအောက် ငုပ်၍ နေနိုင်သည်။ လူသတ်လက်နက် အားလုံးကို ကြံ့ကြံ့ခံနိုင်သည်။ မီးမကူးအောင် လုပ်နိုင်သည်။ အဆိပ် မသင့်အောင် တားနိုင်သည်။ ဖြစ်စေချင်သော သက်ရှိ သတ္တဝါအမျိုးမျိုး ဝတ္ထုပစ္စည်းတစ်ခုခုကို ဖန်ဆင်းဖြစ်ပေါ်လာစေနိုင်သည်။ သူ့ကိုယ်ကို ဖျောက်နိုင်သည်။ တပါးသူ၏ စိတ်အကြံအစည်ကို သိနိုင်သည်။ မည်မျှလောက် ဝေးသော အရပ်က ပြောသောစကားကို ဖြစ်စေ၊ အလုံခန်းမှာ ဝင်ပြောသော စကားကိုဖြစ်စေ ကြားလိုလျှင် ကြားအောင် တတ်နိုင်သည်။ ဘာသာမျိုးစုံ၊ စကားမျိုးစုံကို နားလည်နိုင်သည်။ မှောင်ချနိုင်သည်။ အလင်းရောင် ဖန်တီးနိုင်သည်။ ရှေးရှေးက ဖြစ်ပျက်ခဲ့ဖူးသမျှကိုလည်း ပြန်ပြောင်း သိရှိနိုင်သည်။ ရှေ့မှာ ဘာဖြစ်လိမ့်မည်ဟုလည်း ကြိုတင်ပြောပြနိုင်သည်။

အချုပ်အားဖြင့် သတ်ဖြတ်ညှဉ်းဆဲခြင်း စသော မကောင်းဆိုးဝါးအလုပ်များမှ တပါး အပြစ်ကင်းသော အရာဟူသမျှကို အကုန်လုပ်နိုင်ပေသည်။ အဘိညာဉ် လူသားသည် လူယုတ်မာ မဟုတ်သည့်အတွက် လုပ်ချင်ရာရာ အကုန်လုပ်နိုင် သော်လည်း အဖျက်လုပ်ငန်းများကို မလုပ်ပေ။ အကယ်၍ မကောင်းမှုကို လုပ်ခဲ့မိသော် ချက်ချင်း ဈာန်အဘိညာဉ် ကွယ်ပျောက်၍ ရိုးရိုးလူသားဘဝ ပြန်ရောက် သွားလေသည်။

ဤအခန်းကို အဆုံးမသတ်မီ စကားချပ်၍ မှာချင်ပါသေးသည်။ သမထကမ္မဋ္ဌာန်းကို အားထုတ်၍ ဈာန်အဘိညာဉ် တစုံတရာ မရစေကာမူ အချည်းအနှီး အလဟဿ မဖြစ်ပါ။ ဤအကြောင်းကို အင်္ဂုတ္တိုရ်ပါဠိတော် အစ္ဆရာသင်္ဃာတကသိက္ခာသုတ်၌ အောက်ပါအတိုင်း မြတ်စွာဘုရား ဟောကြားခဲ့ပါသည်

"ချစ်သားရဟန်းတို့-အဖြူသြဒါတကသိုဏ်းကို လက်ဖျစ်တတွက် အချိန်ကလေး လောက်ပင်ဖြစ်စေ ကြည့်ရှု ပွားများသော ရဟန်းကို စျာန်တရားနှင့် မကင်း ဆိတ်ဘဲနေသော ရဟန်းဟူ၍လည်းကောင်း၊ ငါဘုရား၏ သာသနာတော်ကို ထမ်းရွက်သော ရဟန်းဟူ၍လည်းကောင်း၊ ငါဘုရား၏ ဩဝါဒကို လိုက်နာသူ ဟူ၍လည်းကောင်း၊ ပြည်သူတို့က ပေးလှူသော ဆွမ်းကို အချည်းအနှီး မဖြစ် စေဘဲ အကျိုးကြီးစေသူ ဟူ၍ လည်းကောင်း ဆိုအပ်ပေ၏။ အကယ်၍ လက်ဖျစ်တတွက်မျှမက အကြိမ်များစွာ ပွားများ အားထုတ်ပါမူကား အဘယ်သို့ ဆိုဖွယ်ရာ ရှိပါတော့အံ့နည်း"

အခြားအခြားသော ကသိုဏ်းတို့ကိုလည်း ဤနည်းအတိုင်း ဘုရားရှင်က ချီးကျူး ဟောကြားတော်မူထားပါသည်။

လူဝတ်ကြောင်တို့အနေဖြင့် သမထကသိုဏ်းရှုပါလျှင် စျာန်မရစေကာမူ အကျိုး မယုတ်ကြောင်း အထက်ပါ ဒေသနာတော်ကို ထောက်ထား သိရှိနိုင်ပါသည်။ စျာန် အဘိညာဉ်ကို ရပါမူကား အဘယ်သို့ ဆိုဖွယ်ရာရှိပါတော့အံ့နည်းဟု ပြောရပေမည်။

ထီမထိုးသူသည် မည်သည့်အခါမျှ ထီမပေါက်ပေ၊ ထီထိုးလျှင်မူ ကံကောင်း ထောက်မပါက ပေါက်ပေလိမ့်မည်။ ဤဥပမာကဲ့သို့ပင် သမထကသိုဏ်း ဘာဝနာ ကို အားမထုတ်သူအဖို့ စျာန်မရသည်မှာ သေချာသည်။ အားထုတ်ပါမူကား ပါရမီအခြေခံရှိပါက စျာန်အဘိညာဉ်ကို ရနိုင်ပေသည်။ စျာန်အဘိညာဉ်ကို ရဖို့ ရန်ကား သိပ်ခက်သည် မဟုတ်ပေ။ ခက်သည်က အားထုတ်ဖြစ်ဖို့သာ ခက်ပေ သည်။ မိမိကံကို မိမိရော အခြားသူပါ ကြိုတင်မသိနိုင်သကဲ့သို့ မိမိ၏ ပါရမီ အခြေခံကိုလည်း မိမိရော အခြားသူတို့ပါ ကြိုတင်ခန့်မှန်းနိုင်ခြင်း မရှိပေ။ သို့ဖြစ်သောကြောင့် အဆင်သင့်လျှင် အားထုတ်ကြည့်ပါက မမှားနိုင်ပေ။

ထို့ပြင် အချို့က သမထလမ်း စျာန်လမ်းကို အထင်သေးတတ်ကြသည်။ ဝိပဿနာ ကိုမှ အထင်ကြီးကြသည်။ တနည်းအားဖြင့် သမထလမ်းက လမ်းရှည်ဟု ယူဆ ကြသည်။ သို့ရာတွင် သမထနည်းဖြင့်ရသော စျာန်သမာဓိကို လက်ကိုင်ပြု၍ ဝိပဿနာပွားများ အားထုတ်လျှင် ယခု စျာန်မရှိသော လူစိမ်းများထက် အနိစ္စ၊ ဒုက္ခ၊ အနတ္တ လက္ခဏာရေး ၃-ပါးကို ပို၍ သိမြင်လွယ်ပေသည်။

ဘုရားရှင် အဆူဆူတို့သည် အာနာပါနသမထကမ္မဋ္ဌာန်းဖြင့် စျာန်လေးပါးကို ရအောင် အလျင် အားထုတ်ပြီးမှ မဂ်လမ်း ဖိုလ်လမ်းကို အရောက်ကူးသန်းမြဲ ဖြစ်လေသည်။ သာမန် သမာဓိအား၊ ဉာဏ်အားဖြင့် ရုပ်နာမ်ဓမ္မ သဘာဝ

လက္ခဏာကို မြင်ဖို့အရေး ဝေးလှသေး၏။ ထို့ကြောင့် အနည်းဆုံး ဉပစာရ သမာဓိ (ဈာန်အနီးကပ် သမာဓိ)မျိုးကို ရအောင် အားထုတ်ပြီးမှ ဝိပဿနာကို ရှုကြရလေသည်။

ဤသို့ ကျယ်ကျယ်ပြန့်ပြန့် သုံးသပ်ပါလျှင် တစ်ဘက်က သမထကသိုဏ်း ဈာန်အပိုင်းကို အမြင် အထင် မသေးအပ်။ တခါ ဈာန်သမားတို့ကလည်း သာသနာပ ဈာန်ရှင်တို့ကဲ့သို့ ဈာန်အဘိညာဉ်တွင် လမ်းဆုံးမနေဘဲ ဝိပဿနာခရီးလမ်းဆုံးအထိ လိုက်ကြရန် မမေ့သင့်ဟူသော အချက်မှန်ကို ကောင်းစွာ သိမြင်ကြရမည် ဖြစ်ပါ ပေသတည်း။

**အကျဉ်းချုပ်။** ။ဤအခန်း၌ မြတ်ဗုဒ္ဓနည်းဖြင့် ဈာန်အဘိညာဉ် ရအောင် လက်တွေ့ အားထုတ်နည်းအတိုင်း ဖော်ပြပါသည်။ မကျင့်ခင် ကြိုတင် ပြင်ဆင်ရမည့် အချက်များ၊ အလုပ်ခွင်၌ နေရာယူပုံ၊ စိတ်ဓာတ်တည် ဆောက်ပုံများနှင့် လုပ်ငန်း၏ အန္တရာယ် ဖြစ်လာလျှင် ကျော်လွှားနည်းများ ကို အသေးစိတ် ဖော်ပြပါသည်။ ထို့ပြင် တစျာန်မှ တဈာန် တက်ရောက်ပုံ၊ ဈာန် ကစားပုံနှင့် အဘိညာဉ်ရ၍ မည်သို့သော စွမ်းရည်များ ရှိလာပုံတို့ကို လွယ်လွယ် ရှင်းရှင်း တင်ပြထားပါသည်။

# အခန်း (၉)

## မဟာသတိပဋ္ဌာနသုတ်တော်မြန်မာပြန်

**အကျဉ်းချုပ်**

ရဟန်းတို့-ဤခရီးလမ်းသည် သတ္တဝါတို့၏ စိတ်စင်ကြယ်ရန်, စိုးရိမ်ပူပန်ခြင်း, ငိုကြွေးခြင်းတို့ကို လွတ်မြောက်ရန်, ကိုယ်ဆင်းရဲ စိတ်ဆင်းရဲတို့ ချုပ်ငြိမ်းရန်, အရိယမဂ်ကိုရရန်, နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တစ်ကြောင်းတည်းသော ခရီးလမ်း ဖြစ်ပေ၏။ ယင်းသည့် ခရီးလမ်းကား ဤသတိပဋ္ဌာန် လေးပါးတို့ပင်တည်း။

အဘယ်လေးပါးတို့နည်းဟူမူ-

ရဟန်းတို့-ဤသာသနာတော်၌ ရဟန်းသည် ပြင်းစွာအားထုတ်သော လုံ့လ ရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ် ရှိသည်ဖြစ်၍ သတိ[၁] ရှိသည်ဖြစ်၍ လောက[၂] ၌ အဘိဇ္ဈာ[၃] ဒေါမနဿ[၄] ကို ပယ်ဖျောက်၍ ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ပြင်းစွာ အားထုတ်သော လုံ့လရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ် ရှိသည်ဖြစ်၍ သတိရှိ သည်ဖြစ်၍ လောက၌ အဘိဇ္ဈာ ဒေါမနဿကို ပယ်ဖျောက်၍ ဝေဒနာတို့၌ ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ပြင်းစွာ အားထုတ်သော လုံ့လရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ် ရှိသည်ဖြစ်၍ သတိရှိ သည်ဖြစ်၍ လောက၌ အဘိဇ္ဈာ ဒေါမနဿကို ပယ်ဖျောက်၍ စိတ်၌ စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ပြင်းစွာ အားထုတ်သော လုံ့လရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ် ရှိသည်ဖြစ်၍ သတိရှိ သည်ဖြစ်၍ လောက၌ အဘိဇ္ဈာ ဒေါမနဿကို ပယ်ဖျောက်၍ သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

**အကျဉ်းချုပ်ပြီး၏။**

---

၁။ အောက်မေ့ခြင်း
၂။ ဥပါဒါနက္ခန္ဓာလောကကို ဆိုသည်။
၃။ လိုချင်တပ်မက်ခြင်း
၄။ နှလုံးမသာခြင်း

# (က) ကာယာနုပဿနာသတိပဋ္ဌာန်

## (၁) ထွက်သက်ဝင်သက်ကို ရှုဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့-အဘယ်သို့လျှင် ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် တောသို့ သွားရောက်၍ဖြစ်စေ၊ သစ်ပင်ရင်းသို့ သွားရောက်၍ ဖြစ်စေ၊ ဆိတ်ငြိမ်ရာသို့ သွားရောက်၍ ဖြစ်စေ တင်ပျဉ်ခွေပြီးလျှင် ကိုယ်ကို ဖြောင့်မတ်စွာထား၍ သတိကို (ကမ္မဋ္ဌာန်းသို့) ရှေးရှုဖြစ်စေလျက် ထိုင်၏။ ထိုရဟန်းသည် သတိရှိလျက်သာလျှင် ထွက်သက်လေကို ရှိုက်၏[၁]။ သတိရှိလျက်သာလျှင် ဝင်သက်လေကို ရှူ၏။ ရှည်ရှည်ရှိုက်လျှင်လည်း "ရှည်ရှည်ရှိုက်သည်"ဟု သိ၏။ ရှည်ရှည်ရှူလျှင်လည်း "ရှည်ရှည်ရှူသည်"ဟု သိ၏။ တိုတိုရှိုက်လျှင်လည်း "တိုတို ရှိုက်သည်"ဟု သိ၏။ တိုတိုရှူလျှင်လည်း "တိုတိုရှူသည်"ဟု သိ၏။ (ထွက်သက် လေ၏) "အစ အလယ် အဆုံး အလုံးစုံသော ရုပ်အပေါင်းကို ထင်ရှားသိလျက် ရှိုက်မည်"ဟု ကျင့်၏။ (ဝင်သက်လေ၏) "အစ အလယ် အဆုံး အလုံးစုံသော ရုပ်အပေါင်းကို ထင်ရှားသိလျက် ရှူမည်"ဟု ကျင့်၏။ "ရုန့်ရင်းသော ထွက်သက်ကို ငြိမ်းစေလျက် ရှိုက်မည်ဟု"ကျင့်၏။ "ရုန့်ရင်းသော ဝင်သက်ကို ငြိမ်းစေလျက် ရှူမည်"ဟု ကျင့်၏။

ရဟန်းတို့ - ဥပမာသော်ကား ကျွမ်းကျင်သော ပွတ်သမားသည်လည်းကောင်း၊ ပွတ်သမား၏ တပည့်သည်လည်းကောင်း (ပွတ်ကြိုးကို) ရှည်ရှည်ဆွဲငင်လျှင်လည်း "ရှည်ရှည်ဆွဲသည်"ဟု သိ၏။ (ပွတ်ကြိုးကို) တိုတိုဆွဲလျှင်လည်း "တိုတိုဆွဲသည်"ဟု သိ၏။ ရဟန်းတို့ - ဤအတူပင် ရဟန်းသည် ရှည်ရှည်ရှိုက်လျှင်လည်း "ရှည်ရှည် ရှိုက်သည်"ဟု သိ၏။ ရှည်ရှည်ရှူလျှင်လည်း "ရှည်ရှည်ရှူသည်"ဟု သိ၏။ တိုတိုရှိုက်လျှင်လည်း "တိုတိုရှိုက်သည်"ဟု သိ၏။ တိုတိုရှူလျှင်လည်း "တိုတိုရှူသည်"ဟု သိ၏။ (ထွက်သက်လေ၏) "အစ အလယ် အဆုံး အလုံးစုံသော ရုပ်အပေါင်းကို ထင်ရှားသိလျက် ရှိုက်မည်"ဟု ကျင့်၏။ (ဝင်သက်လေ၏) "အစ အလယ် အဆုံး အလုံးစုံသော ရုပ်အပေါင်းကို ထင်ရှားသိလျက် ရှူမည်"ဟု ကျင့်၏။ "ရုန့်ရင်းသော ထွက်သက်ကို ငြိမ်းစေလျက် ရှိုက်မည်"ဟု ကျင့်၏။ "ရုန့်ရင်းသော ဝင်သက်ကို ငြိမ်းစေလျက် ရှူမည်"ဟု ကျင့်၏။

---

၁။ ဝမ်းဗိုက်ကို ရှိုက်၍ လွှတ်ရသည်ကို ရည်၍ ထွက်လေ လွှတ်သည်ကို ရှိုက်သည်ဟု ဝေါဟာရပြုသည်။

ဤသို့ (မိမိ၏) ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ မိမိသူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ရုပ်အပေါင်း၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်းပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "ရုပ်အပေါင်းသည်သာလျှင် ရှိသည်"ဟု ထိုရဟန်းအား သတိသည် ရှေ့ရှု ထင်၏။ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ် တိုးပွားခြင်းသာ ဖြစ်၏၊ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ဖိုရဟန်းသည် တဏှာ, ဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ် မူ၍လည်း နေ၏။ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာဟု)စွဲလည်း မစွဲလမ်း။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ထွက်သက် ဝင်သက်ကို ရှုဆင်ခြင်ခြင်းအပိုင်း ပြီး၏။

---

## (၂) ဣရိယာပုထ်ကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် သွားလျှင်လည်း "သွားသည်"ဟု သိ၏။ ရပ်လျှင်လည်း "ရပ်သည်"ဟု သိ၏။ ထိုင်လျှင်လည်း "ထိုင်သည်"ဟု သိ၏။ လျောင်းလျှင်လည်း "လျောင်းသည်"ဟု သိ၏။ ထိုရဟန်း၏ ရုပ်အပေါင်းသည် အကြင်အကြင် အမူအရာအားဖြင့် တည်နေ၏။ ထိုရုပ်အပေါင်းကို ထိုထို အမူအရာအားဖြင့် သိ၏။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ မိမိသူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ရုပ်အပေါင်း၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ မူလည်း နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်းပျက်ကြောင်းတရားနှင့် ဖြစ်ခြင်းပျက်ခြင်း

သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "ရုပ်အပေါင်းသည် သာလျှင် ရှိ၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှု ထင်၏။ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ်မူ၍လည်း နေ၏။ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာ)ဟု စွဲလည်း မစွဲလမ်း။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ဣရိယာပုထ်ကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

## (၃) သတိသမ္ပဇဉ်ဖြင့် ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ရှေ့သို့တိုးရာ, နောက်သို့ဆုတ်ရာ၌ သိလျက်ပြုလေ့ရှိ၏။ တူရူကြည့်ရာ, တစောင်းကြည့်ရာ၌ သိလျက်ပြုလေ့ရှိ၏။ ကွေးရာ, ဆန့်ရာ၌ သိလျက်ပြုလေ့ရှိ၏။ ဒုကုဋ်၊ သပိတ်၊ သင်္ကန်းကို ဆောင်ရာ၌ သိလျက် ပြုလေ့ရှိ၏။ စားရာ, သောက်ရာ, ခဲရာ, လျက်ရာ၌ သိလျက် ပြုလေ့ရှိ၏။ ကျင်ကြီး ကျင်ငယ်စွန့်ရာ၌ သိလျက် ပြုလေ့ရှိ၏။ သွားရာ၊ ရပ်ရာ၊ ထိုင်ရာ၊ အိပ်ရာ၊ နိုးရာ၊ ပြောရာ၊ ဆိတ်ဆိတ်နေရာ၌ သိလျက် ပြုလေ့ရှိ၏။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ။ပ။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

သတိသမ္ပဇဉ်ဖြင့် ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

## (၄) စက်ဆုပ်ဖွယ်ဟု နှလုံးသွင်းခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ခြေဖဝါးမှ အထက်၊ ဆံပင်ဖျားမှ အောက်၊ ထက်ဝန်းကျင် အရေပါးအဆုံးရှိသော မစင်ကြယ်သည့် အရာအမျိုးမျိုး တို့ဖြင့် ပြည့်လျက်ရှိသော ဤရုပ်အပေါင်းကိုပင် စူးစိုက်ဆင်ခြင်၏။ "ဤရုပ်အပေါင်း၌ ဆံပင်၊ အမွေး၊ ခြေသည်း လက်သည်း၊ သွား၊ အရေ၊ အသား၊ အကြော၊ အရိုး၊ ရိုးတွင်းခြင်ဆီ၊ အညှို့၊ နှလုံး၊ အသည်း၊ အမြှေး၊ အဖျဉ်း (ကျောက်ကပ်)၊ အဆုတ်၊ အူမ၊ အူသိမ်၊ အစာသစ်၊ အစာဟောင်း၊ ဦးနှောက်၊ သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည်၊ ဆီကြည်၊ တံတွေး၊ နှပ်၊ အစေး၊ ကျင်ငယ်သည် ရှိ၏"ဟု စူးစိုက်ဆင်ခြင်၏။

ရဟန်းတို့- ဥပမာသော်ကား နှစ်ဖက်မျက်နှာဝရှိသော အိတ်သည် စပါး အမျိုးမျိုးတို့ဖြင့် ပြည့်လျက် ရှိရာ၏။ အဘယ်စပါးတို့နည်းဟူမူ- သလေးစပါး၊ ကောက်ကြီးစပါး၊ ပဲနောက်၊ ပဲကြီး၊ နှမ်း၊ ဆန်တို့တည်း။ မျက်စိအမြင်ရှိသော ယောက်ျားသည် ထိုအိတ်ကို ဖြေ၍ "ဤသည်တို့ကား သလေးစပါးတို့တည်း၊ ဤသည်တို့ကား ကောက်ကြီးစပါးတို့တည်း၊ ဤသည်တို့ကား ပဲနောက်တို့တည်း၊ ဤသည်တို့ကား ပဲကြီးတို့တည်း၊ ဤသည်တို့ကား နှမ်းတို့တည်း၊ ဤသည်တို့ကား ဆန်တို့တည်း"ဟု စူးစိုက်ဆင်ခြင်ရာသကဲ့သို့ ရဟန်းတို့-ဤအတူပင် ရဟန်းသည် ခြေဖဝါးမှ အထက်၊ ဆံပင်ဖျားမှ အောက် ထက်ဝန်းကျင် အရေပါးအဆုံးရှိသော မစင်ကြယ်သည့်အရာ အမျိုးမျိုးတို့ဖြင့် ပြည့်လျက်ရှိသော ဤရုပ်အပေါင်းကိုပင် စူးစိုက် ဆင်ခြင်၏။ "ဤရုပ်အပေါင်း၌ ဆံပင်၊ အမွေး၊ ခြေသည်း လက်သည်း၊ သွား၊ အရေ ။ပ။ ကျင်ငယ်သည် ရှိ၏"ဟု (စူးစိုက်ဆင်ခြင်၏)။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ။ပ။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

စက်ဆုပ်ဖွယ်ဟု နှလုံးသွင်းဆင်ခြင်ခြင်းအပိုင်း ပြီး၏။

---

## (၅) ဓာတ်အားဖြင့် နှလုံးသွင်းခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း "ဤရုပ်အပေါင်း၌ မြေဓာတ်၊ ရေဓာတ်၊ မီးဓာတ်၊ လေဓာတ်သည် ရှိ၏"ဟု ဤရုပ်အပေါင်းကို တည်မြဲတိုင်း၊ ထားမြဲတိုင်းပင် ဓာတ်အားဖြင့် စူးစိုက်ဆင်ခြင်၏။

ရဟန်းတို့- ဥပမာသော်ကား ကျွမ်းကျင်သော နွားသတ်သမားသည်လည်းကောင်း၊ နွားသတ်သမား၏ တပည့်သည်လည်းကောင်း နွားကိုသတ်၍ လမ်းလေးခွ ဆုံရာ၌ အဖုအပုံအားဖြင့် ခွဲခြားလျက် ထိုင်နေရာသကဲ့သို့ ရဟန်းတို့-ဤအတူပင် ရဟန်းသည် "ဤရုပ်အပေါင်း၌ မြေဓာတ်၊ ရေဓာတ်၊ မီးဓာတ်၊ လေဓာတ်သည် ရှိ၏"ဟု ဤရုပ်အပေါင်းကို တည်မြဲတိုင်း ထားမြဲတိုင်းပင် ဓာတ်အားဖြင့် စူးစိုက် ဆင်ခြင်၏။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ။ပ။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ဓာတ်အားဖြင့် နှလုံးသွင်းခြင်းအပိုင်း ပြီး၏။

---

## (၆) သူသေကောင်ကိုးမျိုးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် သေ၍ တစ်ရက်ရှိသောသူသေကောင်၊ သေ၍ နှစ်ရက်ရှိသော သူသေကောင်၊ သေ၍ သုံးရက်ရှိသော သူသေကောင်၊ ဖူးရောင်နေသော သူသေကောင်၊ ရုပ်ဆင်းပျက်လျက် ညိုမည်းနေသော သူသေကောင်၊ ပြည်ကဲ့သို့ စက်ဆုပ်ဖွယ် အပုပ်ရည်ယိုစီးသော သင်္ချိုင်း၌ စွန့်ပစ်ထားသော သူသေကောင်ကို မြင်ရာသကဲ့သို့ ထိုရဟန်းသည် ဤကိုယ်ကိုသာလျှင် "ဤငါ၏ ရုပ်အပေါင်းသည်လည်း ဤသို့သော သဘောရှိ၏။ ဤသို့သော သဘောဖြစ်လိမ့်မည်သာတည်း။ ဤသို့သောသဘောကို မလွန်ဆန်နိုင်"ဟု နှိုင်းစာ၍ ရှု၏။

ဤသို့(မိမိ၏)ရုပ်အပေါင်း၌မူလည်း ။ပ။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ကျီးတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ စွန်ရဲတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ လင်းတတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ ဘုံမတီးငှက်တို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ ခွေးတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ ကျားတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ သစ်တို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ မြေခွေးတို့ ခဲစားအပ်သည်မူလည်းဖြစ်သော၊ ပိုးအမျိုးမျိုးတို့ ခဲစားအပ်သည်မူလည်းဖြစ်သော သင်္ချိုင်း၌ စွန့်ပစ်ထားသော သူသေကောင်ကို မြင်ရာသကဲ့သို့ ထိုရဟန်းသည် ဤကိုယ်ကိုသာလျှင် "ဤငါ၏ ရုပ်အပေါင်းသည်လည်း ဤသို့သဘောရှိ၏။ ဤသို့သောသဘော ဖြစ်လိမ့်မည်သာတည်း။ ဤသို့သော သဘောကို မလွန်ဆန်နိုင်"ဟု နှိုင်းစာ၍ ရှု၏။

ဤသို့ (မိမိ၏) ရုပ်အပေါင်း၌မူလည်း ။ပ။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် အသား အသွေးရှိသေးသော၊ အကြောတို့ဖြင့် ဖွဲ့ထားသော အရိုးဆက်လျက်ရှိသေးသော သင်္ချိုင်း၌ စွန့်ပစ်အပ်သော သူသေကောင်ကို မြင်ရာသကဲ့သို့ ။ပ။ အသားကင်း၍ သွေးတို့ဖြင့် ပေကျံလျက် အကြောတို့ဖြင့် ဖွဲ့လျက်ရှိသော၊ အရိုးဆက်လျက်ရှိသေးသော သင်္ချိုင်း၌ စွန့်ပစ်အပ်သော သူသေကောင်ကို ။ပ။ အသား အသွေးကင်းလျက် အကြောတို့ဖြင့် ဖွဲ့ထားသော၊ အရိုးစုဖြစ်သော သင်္ချိုင်း၌ စွန့်ပစ်အပ်သော သူသေကောင်ကို ။ပ။ တစ်နေရာ၌ လက်ရိုး၊ တစ်နေရာ၌ ခြေရိုး၊ တစ်နေရာ၌

ခြေဖမျက်ရိုး၊ တစ်နေရာ၌ မြင်းခေါင်းရိုး၊ တစ်နေရာ၌ ပေါင်ရိုး၊ တစ်နေရာ၌ ခါးရိုး၊ တစ်နေရာ၌ နံရိုး၊ တစ်နေရာ၌ ကျောက်ကုန်းရိုး၊ တစ်နေရာ၌ ပခုံးရိုး၊ တစ်နေရာ၌ လည်ပင်းရိုး၊ တစ်နေရာ၌ မေးရိုး၊ တစ်နေရာ၌ သွားရိုး၊ တစ်နေရာ၌ ဦးခေါင်းခွံ အားဖြင့် ဖွဲ့ခြင်း ကင်းကုန်လျက် ထိုထိုအရပ်တို့၌ ကျဲပြန့်နေကုန်သော သင်္ချိုင်း၌ စွန့်ပစ်အပ်သော အရိုးစု သူသေကောင်တို့ကို မြင်ရာသကဲ့သို့ ထိုရဟန်းသည် ဤကိုယ်ကိုသာလျှင် "ဤငါ၏ ရုပ်အပေါင်းသည်လည်း ဤသို့သော သဘောရှိ၏။ ဤသို့သော သဘော ဖြစ်လိမ့်မည်သာတည်း။ ဤသို့သော သဘောကို မလွန်ဆန်နိုင်"ဟု နှိုင်းစာ၍ ရှု၏။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ။ပ။ နေ၏။

ရဟန်းတို့- ဝါဖန် ထို့ပြင်လည်း ရဟန်းသည် ခရုသင်းအဆင်းနှင့် အတူ ဖြူဖွေးနေကုန်သော သင်္ချိုင်း၌ စွန့်ပစ်အပ်ကုန်သော အရိုးစု သူသေကောင်တို့ကို မြင်ရာသကဲ့သို့ ။ပ။ နှစ်လွန်လျက် စုပုံနေသော သင်္ချိုင်း၌ စွန့်ပစ်ထားအပ်သော အရိုးစု သူသေကောင်တို့ကို မြင်ရာသကဲ့သို့ ။ပ။ ဆွေးမြည့်လျက် အမှုန့်ဖြစ်ကုန်သော သင်္ချိုင်း၌ စွန့်ပစ်ထားကုန်သော အရိုးစု သူသေကောင်တို့ကို မြင်ရာသကဲ့သို့ ထိုရဟန်းသည် ဤကိုယ်ကိုသာလျှင် "ဤငါ၏ ရုပ်အပေါင်းသည်လည်း ဤသို့သဘောရှိ၏။ ဤသို့သော သဘောဖြစ်လိမ့်မည်သာတည်း။ ဤသို့သော သဘောကို မလွန်ဆန်နိုင်"ဟု နှိုင်းစာ၍ ရှု၏။

ဤသို့ မိမိ၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ နေ၏။ သူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ မိမိ သူတပါး၏ ရုပ်အပေါင်း၌မူလည်း ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်း တရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ရုပ်အပေါင်း၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ရုပ်အပေါင်း၌ ဖြစ်ကြောင်း ပျက်ကြောင်း တရားနှင့် ဖြစ်ခြင်း ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "ရုပ်အပေါင်းသည်သာလျှင် ရှိ၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှု ထင်၏။ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ်

တိုးပွားခြင်းငှာသာ ဖြစ်၏။ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာ ဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ်မူ၍လည်း နေ၏။ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာ)ဟု စွဲလည်း မစွဲလမ်း။ ရဟန်းတို့-ဤသို့လည်း ရဟန်းသည် ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ နေ၏။

သူသေကောင်ကိုးမျိုးကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

ရုပ်အပေါင်းကို ဆင်ခြင်ခြင်း တစ်ဆယ့်လေးပါး ပြီး၏။

## (ခ) ဝေဒနာနုပဿနာသတိပဋ္ဌာန်

## ဝေဒနာကို ဆင်ခြင်ခြင်း ကိုးပါး

ရဟန်းတို့ - အဘယ်သို့လျှင် ရဟန်းသည် ဝေဒနာတို့၌ ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် သုခဝေဒနာကို ခံစားလျှင်လည်း "သုခဝေဒနာကို ခံစားသည်"ဟု သိ၏။ ဒုက္ခဝေဒနာကို ခံစားလျှင်လည်း "ဒုက္ခဝေဒနာကို ခံစားသည်"ဟု သိ၏။ အဒုက္ခမသုခဝေဒနာကို ခံစားလျှင်လည်း "အဒုက္ခမသုခဝေဒနာကို ခံစားသည်"ဟု သိ၏။

ကာမဂုဏ်နှင့် စပ်သော ချမ်းသာသော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့် စပ်သော ချမ်းသာသော ဝေဒနာကို ခံစားသည်"ဟု သိ၏။ ကာမဂုဏ်နှင့် မစပ်သော ချမ်းသာသော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့် မစပ်သော ချမ်းသာသော ဝေဒနာကို ခံစားသည်"ဟု သိ၏။ ကာမဂုဏ်နှင့်စပ်သော ဆင်းရဲသော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့်စပ်သော ဆင်းရဲသော ဝေဒနာကို ခံစားသည်"ဟု သိ၏။ ကာမဂုဏ်နှင့် မစပ်သော ဆင်းရဲသော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့် မစပ်သော ဆင်းရဲသော ဝေဒနာကို ခံစားသည်"ဟု သိ၏။ ကာမဂုဏ်နှင့် စပ်သော ဆင်းရဲမဟုတ် ချမ်းသာမဟုတ်သော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့်စပ်သော ဆင်းရဲမဟုတ် ချမ်းသာမဟုတ်သော ဝေဒနာကို ခံစားသည်"ဟု သိ၏။ ကာမဂုဏ်နှင့် မစပ်သော ဆင်းရဲမဟုတ် ချမ်းသာမဟုတ်သော ဝေဒနာကို ခံစားလျှင်လည်း "ကာမဂုဏ်နှင့် မစပ်သော ဆင်းရဲမဟုတ် ချမ်းသာမဟုတ်သော ဝေဒနာကို ခံစားသည်"ဟု သိ၏။

ဤသို့ မိမိ၏ ဝေဒနာတို့၌မူလည်း ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ ဝေဒနာတို့၌မူလည်း ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ ရှိသည်ဖြစ်၍ နေ၏။ မိမိ သူတပါး၏ ဝေဒနာတို့၌မူလည်း ဝေဒနာတို့ကို အကြိမ် ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ဝေဒနာတို့၌ ဖြစ်ကြောင်း တရားနှင့် ဖြစ်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ဝေဒနာတို့၌ ပျက်ကြောင်း တရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ဝေဒနာတို့၌ ဖြစ်ကြောင်း ပျက်ကြောင်း တရားနှင့် ဖြစ်ခြင်း ပျက်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "ဝေဒနာသည်သာလျှင် ရှိ၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ ထိုသတိသည် အဆင့်ဆင့် အသိဉာဏ်တိုးပွားခြင်းငှာသာ ဖြစ်၏။ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီမတွယ်မူ၍လည်း နေ၏၊ လောက၌ တစုံတခုကိုမျှလည်း "ငါ, ငါ၏ဥစ္စာ"ဟု စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ဝေဒနာတို့၌ ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ဝေဒနာတို့ကို ဆင်ခြင်ခြင်းကိုးပါး ပြီး၏။

---

## (၈) စိတ္တာနုပဿနာသတိပဋ္ဌာန်

### စိတ်ကို ဆင်ခြင်ခြင်း တစ်ဆယ့်ခြောက်ပါး

ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် စိတ်၌ စိတ်ကို အကြိမ်ကြိမ် ရှုလေ့ ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် ရာဂနှင့် တကွသော စိတ်ကိုလည်း "ရာဂနှင့် တကွသောစိတ်"ဟု သိ၏။ ရာဂကင်းသော စိတ်ကိုလည်း "ရာဂကင်းသောစိတ်"ဟု သိ၏။ ဒေါသနှင့်တကွသော စိတ်ကိုလည်း "ဒေါသနှင့်တကွသောစိတ်"ဟု သိ၏။ ဒေါသကင်းသော စိတ်ကိုလည်း "ဒေါသကင်းသောစိတ်"ဟု သိ၏။ မောဟနှင့်တကွသော စိတ်ကိုလည်း "မောဟနှင့်တကွသောစိတ်"ဟု သိ၏။ မောဟကင်းသောစိတ်ကိုလည်း "မောဟကင်းသောစိတ်"ဟု သိ၏။ သံခိတ္တစိတ်ကိုလည်း "သံခိတ္တစိတ်"ဟု သိ၏။ ဝိက္ခိတ္တ စိတ်ကိုလည်း "ဝိက္ခိတ္တစိတ်"ဟု သိ၏။ မဟဂ္ဂုတ်စိတ်ကိုလည်း "မဟဂ္ဂုတ်စိတ်"ဟု သိ၏။ အမဟဂ္ဂုတ်စိတ်ကိုလည်း "အမဟဂ္ဂုတ်စိတ်"ဟု သိ၏။ သဉတ္တရစိတ်ကိုလည်း "သဉတ္တရစိတ်"ဟု သိ၏။ အနုတ္တရစိတ်ကိုလည်း "အနုတ္တရစိတ်"ဟု သိ၏။ သမာဟိတစိတ်ကိုလည်း "သမာဟိတစိတ်"ဟု သိ၏။ အသမာဟိတစိတ်ကိုလည်း "အသမာဟိတစိတ်"ဟု သိ၏။ ဝိမုတ္တစိတ်ကိုလည်း "ဝိမုတ္တစိတ်"ဟု သိ၏။ အဝိမုတ္တစိတ်ကိုလည်း "အဝိမုတ္တစိတ်"ဟု သိ၏။

ဤသို့ မိမိ၏ စိတ်၌မူလည်း စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ စိတ်၌မူလည်း စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ မိမိ သူတပါး၏ စိတ်၌မူလည်း စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ စိတ်၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ စိတ်၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ စိတ်၌ ဖြစ်ကြောင်းပျက်ကြောင်း တရားနှင့် ဖြစ်ခြင်း ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "စိတ်သည်သာလျှင် ရှိ၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏။ ယင်းသတိသည် အဆင့်ဆင့် အသိဉာဏ်တိုးပွားခြင်းငှာသာ ဖြစ်၏။ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ်မူ၍လည်း နေ၏။ လောက၌ တစုံတရာကိုမျှလည်း "ငါ, ငါ၏ဥစ္စာ"ဟု စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် စိတ်၌ စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

စိတ်ကိုဆင်ခြင်ခြင်း တစ်ဆယ့်ခြောက်ပါး ပြီး၏။

---

# (ဃ) ဓမ္မာနုပဿနာသတိပဋ္ဌာန်

## သဘောတရားကို ဆင်ခြင်ခြင်း ငါးပါး

### ၁။ နီဝရဏတရားငါးပါးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့ - ဤသာသနာတော်၌ ရဟန်းသည် နီဝရဏ[၁] ငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် နီဝရဏငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် အတွင်းသန္တာန်၌ ကာမစ္ဆန္ဒ[၂] ရှိလျှင်လည်း "ငါ၏ အတွင်းသန္တာန်၌ ကာမစ္ဆန္ဒ ရှိသည်"ဟု သိ၏၊ အတွင်းသန္တာန်၌ ကာမစ္ဆန္ဒ မရှိလျှင်လည်း "ငါ၏ အတွင်းသန္တာန်၌ ကာမစ္ဆန္ဒ မရှိ"ဟု သိ၏။

၁။ အပိတ်အပင်တရား ၂။ ကာမဂုဏ်အလို

မဖြစ်သေးသော ကာမစ္ဆန္ဒ၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ကာမစ္ဆန္ဒ၏ ပယ်ကြောင်းကိုလည်း သိ၏။ ပယ်ပြီးသော ကာမစ္ဆန္ဒ၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဗျာပါဒ[၁] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဗျာပါဒရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ဗျာပါဒမရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဗျာပါဒ မရှိ"ဟု သိ၏၊ မဖြစ်သေးသော ဗျာပါဒ၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ဗျာပါဒ၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော ဗျာပါဒ၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ထိနမိဒ္ဓ[၂] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ထိနမိဒ္ဓရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ထိနမိဒ္ဓ မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ထိနမိဒ္ဓ မရှိ"ဟု သိ၏၊ မဖြစ်သေးသော ထိနမိဒ္ဓ၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ထိနမိဒ္ဓ၏ ပယ်ကြောင်းကိုလည်း သိ၏။ ပယ်ပြီးသော ထိနမိဒ္ဓ၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဥဒ္ဓစ္စ[၃] ကုက္ကုစ္စ[၄] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဥဒ္ဓစ္စ ကုက္ကုစ္စ ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ဥဒ္ဓစ္စ ကုက္ကုစ္စ မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဥဒ္ဓစ္စ ကုက္ကုစ္စ မရှိ"ဟု သိ၏၊ မဖြစ်သေးသော ဥဒ္ဓစ္စ ကုက္ကုစ္စ၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ဥဒ္ဓစ္စ ကုက္ကုစ္စ၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော ဥဒ္ဓစ္စကုက္ကုစ္စ၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဝိစိကိစ္ဆာ[၅] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဝိစိကိစ္ဆာရှိ၏"ဟု သိ၏၊ မိမိသန္တာန်၌ ဝိစိကိစ္ဆာ မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဝိစိကိစ္ဆာ မရှိ"ဟု သိ၏။ မဖြစ်သေးသော ဝိစိကိစ္ဆာ၏ ဖြစ်ကြောင်းကိုလည်း သိ၏။ ဖြစ်ပြီးသော ဝိစိကိစ္ဆာ၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော ဝိစိကိစ္ဆာ၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

---

၁။ သူတပါးပျက်စီးစေလိုခြင်းသဘော။ ၂။ လေးလံထိုင်းမှိုင်းခြင်း။

၃။ ပျံ့လွင့်ခြင်း။ ၄။ နှလုံးမသာယာခြင်း။ ၅။ မဝေခွဲနိုင်ခြင်း။

ဤသို့ မိမိ၏သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ မိမိသူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သဘောတရားတို့၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ သဘောတရားတို့၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ သဘောတရားတို့၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်းပျက်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "သဘောတရားတို့သည်သာလျှင် ရှိကုန်၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ်တိုးပွားခြင်းငှာသာ ဖြစ်၏။ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီမတွယ်မူ၍လည်း နေ၏။ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာဟု) စွဲလည်းမစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် နီဝရဏ ငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

နီဝရဏငါးပါးကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

## ၂။ ခန္ဓာငါးပါးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ဥပါဒါနက္ခန္ဓာ ငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် ဥပါဒါနက္ခန္ဓာငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။ ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် ဤကား ရုပ်တည်း၊ ဤကား ရုပ်၏ ဖြစ်ကြောင်းတည်း၊ ဤကား ရုပ်၏ ချုပ်ရာတည်း၊ ဤကား ဝေဒနာတည်း၊ ဤကား ဝေဒနာ၏ ဖြစ်ကြောင်းတည်း၊ ဤကား ဝေဒနာ၏ ချုပ်ရာတည်း၊ ဤကား သညာတည်း[၁]၊ ဤကား သညာ၏ ဖြစ်ကြောင်းတည်း၊ ဤကား သညာ၏ချုပ်ရာတည်း၊ ဤသည်တို့ကား သင်္ခါရ[၂]တို့တည်း၊ ဤကား သင်္ခါရတို့၏ ဖြစ်ကြောင်းတည်း၊ ဤကား သင်္ခါရတို့၏ချုပ်ရာတည်း၊ ဤကား ဝိညာဏ်တည်း[၃]၊ ဤကား ဝိညာဏ်၏ ဖြစ်ကြောင်းတည်း၊ ဤကား ဝိညာဏ်၏ ချုပ်ရာတည်းဟု ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

၁။ မှတ်သိခြင်း။ ၂။ ပြုပြင်စီရင်မှု အားထုတ်မှု။ ၃။ အထူးသိမှု။

ဤသို့ မိမိ၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ မိမိသူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ သဘောတရားတို့၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်းပျက်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "သဘောတရားတို့သည် သာလျှင် ရှိကုန်၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ် တိုးပွားခြင်းငှာသာ ဖြစ်၏၊ အဆင့်ဆင့် သတိကဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီမတွယ်မူ၍လည်း နေ၏၊ လောက၌ တစုံတရာကိုမျှလည်း (ငါ၊ ငါ၏ဥစ္စာ)ဟု စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ခန္ဓာငါးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ခန္ဓာငါးပါးကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

## ၃။ အာယတနတစ်ဆယ့်နှစ်ပါးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ခြောက်ပါးသော အတွင်းအပ အာယတန[၁] သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ နေ၏။ ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် ခြောက်ပါးသော အတွင်း အပ အာယတန သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။

ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် မျက်စိကိုလည်း သိ၏၊ အဆင်းတို့ကိုလည်း သိ၏၊ ထိုနှစ်ပါးစုံကို စွဲ၍ သံယောဇဉ်ဖြစ်ခြင်းကိုလည်း သိ၏၊ မဖြစ်သေးသော သံယောဇဉ်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သံယောဇဉ်၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော သံယောဇဉ်၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

---

၁။ ဖြစ်ရာအကြောင်း။

နားကိုလည်း သိ၏၊ အသံတို့ကိုလည်း သိ၏၊ ထိုနှစ်ပါးစုံကို စွဲ၍ သံယောဇဉ် ဖြစ်ခြင်းကိုလည်း သိ၏၊ မဖြစ်သေးသော သံယောဇဉ်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သံယောဇဉ်၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော သံယောဇဉ်၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

နှာခေါင်းကိုလည်း သိ၏၊ အနံ့တို့ကိုလည်း သိ၏၊ ထိုနှစ်ပါးစုံကို စွဲ၍ သံယောဇဉ်ဖြစ်ခြင်းကိုလည်း သိ၏၊ မဖြစ်သေးသော သံယောဇဉ်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သံယောဇဉ်၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော သံယောဇဉ်၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

လျှာကိုလည်း သိ၏၊ အရသာတို့ကိုလည်း သိ၏၊ ထိုနှစ်ပါးစုံကို စွဲ၍ သံယောဇဉ် ဖြစ်ခြင်းကိုလည်း သိ၏၊ မဖြစ်သေးသော သံယောဇဉ်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သံယောဇဉ်၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော သံယောဇဉ်၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

ကိုယ်ကိုလည်း သိ၏၊ အတွေ့အထိတို့ကိုလည်း သိ၏၊ ထိုနှစ်ပါးစုံကို စွဲ၍ သံယောဇဉ်ဖြစ်ခြင်းကိုလည်း သိ၏၊ မဖြစ်သေးသော သံယောဇဉ်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သံယောဇဉ်၏ ပယ်ကြောင်းကိုလည်း သိ၏၊ ပယ်ပြီးသော သံယောဇဉ်၏ နောင်အခါ မဖြစ်ပေါ်ကြောင်းကိုလည်း သိ၏။

ဤသို့ မိမိ၏သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ သူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ မိမိသူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သဘောတရားတို့၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်း ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏၊ ထို့ပြင် "သဘောတရားတို့သည် သာလျှင် ရှိကုန်၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ (ထိုသတိသည်)

အဆင့်ဆင့် အသိဉာဏ် တိုးပွားခြင်းငှာသာ ဖြစ်၏၊ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏။ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ်မူ၍လည်း နေ၏၊ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာဟူ၍) စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ခြောက်ပါးသော အတွင်းအပ အာယတန သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍ နေ၏။

အာယတနတစ်ဆယ့်နှစ်ပါးကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

## ၄။ ဗောဇ္ဈင်ခုနစ်ပါးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန် ထို့ပြင်လည်း ရဟန်းသည် ဗောဇ္ဈင်ခုနစ်ပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် ဗောဇ္ဈင်ခုနစ်ပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။

ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် မိမိသန္တာန်၌ သတိသမ္ဗောဇ္ဈင်[၂] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ သတိသမ္ဗောဇ္ဈင်ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ သတိသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏ သန္တာန်၌ သတိသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော သတိသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သတိသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဓမ္မဝိစယသမ္ဗောဇ္ဈင်[၃] ရှိလျှင်လည်း "ငါ၏သန္တာန်၌ ဓမ္မဝိစယသမ္ဗောဇ္ဈင်ရှိသည်"ဟု သိ၏။ မိမိသန္တာန်၌ ဓမ္မဝိစယသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဓမ္မဝိစယသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏။ မဖြစ်သေးသော ဓမ္မဝိစယသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ဓမ္မဝိစယသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဝီရိယသမ္ဗောဇ္ဈင်[၄] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဝီရိယသမ္ဗောဇ္ဈင်ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ဝီရိယသမ္ဗောဇ္ဈင် မရှိလျှင်လည်း

---

၁။ သစ္စာတို့ကို သိကြောင်း။
၂။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော အောက်မေ့ခြင်း။
၃။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော တရားသဘောကို စူးစမ်းဆင်ခြင်ခြင်း။
၄။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော အားထုတ်ခြင်း။

"ငါ၏ သန္တာန်၌ ဝီရိယသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော ဝီရိယသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ဝီရိယသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ပီတိသမ္ဗောဇ္ဈင်[၁] ရှိလျှင်လည်း "ငါ၏ သန္တာန်၌ ပီတိသမ္ဗောဇ္ဈင် ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ပီတိသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ပီတိသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော ပီတိသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ပီတိသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ပဿဒ္ဓိသမ္ဗောဇ္ဈင်[၂] ရှိလျှင်လည်း "ငါ၏သန္တာန်၌ ပဿဒ္ဓိသမ္ဗောဇ္ဈင် ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ပဿဒ္ဓိသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏သန္တာန်၌ ပဿဒ္ဓိသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော ပဿဒ္ဓိသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ပဿဒ္ဓိသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ သမာဓိသမ္ဗောဇ္ဈင်[၃] ရှိလျှင်လည်း "ငါ၏သန္တာန်၌ သမာဓိသမ္ဗောဇ္ဈင် ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ သမာဓိသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏သန္တာန်၌ သမာဓိသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော သမာဓိသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော သမာဓိသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

မိမိသန္တာန်၌ ဥပေက္ခာသမ္ဗောဇ္ဈင်[၄] ရှိလျှင်လည်း "ငါ၏သန္တာန်၌ ဥပေက္ခာသမ္ဗောဇ္ဈင် ရှိသည်"ဟု သိ၏၊ မိမိသန္တာန်၌ ဥပေက္ခာသမ္ဗောဇ္ဈင် မရှိလျှင်လည်း "ငါ၏ သန္တာန်၌ ဥပေက္ခာသမ္ဗောဇ္ဈင် မရှိ"ဟု သိ၏၊ မဖြစ်သေးသော ဥပေက္ခာသမ္ဗောဇ္ဈင်၏ ဖြစ်ကြောင်းကိုလည်း သိ၏၊ ဖြစ်ပြီးသော ဥပေက္ခာသမ္ဗောဇ္ဈင်ကို ပွားစေခြင်းငှာ ပြည့်စုံခြင်း၏ အကြောင်းကိုလည်း သိ၏။

ဤသို့ မိမိ၏ သဘောတရားတို့၌မူလည်း သဘောဟရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ သူတပါး၏ သဘောတရားတို့၌မူလည်း

---

၁။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော နှစ်သက်ခြင်း။
၂။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော ကိုယ်စိတ်၏ချမ်းသာခြင်း။
၃။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော တည်ကြည်ခြင်း။
၄။ မဂ်ဉာဏ်၏အကြောင်းဖြစ်သော အညီအမျှရှုခြင်း။

သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ဗိဗိ သူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ သဘောတရားတို့၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ သဘောတရားတို့၌ ပျက်ကြောင်းတရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ သဘောတရားတို့၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်းပျက်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည် ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "သဘောတရားတို့သည် သာလျှင် ရှိကုန်၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ (ထိုသတိသည်)အဆင့်ဆင့် အသိဉာဏ်တိုးပွားခြင်းငှာသာ ဖြစ်၏၊ အဆင့်ဆင့် သတိတဖန်တိုးပွားခြင်းငှာသာ ဖြစ်၏၊ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီ မတွယ်မူ၍လည်း နေ၏၊ လောက၌ တစုံတရာကိုမျှလည်း (ငါ၊ ငါ၏ဥစ္စာဟု) စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် ဗောဇ္ဈင်ခုနစ်ပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

ဗောဇ္ဈင်ခုနစ်ပါးကို ဆင်ခြင်ခြင်းအပိုင်း ပြီး၏။

---

## ၅။ သစ္စာလေးပါးကို ဆင်ခြင်ခြင်းအပိုင်း

ရဟန်းတို့- တဖန်ထို့ပြင်လည်း ရဟန်းသည် အရိယသစ္စာလေးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရဟန်းတို့- အဘယ်သို့လျှင် ရဟန်းသည် အရိယသစ္စာလေးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေသနည်း။

ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် "ဤကား ဒုက္ခတည်း"ဟု ဟုတ်မှန်သည့်အတိုင်း သိ၏၊ "ဤကား ဒုက္ခဖြစ်ကြောင်းတည်း"ဟု ဟုတ်မှန်သည့်အတိုင်း သိ၏။ "ဤကား ဒုက္ခချုပ်ရာတည်း"ဟု ဟုတ်မှန်သည့်အတိုင်း သိ၏၊ "ဤကား ဒုက္ခနိရောဓဂါမိနီပဋိပဒါ¹ တည်း"ဟု ဟုတ်မှန်သည့်အတိုင်း သိ၏။

---

၁။ ဆင်းရဲချုပ်ရာသို့ ရောက်ကြောင်းအကျင့်။

**ဒုက္ခအရိယသစ္စာ**

ရဟန်းတို့- ဒုက္ခသစ္စာဟူသည် အဘယ်နည်း။ ဇာတိ[၁] သည်လည်း ဒုက္ခတည်း၊ ဇရာ[၂] သည်လည်း ဒုက္ခတည်း၊ မရဏ[၃] သည်လည်း ဒုက္ခတည်း၊ သောက[၄] ပရိဒေဝ[၅] ဒုက္ခ[၆] ဒေါမနဿ[၇] ဥပါယာသ[၈] တို့သည်လည်း ဒုက္ခတို့တည်း၊ မချစ်ခင်မနှစ်သက်ဖွယ်တို့နှင့် တွေ့ဆုံ ပေါင်းသင်းရခြင်းသည်လည်း ဒုက္ခတည်း၊ ချစ်ခင်နှစ်လိုဖွယ်တို့နှင့် ကွဲကွာကွေကွင်းရခြင်းသည်လည်း ဒုက္ခတည်း၊ အလိုရှိသည်ကို မရခြင်းသည်လည်း ဒုက္ခတည်း၊ အကျဉ်းချုပ်အားဖြင့် ဥပါဒါနက္ခန္ဓာ ငါးပါး တို့သည် ဒုက္ခတို့တည်း။

ရဟန်းတို့- ဇာတိသည် အဘယ်နည်း။ ထိုထို သတ္တဝါတို့၏ ထိုထိုသတ္တဝါအစုအပေါင်း၌ ရှေးဦးစွာဖြစ်ခြင်း၊ ပြည့်စုံစွာဖြစ်ခြင်း၊ (အမိဝမ်းတွင်း ဥခွံတွင်းသို့) သက်ဝင်ခြင်း၊ ကိုယ်ထင်ရှားဖြစ်ခြင်း၊ ခန္ဓာကိုယ်၏ ထင်ရှားဖြစ်ခြင်း၊ အာယတနတို့ကို ရခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို ဇာတိဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- ဇရာသည် အဘယ်နည်း။ ထိုထိုသတ္တဝါတို့၏ ထိုထိုသတ္တဝါအပေါင်း၌ အိုခြင်း၊ အိုသော အခြင်းအရာ၊ သွားကျိုးခြင်း၊ ဆံဖြူခြင်း၊ အရေတွန့်ရှုံ့ခြင်း၊ ရုပ်အသက် ဆုတ်ယုတ်ခြင်း၊ (မျက်စိ စသော) ဣန္ဒြေတို့၏ ရင့်ခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို ဇရာဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- မရဏသည် အဘယ်နည်း။ ထိုထိုသတ္တဝါတို့၏ ထိုထိုသတ္တဝါအပေါင်းမှ ရွေ့လျောခြင်း၊ ရွေ့လျောသော အခြင်းအရာ၊ ပျက်စီးခြင်း၊ ကွယ်ပျောက်ခြင်း၊ သက်ပြတ်ခြင်း၊ သေဆုံးခြင်း၊ ကွယ်လွန်ခြင်း၊ ခန္ဓာတို့၏ ပျက်စီးခြင်း၊ ကိုယ်ကို ပစ်ချခြင်း၊ ဇီဝိတိန္ဒြေ၏ ပြတ်စဲခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို မရဏဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- သောကသည် အဘယ်နည်း။ ရဟန်းတို့- တမျိုးမျိုးသော ပျက်စီးခြင်းနှင့် မလွတ်ကင်းသော၊ တမျိုးမျိုးသော ဆင်းရဲကြောင်းနှင့် တွေ့သော သတ္တဝါ၏ စိုးရိမ်ခြင်း၊ စိုးရိမ်သော အခြင်းအရာ၊ စိုးရိမ်သည်၏ အဖြစ်၊ အတွင်း၌ စိုးရိမ်ခြင်း၊ အတွင်း၌ ပြင်းစွာစိုးရိမ်ခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို သောကဟူ၍ ခေါ်ဆိုအပ်၏။

---

၁။ ပဋိသန္ဓေတည်နေရခြင်း။
၂။ အိုခြင်း။
၃။ သေခြင်း။
၄။ စိုးရိမ်ပူပန်ခြင်း။
၅။ ငိုကြွေးခြင်း။
၆။ ကိုယ်ဆင်းရဲခြင်း။
၇။ စိတ်ဆင်းရဲခြင်း။
၈။ ပြင်းစွာပူပန်ခြင်း။

ရဟန်းတို့- ပရိဒေဝသည် အဘယ်နည်း။ ရဟန်းတို့- တမျိုးမျိုးသော ပျက်စီးခြင်းနှင့် မလွတ်ကင်းသော တမျိုးမျိုးသော ဆင်းရဲကြောင်းနှင့် တွေ့သော သတ္တဝါ၏ ငိုကြွေးခြင်း၊ ပြင်းစွာ ငိုကြွေးခြင်း၊ ငိုကြွေးသော အခြင်းအရာ၊ ပြင်းစွာ ငိုကြွေးသော အခြင်းအရာ၊ ငိုကြွေးသည်၏ အဖြစ်၊ ပြင်းစွာ ငိုကြွေးသည်၏ အဖြစ်တည်း။ ရဟန်းတို့- ဤတရားသဘောကို ပရိဒေဝ ဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- ဒုက္ခသည် အဘယ်နည်း။ ရဟန်းတို့- ကိုယ်၌ဖြစ်သော ဆင်းရဲ၊ ကိုယ်၌ဖြစ်သော မသာယာခြင်း၊ ကိုယ်အတွေ့ကြောင့် ဖြစ်သော ဆင်းရဲ၊ မသာယာသော ခံစားခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို ဒုက္ခဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- ဒေါမနဿသည် အဘယ်နည်း။ ရဟန်းတို့- စိတ်၌ဖြစ်သော ဆင်းရဲ၊ စိတ်၌ဖြစ်သော မသာယာခြင်း၊ စိတ်အတွေ့ကြောင့် ဖြစ်သော ဆင်းရဲ၊ မသာယာသော ခံစားခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို ဒေါမနဿ ဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- ဥပါယာသသည် အဘယ်နည်း။ ရဟန်းတို့- တမျိုးမျိုးသော ပျက်စီးခြင်းနှင့် မလွတ်ကင်းသော တမျိုးမျိုးသော ဆင်းရဲခြင်း၏ အကြောင်းနှင့် တွေ့ကြုံသော သတ္တဝါ၏ ပင်ပန်းခြင်း၊ ပြင်းစွာ ပင်ပန်းခြင်း၊ ပင်ပန်းသည်၏ အဖြစ်၊ ပြင်းစွာ ပင်ပန်းသည်၏ အဖြစ်တည်း။ ရဟန်းတို့- ဤတရားသဘောကို ဥပါယာသဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- မချစ် မနှစ်လိုဖွယ်တို့နှင့် တွေ့ဆုံ ပေါင်းသင်းရခြင်း ဆင်းရဲသည် အဘယ်နည်း။ ဤလောက၌ မလိုလား မနှစ်သက် မမြတ်နိုး အပ်ကုန်သော အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့သဘောတရားတို့သော်လည်းကောင်း၊ အကျိုးမဲ့ခြင်း၊ အစီးအပွားမဲ့ခြင်း၊ မချမ်းသာခြင်း၊ ဘေးမငြိမ်းခြင်းကို လိုလား ကုန်သော သူတို့သော်လည်းကောင်း ထိုသူအား ရှိကုန်၏၊ ထို (အာရုံ၊ သတ္တဝါ) တို့နှင့် တကွ တွေ့ရခြင်း၊ ဆုံရခြင်း၊ ပေါင်းဖော်ရခြင်း၊ ရောနှောရခြင်းတည်း။ ရဟန်းတို့- ဤတရားသဘောကို မချစ် မနှစ်လိုဖွယ်တို့နှင့် တွေ့ဆုံ ပေါင်းသင်း ရခြင်း ဆင်းရဲဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့ - ချစ်နှစ်လိုဖွယ်တို့နှင့် ကွဲကွာ ကွေကွင်းရခြင်း ဆင်းရဲသည် အဘယ်နည်း။ ဤလောက၌ လိုလား နှစ်သက် မြတ်နိုးအပ်ကုန်သော အဆင်း, အသံ, အနံ့, အရသာ, အတွေ့ သဘောတရားတို့သော်လည်းကောင်း၊ အကျိုး စီးပွား ချမ်းသာခြင်း၊ ဘေးကင်းခြင်းကို လိုလားကုန်သော အမိ၊ အဘ၊ ညီ၊ အစ်ကို၊ နှမ၊ အစ်မ၊ မိတ်ဆွေ အပေါင်းအဖော် ဆွေမျိုးသားချင်းတို့သော် လည်းကောင်း ထိုသူအား ရှိကုန်၏။ ထို (အာရုံ၊ သတ္တဝါ) တို့နှင့် မတွေ့ရခြင်း၊ မဆုံရခြင်း၊ မပေါင်းဖော်ရခြင်း၊ မရောနှောရခြင်းတည်း။ ရဟန်းတို့- ဤတရား သဘောကို ချစ်ခင်သော သူတို့နှင့် ကွဲကွာ ကွေကွင်းရခြင်း ဆင်းရဲဟူ၍ ခေါ်ဆိုအပ်၏။

ရဟန်းတို့- အလိုရှိသည်ကို မရခြင်း ဆင်းရဲသည် အဘယ်နည်း။ ရဟန်းတို့- ဇာတိသဘောရှိကုန်သော သတ္တဝါတို့အား "ငါတို့သည် ဇာတိသဘော မရှိကြကုန်မူ ကောင်းလေစွ၊ ဇာတိသည် ငါတို့ထံသို့ မလာမူကား ကောင်းလေစွ"ဟု ဤသို့သော တောင့်တခြင်းသည် ဖြစ်ပေါ်၏။ ယင်းသို့ တောင့်တသော်လည်း ဤ (ဇာတိ မလာခြင်း)ကို တောင့်တခြင်းဖြင့် မရအပ်၊ ဤသည်လည်း အလိုရှိသည်ကို မရခြင်း ဆင်းရဲမည်၏။ ရဟန်းတို့- ဇရာသဘောရှိကုန်သော သတ္တဝါတို့အား "ငါတို့သည် ဇရာသဘော မရှိကြကုန်မူ ကောင်းလေစွ၊ ဇရာသည် ငါတို့ထံ မလာမူကား ကောင်းလေစွ"ဟု ဤသို့သော တောင့်တခြင်းသည် ဖြစ်ပေါ်၏။ ယင်းသို့ တောင့်တသော်လည်း ဤ (ဇရာ မလာခြင်း)ကို တောင့်တခြင်းဖြင့် မရအပ်၊ ဤသည်လည်း အလိုရှိသည်ကို မရခြင်း ဆင်းရဲမည်၏။ ရဟန်းတို့- ဗျာဓိ[၁] သဘောရှိကုန်သော သတ္တဝါတို့အား "ငါတို့သည် ဗျာဓိသဘောမရှိကြကုန်မူ ကောင်းလေစွ၊ ဗျာဓိသည် ငါတို့ထံ မလာမူကား ကောင်းလေစွ"ဟု ဤသို့သော တောင့်တခြင်းသည် ဖြစ်ပေါ်၏။ ယင်းသို့ တောင့်တသော်လည်း ဤ (ဗျာဓိ မလာခြင်း) ကို တောင့်တခြင်းဖြင့် မရအပ်၊ ဤသည်လည်း အလိုရှိသည်ကို မရခြင်း ဆင်းရဲမည်၏။ ရဟန်းတို့-မရဏသဘော ရှိကုန်သော သတ္တဝါတို့အား "ငါတို့သည် မရဏသဘော မရှိကြကုန်မူ ကောင်းလေစွ၊ မရဏသည် ငါတို့ထံ မလာမူကား ကောင်းလေစွ"ဟု ဤသို့သော တောင့်တခြင်းသည် ဖြစ်ပေါ်၏။ ယင်းသို့ တောင့်တသော်လည်း ဤ (မရဏ မလာခြင်း)ကို တောင့်တခြင်းဖြင့် မရအပ်၊ ဤသည်လည်း အလိုရှိသည်ကို မရခြင်း ဆင်းရဲမည်၏။ ရဟန်းတို့- သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ ဥပါယာသ သဘောရှိကုန်သော သတ္တဝါတို့အား "ငါတို့သည် သောက ပရိဒေဝ ဒုက္ခ

၁။ နာခြင်း။

ကောဖြိုး-၄၄

ဒေါမနဿ ဥပါယာသ သဘော မရှိကြကုန်မူ ကောင်းလေစွ၊ သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ ဥပါယာသ သဘောတို့သည် ငါတို့ထံ မလာကြကုန်မူ ကောင်းလေစွ"ဟု ဤသို့သော တောင့်တခြင်းသည် ဖြစ်ပေါ်၏။ ယင်းသို့ တောင့်တသော်လည်း ဤ (သောက စသည်တို့ မလာခြင်း)ကို တောင့်တခြင်းဖြင့် မရအပ်၊ ဤသည်လည်း အလိုရှိသည်ကို မရခြင်း ဆင်းရဲမည်၏။

ရဟန်းတို့- အကျဉ်းချုပ်အားဖြင့် ငါးပါးသော ဥပါဒါနက္ခန္ဓာ[၁] ဆင်းရဲတို့ဟူသည် အဘယ်နည်း။ ငါးပါးသော ဥပါဒါနက္ခန္ဓာတို့ ဟူသည် ရုပ်ဥပါဒါနက္ခန္ဓာ၊ ဝေဒနာဥပါဒါနက္ခန္ဓာ၊ သညာဥပါဒါနက္ခန္ဓာ၊ သင်္ခါရဥပါဒါနက္ခန္ဓာ၊ ဝိညာဏ ဥပါဒါနက္ခန္ဓာတို့ ပေတည်း။ ရဟန်းတို့- ဤ (ဥပါဒါနက္ခန္ဓာ ငါးပါး) တို့ကို အကျဉ်းချုပ်အားဖြင့် ငါးပါးသော ဥပါဒါနက္ခန္ဓာ ဆင်းရဲတို့ဟူ၍ ဆိုအပ်ကုန်၏။

ရဟန်းတို့- ဤတရားသဘောကို ဒုက္ခအရိယသစ္စာဟူ၍ ဆိုအပ်၏။

## ဒုက္ခသမုဒယအရိယသစ္စာ

ရဟန်းတို့- ဒုက္ခသမုဒယအရိယသစ္စာသည် အဘယ်နည်း။ တဖန် ဘဝသစ်ကို ဖြစ်စေတတ်သော နှစ်သက်တပ်မက်ခြင်းနှင့် တကွဖြစ်သော ထိုထိုဘဝအာရုံ၌ အလွန်နှစ်သက်ခြင်းရှိသော တဏှာတည်း။ ထိုတဏှာ[၂]သည် အဘယ်နည်း။ ကာမတဏှာ[၃] ဘဝတဏှာ[၄] ဝိဘဝတဏှာ[၅] တို့တည်း။

ရဟန်းတို့ - ထိုတဏှာဖြစ်သည်ရှိသော် အဘယ်၌ ဖြစ်သနည်း။ တည်သည် ရှိသော် အဘယ်၌ တည်သနည်း။ လောက၌ (ချစ်ခင်ဖွယ် သာယာဖွယ်သဘော သည် (ရှိ၏)၊ ထို (တဏှာ)သည် ဖြစ်သည်ရှိသော် ဤ (ချစ်ခင်ဖွယ် သာယာဖွယ် အာရုံ)၌ ဖြစ်၏။ တည်သည်ရှိသော် ဤ(ချစ်ခင်ဖွယ် သာယာဖွယ် အာရုံ)၌ တည်၏။

လောက၌ ချစ်ခင်ဖွယ် သာယာဖွယ် သဘောသည် အဘယ်နည်း။ လောက၌ မျက်စိသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာသည် ဖြစ်သည် ရှိသော် ဤမျက်စိ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤမျက်စိ၌ တည်၏။ လောက၌ နားသည် ။ပ။ လောက၌ နှာခေါင်းသည် ။ပ။ လောက၌ လျှာသည် ။ပ။ လောက၌ ကိုယ်သည် ။ပ။ လောက၌ စိတ်သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤစိတ်၌ ဖြစ်၏၊ တည်သည် ရှိသော် ဤစိတ်၌ တည်၏။

---

၁။ ဥပါဒါန်၏ အာရုံတရားစု ၂။ တပ်မက်ခြင်း ၃။ ကာမဘုံ၌ တပ်မက်ခြင်း
၄။ ရူပအရူပဘုံ၌ တပ်မက်ခြင်း ၅။ ဥစ္ဆေဒဒိဋ္ဌိနှင့်တကွဖြစ်သော တပ်မက်ခြင်း

လောက၌ ရူပါရုံ[1]တို့သည် ။ပ။ လောက၌ သဒ္ဒါရုံ[2]တို့သည် ။ပ။ လောက၌ ဂန္ဓာရုံ[3]တို့သည် ။ပ။ လောက၌ ရသာရုံ[4]တို့သည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗာရုံ[5]တို့သည် ။ပ။ လောက၌ တရားသဘောတို့သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤတရားတို့၌ ဖြစ်၏၊ တည်သည်ရှိသော် ဤတရားတို့၌ တည်၏။

လောက၌ စက္ခုဝိညာဏ်[6]သည် ။ပ။ လောက၌ သောတဝိညာဏ်[7]သည် ။ပ။ လောက၌ ဃာနဝိညာဏ်[8]သည် ။ပ။ လောက၌ ဇိဝှါဝိညာဏ်[9]သည် ။ပ။ လောက၌ ကာယဝိညာဏ်[10]သည် ။ပ။ လောက၌ မနောဝိညာဏ်[11]သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤမနောဝိညာဏ်၌ ဖြစ်၏၊ တည်သည်ရှိသော် ဤမနောဝိညာဏ်၌ တည်၏။

လောက၌ စက္ခုသမ္ဖဿ[12]သည် ။ပ။ လောက၌ သောတသမ္ဖဿ[13]သည် ။ပ။ လောက၌ ဃာနသမ္ဖဿ[14]သည် ။ပ။ လောက၌ ဇိဝှါသမ္ဖဿ[15]သည် ။ပ။ လောက၌ ကာယသမ္ဖဿ[16]သည် ။ပ။ လောက၌ မနောသမ္ဖဿ[17]သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤမနောသမ္ဖဿ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤမနောသမ္ဖဿ၌ တည်၏။

လောက၌ စက္ခုသမ္ဖဿဇာဝေဒနာ[18]သည် ။ပ။ လောက၌ သောတသမ္ဖဿဇာဝေဒနာ[19]သည် ။ပ။ လောက၌ ဃာနသမ္ဖဿဇာဝေဒနာ[20]သည် ။ပ။ လောက၌ ဇိဝှါသမ္ဖဿဇာဝေဒနာ[21]သည် ။ပ။ လောက၌ ကာယသမ္ဖဿဇာဝေဒနာ[22] သည် ။ပ။ လောက၌ မနောသမ္ဖဿဇာဝေဒနာ[23]သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤမနောသမ္ဖဿဇာဝေဒနာ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤမနောသမ္ဖဿဇာဝေဒနာ၌ တည်၏။

---

၁။ အဆင်း ၂။ အသံ ၃။ အနံ့
၄။ အရသာ ၅။ အတွေ့အထိ
၆။ မျက်စိ၌မှီသောစိတ်၊ ၇။ နား၌မှီသောစိတ်၊ ၈။ နှာခေါင်း၌မှီသောစိတ်၊
၉။ လျှာ၌မှီသောစိတ်၊ ၁၀။ ကိုယ်၌မှီသောစိတ်၊ ၁၁။ မနော၌မှီသောစိတ်၊
၁၂။ မျက်စိအတွေ့ ၁၃။ နားအတွေ့ ၁၄။ နှာခေါင်းအတွေ့
၁၅။ လျှာအတွေ့ ၁၆။ ကိုယ်အတွေ့ ၁၇။ မနောအတွေ့
၁၈။ မျက်စိအတွေ့ကြောင့်ဖြစ်သောခံစားခြင်း၊
၁၉။ နားအတွေ့ကြောင့်ဖြစ်သောခံစားခြင်း၊
၂၀။ နှာခေါင်းအတွေ့ကြောင့်ဖြစ်သော ခံစားခြင်း၊
၂၁။ လျှာအတွေ့ကြောင့်ဖြစ်သော ခံစားခြင်း၊
၂၂။ ကိုယ်အတွေ့ကြောင့်ဖြစ်သော ခံစားခြင်း၊
၂၃။ မနောအတွေ့ကြောင့်ဖြစ်သော ခံစားခြင်း၊

လောက၌ ရူပသညာ[၁]သည် ။ပ။ လောက၌ သဒ္ဒသညာ[၂]သည် ။ပ။ လောက၌ ဂန္ဓသညာ[၃]သည် ။ပ။ လောက၌ ရသသညာ[၄]သည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗသညာ[၅]သည် ။ပ။ လောက၌ ဓမ္မသညာ[၆]သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤဓမ္မသညာ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤဓမ္မသညာ၌ တည်၏။

လောက၌ ရူပသဉ္စေတနာ[၇]သည် ။ပ။ လောက၌ သဒ္ဒသဉ္စေတနာ[၈]သည် ။ပ။ လောက၌ ဂန္ဓသဉ္စေတနာ[၉]သည် ။ပ။ လောက၌ ရသသဉ္စေတနာ[၁၀]သည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗသဉ္စေတနာ[၁၁]သည် ။ပ။ လောက၌ ဓမ္မသဉ္စေတနာ[၁၂]သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤဓမ္မသဉ္စေတနာ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤဓမ္မသဉ္စေတနာ၌ တည်၏။

လောက၌ ရူပတဏှာ[၁၃]သည် ။ပ။ လောက၌ သဒ္ဒတဏှာသည် ။ပ။ လောက၌ ဂန္ဓတဏှာသည် ။ပ။ လောက၌ ရသတဏှာသည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗတဏှာသည် ။ပ။ လောက၌ ဓမ္မတဏှာသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤဓမ္မတဏှာ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤဓမ္မတဏှာ၌ တည်၏။

လောက၌ ရူပဝိတက်[၁၄]သည် ။ပ။ လောက၌ သဒ္ဒဝိတက်သည် ။ပ။ လောက၌ ဂန္ဓဝိတက်သည် ။ပ။ လောက၌ ရသဝိတက်သည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗဝိတက်သည် ။ပ။ လောက၌ ဓမ္မဝိတက်သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏။ ထိုတပ်မက်ခြင်း "တဏှာ"သည် ဖြစ်သည်ရှိသော် ဤဓမ္မဝိတက်၌ ဖြစ်၏၊ တည်သည်ရှိသော် ဤဓမ္မဝိတက်၌ တည်၏။

---

၁။ ရူပါရုံ၌မှတ်သားခြင်း၊ ၂။ သဒ္ဒါရုံ၌မှတ်သားခြင်း၊
၃။ ဂန္ဓာရုံ၌မှတ်သားခြင်း၊ ၄။ ရသာရုံ၌မှတ်သားခြင်း၊
၅။ ဖောဋ္ဌဗ္ဗာရုံ၌မှတ်သားခြင်း ၆။ ဓမ္မာရုံ၌မှတ်သားခြင်း၊
၇။ ရူပါရုံ၌စေ့ဆော်ခြင်း၊ ၈။ သဒ္ဒါရုံ၌စေ့ဆော်ခြင်း၊
၉။ ဂန္ဓာရုံ၌စေ့ဆော်ခြင်း၊ ၁၀။ ရသာရုံ၌စေ့ဆော်ခြင်း၊
၁၁။ ဖောဋ္ဌဗ္ဗာရုံ၌စေ့ဆော်ခြင်း၊ ၁၂။ ဓမ္မာရုံ၌စေ့ဆော်ခြင်း၊
၁၃။ ရူပါရုံ၌တပ်မက်ခြင်း၊ ၁၄။ ရူပါရုံ၌ ကြံစည်ခြင်း၊

လောက၌ ရူပဝိစာရ[၁]သည် ။ပ။ လောက၌ သဒ္ဒဝိစာရသည် ။ပ။ လောက၌ ဂန္ဓဝိစာရသည် ။ပ။ လောက၌ ရသဝိစာရသည် ။ပ။ လောက၌ ဖောဋ္ဌဗ္ဗဝိစာရသည် ။ပ။ လောက၌ ဓမ္မဝိစာရသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏။ ထိုတဏှာသည် ဖြစ်သည်ရှိသော် ဤဓမ္မဝိစာရ၌ ဖြစ်၏၊ တည်သည်ရှိသော် ဤဓမ္မဝိစာရ၌ တည်၏။

ရဟန်းတို့- ဤတရားသဘောကို အရိယာတို့ သိအပ်သော ဒုက္ခသမုဒယ အရိယသစ္စာ[၂]ဟူ၍ ဆိုအပ်၏။

## ဒုက္ခနိရောဓ အရိယသစ္စာ

ရဟန်းတို့- ဒုက္ခနိရောဓ အရိယသစ္စာသည် အဘယ်နည်း။ ထိုတဏှာ၏သာလျှင် အကြွင်းမရှိ ကင်းချုပ်ရာ၊ တဏှာကို စွန့်ရာ၊ တဏှာကို ဝေးစွာစွန့်ရာ၊ တဏှာမှ လွတ်မြောက်ရာ၊ တဏှာဖြင့် မကပ်ငြိရာ (နိဗ္ဗာန်)တည်း။

ရဟန်းတို့- ထိုတဏှာကို ပယ်အပ်သည်ရှိသော် အဘယ်၌ ပယ်အပ်သနည်း။ ချုပ်သည်ရှိသော် အဘယ်၌ ချုပ်သနည်း။ လောက၌ ချစ်ခင်ဖွယ် သာယာဖွယ် သဘောသည် (ရှိ၏)၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤချစ်ခင်ဖွယ် သာယာဖွယ် သဘော၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤချစ်ခင်ဖွယ် သာယာဖွယ် သဘော၌ ချုပ်၏။

လောက၌ ချစ်ခင်ဖွယ် သာယာဖွယ် သဘောသည် အဘယ်နည်း။ လောက၌ မျက်စိသည် ချစ်ခင်ဖွယ်သဘော သာယာဖွယ်သဘော ဖြစ်၏။ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤမျက်စိ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤမျက်စိ၌ ချုပ်၏၊ လောက၌ နားသည် ။ပ။ လောက၌ နှာခေါင်းသည် ။ပ။ လောက၌ လျှာသည် ။ပ။ လောက၌ ကိုယ်သည် ။ပ။ လောက၌ စိတ်သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤစိတ်၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤစိတ်၌ ချုပ်၏။

လောက၌ ရူပါရုံတို့သည်၊ လောက၌ သဒ္ဒါရုံတို့သည်၊ လောက၌ ဂန္ဓာရုံတို့သည်၊ လောက၌ ရသာရုံတို့သည်၊ လောက၌ ဖောဋ္ဌဗ္ဗာရုံတို့သည်၊ လောက၌ ဓမ္မာရုံတို့သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤတရားတို့၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤတရားတို့၌ ချုပ်၏။

---

၁။ ရူပါရုံ၌သုံးသပ်ဆင်ခြင်ခြင်း။ ၂။ဆင်းရဲဖြစ်ကြောင်း အရိယာတို့သိအပ်သော အမှန်တရား။

လောက၌ စက္ခုဝိညာဏ်သည်၊ လောက၌ သောတဝိညာဏ်သည်၊ လောက၌ ဃာနဝိညာဏ်သည်၊ လောက၌ ဇိဝှါဝိညာဏ်သည်၊ လောက၌ ကာယဝိညာဏ်သည်၊ လောက၌ မနောဝိညာဏ်သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤမနောဝိညာဏ်၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤမနောဝိညာဏ်၌ ချုပ်၏။

လောက၌ စက္ခုသမ္ဖဿသည်၊ လောက၌ သောတသမ္ဖဿသည်၊ လောက၌ ဃာနသမ္ဖဿသည်၊ လောက၌ ဇိဝှါသမ္ဖဿသည်၊ လောက၌ ကာယသမ္ဖဿသည်၊ လောက၌ မနောသမ္ဖဿသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤမနောသမ္ဖဿ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤမနောသမ္ဖဿ၌ ချုပ်၏။

လောက၌ စက္ခုသမ္ဖဿဇာဝေဒနာသည်၊ လောက၌ သောတသမ္ဖဿဇာဝေဒနာသည်၊ လောက၌ ဃာနသမ္ဖဿဇာဝေဒနာသည်၊ လောက၌ ဇိဝှါသမ္ဖဿဇာဝေဒနာသည်၊ လောက၌ ကာယသမ္ဖဿဇာဝေဒနာသည်၊ လောက၌ မနောသမ္ဖဿဇာဝေဒနာသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘော ဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤမနောသမ္ဖဿဇာဝေဒနာ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤမနောသမ္ဖဿဇာဝေဒနာ၌ ချုပ်၏။

လောက၌ ရူပသညာသည်၊ လောက၌ သဒ္ဒသညာသည်၊ လောက၌ ဂန္ဓသညာသည်၊ လောက၌ ရသသညာသည်၊ လောက၌ ဖောဋ္ဌဗ္ဗသညာသည်၊ လောက၌ ဓမ္မသညာသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤဓမ္မသညာ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤဓမ္မသညာ၌ ချုပ်၏။

လောက၌ ရူပသဉ္စေတနာသည်၊ လောက၌ သဒ္ဒသဉ္စေတနာသည်၊ လောက၌ ဂန္ဓသဉ္စေတနာသည်၊ လောက၌ ရသသဉ္စေတနာသည် လောက၌ ဖောဋ္ဌဗ္ဗသဉ္စေတနာသည်၊ လောက၌ ဓမ္မသဉ္စေတနာသည် ချစ်ခင်ဖွယ် သာယာဖွယ်သဘော ဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤဓမ္မသဉ္စေတနာ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤဓမ္မသဉ္စေတနာ၌ ချုပ်၏။

လောက၌ ရူပတဏှာသည်၊ လောက၌ သဒ္ဒတဏှာသည်၊ လောက၌ ဂန္ဓတဏှာသည်၊ လောက၌ ရသတဏှာသည်၊ လောက၌ ဖောဋ္ဌဗ္ဗတဏှာသည်၊ လောက၌ ဓမ္မတဏှာသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤဓမ္မတဏှာ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤဓမ္မတဏှာ၌ ချုပ်၏။

လောက၌ ရူပဝိတက်သည်၊ လောက၌ သဒ္ဒဝိတက်သည်၊ လောက၌ ဂန္ဓဝိတက်သည်၊ လောက၌ ရသဝိတက်သည်၊ လောက၌ ဖောဋ္ဌဗ္ဗဝိတက်သည်၊ လောက၌ ဓမ္မဝိတက်သည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤဓမ္မဝိတက်၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤဓမ္မဝိတက်၌ ချုပ်၏။

လောက၌ ရူပဝိစာရသည်၊ လောက၌ သဒ္ဒဝိစာရသည်၊ လောက၌ ဂန္ဓဝိစာရသည်၊ လောက၌ ရသဝိစာရသည်၊ လောက၌ ဖောဋ္ဌဗ္ဗဝိစာရသည်၊ လောက၌ ဓမ္မဝိစာရသည် ချစ်ခင်ဖွယ် သာယာဖွယ် သဘောဖြစ်၏၊ ထိုတဏှာကို ပယ်အပ်သည်ရှိသော် ဤဓမ္မဝိစာရ၌ ပယ်အပ်၏၊ ချုပ်သည်ရှိသော် ဤဓမ္မဝိစာရ၌ ချုပ်၏။

ရဟန်းတို့- ဤတရားသဘောကို ဒုက္ခနိရောဓအရိယသစ္စာ[၁] ဟူ၍ ဆိုအပ်၏။

## ဒုက္ခနိရောဓဂါမိနီပဋိပဒါ အရိယသစ္စာ

ရဟန်းတို့- ဒုက္ခနိရောဓဂါမိနီပဋိပဒါ အရိယသစ္စာ[၂] သည် အဘယ်နည်း။ မြတ်သော အင်္ဂါရှစ်ပါးရှိသော ဤမဂ်အကျင့်လမ်းတည်း။ ဤမဂ်အကျင့်လမ်းတို့သည် အဘယ်တို့နည်း။ သမ္မာဒိဋ္ဌိ[၃] သမ္မာသင်္ကပ္ပ[၄] သမ္မာဝါစာ[၅] သမ္မာကမ္မန္တ[၆] သမ္မာအာဇီဝ[၇] သမ္မာဝါယာမ[၈] သမ္မာသတိ[၉] သမ္မာသမာဓိ[၁၀] တို့ပေတည်း။

ရဟန်းတို့ သမ္မာဒိဋ္ဌိသည် အဘယ်နည်း-

ဒုက္ခ၌ သိမြင်ခြင်း၊ ဒုက္ခ၏ ဖြစ်ကြောင်း၌ သိမြင်ခြင်း၊ ဒုက္ခ၏ ချုပ်ရာ (နိဗ္ဗာန်)၌ သိမြင်ခြင်း၊ ဒုက္ခ၏ ချုပ်ရာ နိဗ္ဗာန်သို့ ရောက်ကြောင်း အကျင့်၌ သိမြင်ခြင်းတည်း။ ရဟန်းတို့- ဤ(သိမြင်ခြင်း)ကို မှန်စွာသိမြင်ခြင်း "သမ္မာဒိဋ္ဌိ" ဟူ၍ ဆိုအပ်၏။

---

၁။ ဒုက္ခ၏ချုပ်ရာ အရိယာတို့ သိအပ်သော အမှန်တရား
၂။ ဆင်းရဲချုပ်ရာသို့ ရောက်ကြောင်းအကျင့်ဟူသော အရိယာတို့သိအပ်သောအမှန်တရား
၃။ မှန်စွာသိမြင်ခြင်း ၇။ မှန်စွာအသက်မွေးခြင်း
၄။ မှန်စွာကြံခြင်း ၈။ မှန်စွာအားထုတ်ခြင်း
၅။ မှန်စွာပြောဆိုခြင်း ၉။ မှန်စွာအောက်မေ့ခြင်း
၆။ မှန်စွာပြုလုပ်ခြင်း ၁၀။ မှန်စွာတည်ကြည်ခြင်း

ရဟန်းတို့- သမ္မာသင်္ကပ္ပသည် အဘယ်နည်း-

(ကာမအာရုံမှ) လွတ်ကင်းသော ကြံစည်ခြင်း၊ ဖျက်ဆီးခြင်းမှ လွတ်ကင်းသော ကြံစည်ခြင်း၊ ညှဉ်းဆဲခြင်းမှ လွတ်ကင်းသော ကြံစည်ခြင်းတည်း။ ရဟန်းတို့- ဤကြံခြင်းကို မှန်စွာကြံခြင်း "သမ္မာသင်္ကပ္ပ"ဟူ၍ ဆိုအပ်၏။

ရဟန်းတို့- သမ္မာဝါစာသည် အဘယ်နည်း-

မဟုတ်မမှန်ပြောခြင်းမှ ကြဉ်ရှောင်ခြင်း၊ ကုန်းစကားမှ ကြဉ်ရှောင်ခြင်း၊ ရုန့်ကြမ်းသော စကားမှ ကြဉ်ရှောင်ခြင်း၊ ပြိန်ဖျင်းသော စကားမှ ကြဉ်ရှောင်ခြင်းတည်း။ ရဟန်းတို့- ဤကြဉ်ရှောင်ခြင်းကို မှန်စွာပြောဆိုခြင်း "သမ္မာဝါစာ" ဟူ၍ ဆိုအပ်၏။

ရဟန်းတို့- သမ္မာကမ္မန္တသည် အဘယ်နည်း-

အသက်ကို သတ်ခြင်းမှ ကြဉ်ရှောင်ခြင်း၊ မပေးသည်ကို ယူခြင်းမှ ကြဉ်ရှောင်ခြင်း၊ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ကြဉ်ရှောင်ခြင်းတည်း။ ရဟန်းတို့- ဤကြဉ်ရှောင်ခြင်းကို မှန်စွာ ပြုလုပ်ခြင်း "သမ္မာကမ္မန္တ" ဟူ၍ ဆိုအပ်၏။

ရဟန်းတို့- သမ္မာအာဇီဝသည် အဘယ်နည်း-

ရဟန်းတို့- ဤသာသနာတော်၌ အရိယာဖြစ်သော တပည့်သည် မှားယွင်းစွာ အသက်မွေးခြင်းကို ပယ်စွန့်၍ မှန်စွာ အသက်မွေးခြင်းဖြင့် အသက်မွေး၏။ ရဟန်းတို့- ဤအသက်မွေးခြင်းကို မှန်စွာ အသက်မွေးခြင်း "သမ္မာအာဇီဝ" ဟူ၍ ဆိုအပ်၏။

ရဟန်းတို့- သမ္မာဝါယာမသည် အဘယ်နည်း-

ရဟန်းတို့- ဤသာသနာတော်၌ ရဟန်းသည် မဖြစ်သေးသော ယုတ်မာသော အကုသိုလ်တရားတို့ကို မဖြစ်ပေါ်စေရန် ဆန္ဒကို ဖြစ်စေ၏၊ အားထုတ်၏၊ လုံ့လပြု၏၊ စိတ်ကို ချီးမြှောက်၏၊ ဆောက်တည်၏၊ ဖြစ်ပြီးသော ယုတ်မာသော အကုသိုလ်တရားတို့ကို ပယ်ရန် ဆန္ဒကို ဖြစ်စေ၏၊ အားထုတ်၏၊ လုံ့လပြု၏၊ စိတ်ကို ချီးမြှောက်၏၊ ဆောက်တည်၏၊ မဖြစ်သေးသော ကုသိုလ်တရားတို့ကို ဖြစ်စေရန် ဆန္ဒကို ဖြစ်စေ၏၊ အားထုတ်၏၊ လုံ့လပြု၏၊ စိတ်ကို ချီးမြှောက်၏၊ ဆောက်တည်၏၊ ဖြစ်ပြီးသော ကုသိုလ်တရားတို့ကို တည်မြဲစေရန် မပျောက်ပျက်စေရန်

တိုးတက်ဖြစ်ပွားစေရန် ပြန့်ပြောစေရန် ပွားများမှု ပြည့်စုံစေရန် ဆန္ဒကို ဖြစ်စေ၏၊ အားထုတ်၏၊ လုံ့လပြု၏၊ စိတ်ကို ချီးမြှောက်၏၊ ဆောက်တည်၏၊ ရဟန်းတို့– ဤအားထုတ်ခြင်းကို မှန်စွာအားထုတ်ခြင်း "သမ္မာဝါယာမ" ဟူ၍ ဆိုအပ်၏။

ရဟန်းတို့– သမ္မာသတိသည် အဘယ်နည်း–

ရဟန်းတို့– ဤသာသနာတော်၌ ရဟန်းသည် ပြင်းစွာအားထုတ်သော လုံ့လ ရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ်ရှိသည်ဖြစ်၍ သတိရှိသည်ဖြစ်၍ လောက၌ အဘိဇ္ဈာ ဒေါမနဿကို ပယ်ဖျောက်၍ ရုပ်အပေါင်း၌ ရုပ်အပေါင်းကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ပြင်းစွာ အားထုတ်သော လုံ့လရှိသည် ဖြစ်၍ သမ္ပဇဉ်ဉာဏ်ရှိသည်ဖြစ်၍ သတိရှိသည်ဖြစ်၍ လောက၌ အဘိဇ္ဈာဒေါမနဿကို ပယ်ဖျောက်၍ ဝေဒနာတို့၌ ဝေဒနာတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ပြင်းစွာ အားထုတ်သော လုံ့လရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ်ရှိသည်ဖြစ်၍ သတိရှိသည်ဖြစ်၍ လောက၌ အဘိဇ္ဈာဒေါမနဿကို ပယ်ဖျောက်၍ စိတ်၌ စိတ်ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ပြင်းစွာ အားထုတ်သော လုံ့လရှိသည်ဖြစ်၍ သမ္ပဇဉ်ဉာဏ်ရှိသည်ဖြစ်၍ သတိရှိသည်ဖြစ်၍ လောက၌ အဘိဇ္ဈာဒေါမနဿကို ပယ်ဖျောက်၍ သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။ ရဟန်းတို့– ဤအောက်မေ့ခြင်း သတိကို မှန်စွာအောက်မေ့ခြင်း "သမ္မာသတိ"ဟူ၍ ဆိုအပ်၏။

ရဟန်းတို့– သမ္မာသမာဓိသည် အဘယ်နည်း–

ရဟန်းတို့– ဤသာသနာတော်၌ ရဟန်းသည် ကာမဂုဏ်တို့မှ ကင်း၍သာလျှင် ဖြစ်သော အကုသိုလ်တရားတို့မှ ကင်း၍သာလျှင်ဖြစ်သော ဝိတက်နှင့် တကွ ဖြစ်သော ဝိစာရနှင့် တကွဖြစ်သော နီဝရဏကင်းခြင်းကြောင့် ဖြစ်သည့် ပီတိသုခရှိသော ပဌမစျာန်သို့ ရောက်၍ နေ၏။

ဝိတက်ဝိစာရငြိမ်းခြင်းကြောင့် မိမိသန္တာန်၌ စိတ်ကို ကြည်လင်စေတတ်သော သမာဓိကို ပွားစေတတ်သော ဝိတက်လည်း မရှိသော ဝိစာရလည်း မရှိသော သမာဓိကြောင့်ဖြစ်သည့် ပီတိသုခရှိသော ဒုတိယစျာန်သို့ ရောက်၍ နေ၏။

ပီတိ၏လည်း ကင်းခြင်းကြောင့် အမျှရှုလျက် သတိရှိလျက် ဆင်ခြင်လျက် နေ၏၊ သုခကိုလည်း ကိုယ်ဖြင့် ခံစား၏၊ အကြင် (တတိယစျာန်) ကြောင့် ထိုသူကို "အမျှရှုသူ သတိရှိသူ ချမ်းသာစွာ နေလေ့ရှိသူ"ဟု အရိယာ(ပုဂ္ဂိုလ်) တို့သည် ချီးမွမ်းပြောဆိုကုန်၏။ ထိုတတိယစျာန်သို့ ရောက်၍ နေ၏။

ချမ်းသာဆင်းရဲကို ပယ်ခြင်းကြောင့်လည်းကောင်း၊ ရှေးဦးကပင် ဝမ်းသာခြင်း၊ နှလုံးမသာခြင်းတို့၏ ချုပ်ခြင်းကြောင့်လည်းကောင်း ဆင်းရဲချမ်းသာကင်းသော (ဥပေက္ခာ) ကြောင့် သတိ၏ စင်ကြယ်ခြင်းရှိသော စတုတ္ထစျာန်သို့ ရောက်၍ နေ၏၊ ရဟန်းတို့- ဤသမာဓိကို မှန်စွာတည်ကြည်ခြင်း "သမ္မာသမာဓိ" ဟူ၍ ဆိုအပ်၏၊ ရဟန်းတို့- ဤတရားသဘောကို ဒုက္ခနိရောဓဂါမိနီပဋိပဒါ အရိယသစ္စာဟူ၍ ဆိုအပ်၏။

ဤသို့ မိမိ၏သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ သူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ မိမိသူတပါး၏ သဘောတရားတို့၌မူလည်း သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏၊ သဘောတရားတို့၌ ဖြစ်ကြောင်းတရားနှင့် ဖြစ်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ပျက်ကြောင်း တရားနှင့် ပျက်ခြင်းသဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏၊ သဘောတရားတို့၌ ဖြစ်ကြောင်း ပျက်ကြောင်းတရားနှင့် ဖြစ်ခြင်း ပျက်ခြင်း သဘောကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍မူလည်း နေ၏။ ထို့ပြင် "သဘောတရားတို့သည် သာလျှင် ရှိကုန်၏"ဟု ထိုရဟန်းအား သတိသည် ရှေးရှုထင်၏၊ (ထိုသတိသည်) အဆင့်ဆင့် အသိဉာဏ်တိုးပွားခြင်းငှာသာ ဖြစ်၏၊ အဆင့်ဆင့် သတိတဖန် တိုးပွားခြင်းငှာသာ ဖြစ်၏၊ (ထိုရဟန်းသည် တဏှာဒိဋ္ဌိတို့ဖြင့်) မမှီမတွယ်မူ၍လည်း နေ၏၊ လောက၌ တစုံတရာကိုမျှလည်း (ငါ, ငါ၏ဥစ္စာဟု) စွဲလည်း မစွဲလမ်း။ ရဟန်းတို့- ဤသို့လည်း ရဟန်းသည် အရိယသစ္စာလေးပါး သဘောတရားတို့၌ သဘောတရားတို့ကို အကြိမ်ကြိမ် ရှုလေ့ရှိသည်ဖြစ်၍ နေ၏။

သစ္စာအပိုင်းပြီး၏။
သဘောတရားကို ဆင်ခြင်ခြင်း ပြီး၏။

---

## သတိပဋ္ဌာန်ပွားများရကျိုး

ရဟန်းတို့- မည်သည့်ပုဂ္ဂိုလ်မဆို ဤသတိပဋ္ဌာန်လေးပါးတို့ကို ခုနစ်နှစ်တို့ ပတ်လုံး ဤဟောပြသောနည်းဖြင့် ပွားများအံ့၊ ထိုပွားသော ပုဂ္ဂိုလ်အား မျက်မှောက်ဘဝ၌ပင် အရဟတ္တဖိုလ်ဖြစ်စေ၊ ဥပါဒါန် အကြွင်းရှိသေးလျှင် အနာဂါမိဖိုလ်ဖြစ်စေ ဤဖိုလ်နှစ်ပါးတို့တွင် တပါးပါးသော ဖိုလ်ကို (အမှန်ရပေမည်)ဟု အလိုရှိအပ်၏။

ရဟန်းတို့- ခုနစ်နှစ်ကို ထားဘိဦး။ ရဟန်းတို့- မည်သည့် ပုဂ္ဂိုလ်မဆို ဤသတိပဋ္ဌာန်လေးပါးတို့ကို ခြောက်နှစ်တို့ပတ်လုံး ဤဟောပြသောနည်းဖြင့် ပွားများအံ့ ။ပ။ ငါးနှစ်တို့ပတ်လုံး ။ပ။ လေးနှစ်တို့ပတ်လုံး ။ပ။ သုံးနှစ်တို့ပတ်လုံး ။ပ။ နှစ်နှစ်တို့ပတ်လုံး ။ပ။ တစ်နှစ်တို့ပတ်လုံး။ပ။

ရဟန်းတို့- တစ်နှစ်ကို ထားဘိဦး။ ရဟန်းတို့- မည်သည့်ပုဂ္ဂိုလ်မဆို ဤသတိပဋ္ဌာန်လေးပါးတို့ကို ခုနစ်လတို့ပတ်လုံး ဤဟောပြသောနည်းဖြင့် ပွားများအံ့၊ ထိုပွားသောပုဂ္ဂိုလ်အား မျက်မှောက်ဘဝ၌ပင် အရဟတ္တဖိုလ်ဖြစ်စေ၊ ဥပါဒါန်အကြွင်းရှိသေးလျှင် အနာဂါမိဖိုလ်ဖြစ်စေ ဤဖိုလ်နှစ်ပါးတို့တွင် တစ်ပါးပါးသောဖိုလ်ကို (အမှန်ရပေမည်)ဟု အလိုရှိအပ်၏။

ရဟန်းတို့- ခုနစ်လကို ထားဘိဦး။ ရဟန်းတို့- မည်သည့် ပုဂ္ဂိုလ်မဆို ဤသတိပဋ္ဌာန်လေးပါးတို့ကို ခြောက်လတို့ပတ်လုံး ဤဟောပြသော နည်းဖြင့် ပွားများအံ့ ။ပ။ ငါးလတို့ပတ်လုံး။ လေးလတို့ပတ်လုံး။ သုံးလတို့ပတ်လုံး။ နှစ်လတို့ပတ်လုံး။ တစ်လတို့ပတ်လုံး။ လခွဲတို့ပတ်လုံး။ပ။

ရဟန်းတို့- လခွဲကို ထားဘိဦး။ ရဟန်းတို့- မည်သည့်ပုဂ္ဂိုလ်မဆို ဤသတိပဋ္ဌာန် လေးပါးတို့ကို ခုနစ်ရက်ပတ်လုံး ဤဟောပြသောနည်းဖြင့် ပွားများအံ့၊ ထိုပွားသော ပုဂ္ဂိုလ်အား မျက်မှောက်ဘဝ၌ပင် အရဟတ္တဖိုလ်ဖြစ်စေ၊ ဥပါဒါန်အကြွင်းရှိသေးလျှင် အနာဂါမိဖိုလ်ဖြစ်စေ ဤဖိုလ်နှစ်ပါးတို့တွင် တစ်ပါးပါးသောဖိုလ်ကို (အမှန်ရပေမည်)ဟု အလိုရှိအပ်၏။

"ရဟန်းတို့- ဤခရီးလမ်းသည် သတ္တဝါတို့၏ စိတ်စင်ကြယ်ရန် စိုးရိမ်ပူပန်ခြင်း၊ ငိုကြွေးခြင်းကို့ကို လွတ်မြောက်ရန် ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်းတို့ ချုပ်ငြိမ်းရန် အရိယာမဂ်ကိုရရန် နိဗ္ဗာန်ကို မျက်မှောက်ပြုရန် တစ်ကြောင်းတည်းသော ခရီးလမ်းဖြစ်၏၊ ယင်းသည့်ခရီးလမ်းအား ဤသတိပဋ္ဌာန် လေးပါးတို့ပင်တည်း"ဟု ဤသို့ အကြင်သတိပဋ္ဌာန်တရား ကြေညာချက်ကို ငါဆိုခဲ့၏။ ဤကြေညာချက်ကို ဤ(အကျိုးနှစ်ပါးတို့တွင် တစ်ပါးပါး အမှန်ရရှိနိုင်ခြင်း)ကို ရည်ရွယ်၍ ဆို၏ဟု မြတ်စွာဘုရားသည် ဤတရားတော်ကို ဟောတော်မူ၏။ ထိုရဟန်းတို့သည် မြတ်စွာဘုရား ဟောတော်မူသော တရားတော်ကို နှစ်လိုကုန်သည်ဖြစ်၍ ဝမ်းမြောက်စွာ ခံယူကြလေကုန်သတည်း။

မဟာသတိပဋ္ဌာနသုတ်မြန်မာပြန်ပြီး၏။

၆ ကော ၆၉ - ၄၈

မထေရ်မြတ်သည် စိတ္တသူကြွယ်၏ ဉာဏ်ပညာ အလယ်အလတ် ရှိသည်ကို သိ၍ အာယတန ၁၂-ပါးကို အကျယ်ဟော၏၊ ထို့ပြင် စိတ္တသူကြွယ်သည် ရှေးရှေး ဘဝများစွာက သင်္ခါရတရားတို့ကို လက္ခဏာဉာဏ်ဖြင့် ကြိတ်ချေခဲ့ဖူးသူ ဖြစ်သောကြောင့် ဝိပဿနာတရား အားထုတ်၍ မကြာမီ အနာဂါမိဖိုလ် အဆင့်သို့ ရောက်လေ၏။

မြတ်ဗုဒ္ဓထံ ဖူးမြော်သွားစဉ် မိမိနှင့်အတူ လိုက်ပါလာသော ရဟန်း ရှင် လူ သုံးထောင်တို့အတွက် အစားအသောက်စသည်တို့ကို မပင်ပန်းစေရန် တာဝန်ယူ၍ ခေါ်ခဲ့၏။ ယူဇနာသုံးဆယ်ခရီးဝယ် တစ်ယူဇနာ တစ်ယူဇနာ၌ နတ်တို့၏ စောင့်ရှောက်ကူညီမှုဖြင့် အစားအသောက် အနေအထိုင်တို့ ပြည့်စုံသည်ချည်းဖြစ်၏။ မြတ်ဗုဒ္ဓကျောင်းတော်သို့ ရောက်သောအခါတွင်လည်း ဘုရားအမှူးရှိသော ရဟန်း သံဃာတို့အားလည်း အလှူကြီးပေးလှူလေသည်။။ လူအပေါင်းတို့သည် စိတ္တသူကြွယ်ကို အထူးအဆန်းသဖွယ် ကြည့်ရှုကြလေ၏။ စိတ္တသူကြွယ်က မြတ်ဗုဒ္ဓကို လျှောက်သည်မှာ တပည့်တော်တို့ ခရီးထွက်လာသည်မှာ တစ်လကြာခဲ့ပါသည်။ ဤဇေတဝန်ကျောင်းမှာလည်း တစ်လကြာခဲ့ပါပြီဘုရား၊ တပည့်တော် ယူဆောင်လာခဲ့သော ပစ္စည်းပစ္စယများ လှူဒါန်းရန် အခွင့်မရခဲ့ပါ၊ နတ်လူတို့၏ လက်ဆောင်တို့ဖြင့်သာ ပေးလှူခဲ့ရပါသည်၊ တပည့်တော်၏ လှည်းအစီး ငါးရာတိုက် ပစ္စည်းတို့ကို သံဃာအား လှူဒါန်းပါ၏၊ သိုမှီးရာ နေရာကို ညွှန်ကြားစေတော်မူပါဘုရားဟု လျှောက်ထား၍ လှူ၏။

မြတ်ဗုဒ္ဓက အရှင်အာနန္ဒာကို-

ချစ်သား အာနန္ဒာ- ဤစိတ္တသူကြွယ်ကား လောကီ လောကုတ် သဒ္ဓါတရား နှစ်ပါးတို့ဖြင့် မပျက်မစီး ယုံကြည်သူဖြစ်သည့်အပြင် ရတနာသုံးပါးကိုလည်း လောကီလောကုတ် သဒ္ဓါတရားဖြင့် အလွန့်အလွန် ကြည်ညိုသူ ဖြစ်သည်။ ဤသို့သော သဘောရှိသူအဖို့ ရောက်လေရာ ဌာနတိုင်းမှာပင် လာဘ်ပူဇော် သက္ကာရကား ဖြစ်ပွားမြဲဓမ္မတာ ဖြစ်ချေသည်ဟု ဟောတော်မူ၏။

မြတ်ဗုဒ္ဓသည် တရားဟော ကောင်းကြသည့် ငါဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် စိတ္တသူကြွယ်သည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြောက်တော်မူပါသည်။ စိတ္တသူကြွယ်သည် အနာဂါမ် အရိယာဖြစ်ပြီး ဒါနာဘိရတ= အလှူအတန်း၌ မွေ့လျော်သူ၊ ဓမ္မာဘိရတ=တရားတော်၌ မွေ့လျော်သူ ပုဂ္ဂိုလ်ဖြစ်ပါသည်။

## ၄။ ဟတ္ထကာဠဝက သိတင်းသည်

ဟတ္ထကာဠဝကသည် အာဠဝီတိုင်း အာဠဝီပြည် အာဠဝကမင်း၏ သားဖြစ်သည်၊ ဟတ္ထကာဠဝက၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏-

ဟတ္ထကာဠဝကသည် ပိဋကသုံးပုံကို ကျွမ်းကျင်စွာ တတ်မြောက်၏။ အနာဂါမ် ပုဂ္ဂိုလ်ဖြစ်၏၊ ဥပါသကာသိတင်းသည် ငါးရာ အခြံအရံရှိ၏၊ မြတ်ဗုဒ္ဓကပင် သူ၏ အလွန်ယဉ်ကျေးသိမ်မွေ့လှစွာသော ပရိသတ်ကို မြင်တော်မူ၍ သင်၏ ပရိသတ်ကို အဘယ်သို့ ချီးမြှင့်သနည်းဟု မေးတော်မူ၏။

ဟတ္ထကာဠဝက က မြတ်စွာဘုရား.... တပည့်တော်သည်-

(၁) စွန့်ကြဲပေးကမ်းမှု နှစ်သက်အားရမည့်သူအား ဒါနဖြင့် ချီးမြှင့်ပါသည်။

(၂) ချစ်စဖွယ် စကားပြောမှု အားရ နှစ်သက်မည့် သူအား ပိယဝါစာဖြင့် ချီးမြှင့်ပါသည်။

(၃) ဖြစ်ပေါ်လာသော ကိစ္စကြီးငယ်ကို ပြီးစီးအောင် ဆောင်ရွက်ပေးမှု အားရ နှစ်သက်မည့်သူအား ဖြစ်ပေါ်လာသော ကိစ္စကြီးငယ်ကို ပြီးစီးအောင် ဆောင်ရွက်ပေးခြင်း အတ္ထစရိယာဖြင့် ချီးမြှင့်ပါသည်။

(၄) ကိုယ်တူထားမှု အားရ နှစ်သက်မည့် သူအား ကိုယ်တူထားခြင်း သမာနတ္တတာဖြင့် ချီးမြှင့်ပါသည်ဟု လျှောက်ထားလေသည်။

မြတ်ဗုဒ္ဓသည် ဟတ္ထကာဠဝက သိတင်းသည်ကို သင်္ဂဟဝတ္ထု (၄) ပါးဖြင့် မိမိ၏ပရိသတ်ကို ချီးမြှောက်ကြသည့် ငါဘုရား၏ တပည့်သာဝက ဥပါသကာ တို့တွင် ဟတ္ထကာဠဝကသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူပါသည်။

## ၅။ မဟာနာမ သာကီဝင်မင်းသား

မဟာနာမသည် ကပိလဝတ်ပြည်သား သာကီဝင် မင်းမျိုးမှ ပေါက်ဖွားသူ ဖြစ်၏၊ အရှင်အနုရုဒ္ဓါ၏ နောင်တော်တည်း၊ မဟာနာမ သာကီဝင်မင်းသား၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

မြတ်ဗုဒ္ဓနှင့် ရဟန်းသံဃာအပေါင်းတို့ ဝေရဥ္စာမြို့တွင် ဆွမ်းပန်းကိစ္စ အလွန် ဆင်းရဲပင်ပန်းသည်ဟု ကြားသိရ၍ လွန်စွာ စိတ်နှလုံး မချမ်းမြေ့ပေ၊ ယခုအခါ ကပိလဝတ်ပြည်သို့ ကြွလာပြီဖြစ်၍ မဟာနာမသည် မြတ်ဗုဒ္ဓအား လျှောက်

ထားပြီး ဘုရားအမှူးရှိသော ရဟန်း သံဃာတော် အပေါင်းတို့အား အလွန် မွန်မြတ်လှစွာသော ဘောဇဉ်ငါးပါး၊ စတုမဓုဆေးတို့ဖြင့် နေ့စဉ် ရက်ဆက် လုပ်ကျွေးပြုစုကာ ရဟန်းသံဃာတော်တို့၏ ကိုယ်၌ ဩဇာ အဆိ အစေးကို ထည့်သွင်းပေးလေသည်၊ ထိုသို့ ပြုစုလုပ်ကျွေးသည်မှာ လေးလ လေးလ သုံးကြိမ် ပြည့်မြောက်ခဲ့လေပြီ၊ နောက်ထပ် တဖန် ထပ်မံ လျှောက်ကြားသော် လည်း မြတ်ဗုဒ္ဓသည် ခွင့်ပြုတော်မမူပါ။ ထိုအချိန်အခါမှ စ၍ မဟာနာမ သာကီဝင်မင်းသားသည် မိမိထံသို့ ကြွရောက်လာသော ရဟန်းသံဃာတော် တို့အား အလွန် မွန်မြတ်သော ဘောဇဉ်ငါးပါးနှင့် စတုမဓုဆေးတို့ဖြင့် ပြုစု လုပ်ကျွေးသူဟု ဇမ္ဗူဒိပ်တစ်ကျွန်းလုံးတွင် ကျော်စောထင်ရှားလေသည်။

ထို့ကြောင့် မြတ်စွာဘုရားသည် မွန်မြတ်သော ဘောဇဉ်အရသာ ဆေး ပစ္စည်းတို့ကို လှူဒါန်းကြသည့် ငါဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် မဟာနာမသာကီဝင် မင်းသားသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူပါသည်။

မဟာနာမသည် မြတ်ဗုဒ္ဓကို ပထမအကြိမ် ဖူးမြော်ရစဉ်ကပင် သောတာပတ္တိ ဖိုလ်၌ တည်၍ သောတာပန် အရိယာ ဖြစ်ပါသည်။

## ၆။ ဥဂ္ဂသေဌေး

ဥဂ္ဂသေဌေးသည် ဝေသာလီပြည် သေဌေးမျိုး၌ ဖြစ်၏၊ သေဌေး၏ ကိုယ်ခန္ဓာ ဖွဲ့စည်းတည်ဆောက်ပုံနှင့် ဂုဏ်ကျေးဇူးတို့သည် ကျော်ကြား ထင်ရှား၏၊ ဥဂ္ဂသေဌေး၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏–

ဥဂ္ဂသေဌေးသည် မြတ်ဗုဒ္ဓကို မိမိနေအိမ်သို့ ကြွတော်မူရာ၏ဟု စိတ်အကြံ ဖြစ်သည့်အတိုင်း ဗုဒ္ဓကြွတော်မူ၏၊ ဗုဒ္ဓနှင့် ရဟန်းသံဃာတော်တို့ကို အထူးထူး များမြတ်သော အရသာတို့ဖြင့် ပြုစုလုပ်ကျွေး၏၊ ထို့နောက် မြတ်ဗုဒ္ဓအား–

"မနာပဒါယီ လဘတေ မနာပံ=နှစ်ခြိုက်ဖွယ် ဝတ္ထုကို ပေးလှူသူသည် နှစ်ခြိုက်ဖွယ် အကျိုးကို ရ၏"ဟု ဗုဒ္ဓ၏ စကားတော်ကို နာယူခဲ့ပါ၏၊ မြတ်စွာ ဘုရားအား အကျွန်ုပ်၏ အင်ကြင်းပွင့် အဆင်းရှိသော ခဲဖွယ်ကို အလှူခံတော် မူစေချင်၏ဟု လျှောက်၏၊ ထို့အတူ အကျွန်ုပ်၏ ဆီးသီးဖြင့် စီမံထားအပ်သော ကန်ဇွန်းရွက် ဆီပြန်ကြော်၊ သလေးဆွမ်း၊ ကာသိတိုင်းဖြစ် အဝတ်၊ ပလ္လင်၊ မွေးရှည်ကော်ဇောကြီး၊ ပန်းပြောက်ခြယ် သားမွေးအခင်း၊ ဝံပိုင်ရေအခင်း၊

နိသော မျက်နှာကြက်နှင့် အုံးနီနှစ်ဘက်ရှိသည့် နေရာ၊ အဖိုးတစ်သိန်းထိုက်သော စန္ဒကူးနှစ် ထိုင်ခုံတို့ကို အလှူခံတော်မူစေချင်၏ဟု လျှောက်၏။ မြတ်စွာဘုရား သည် ကရုဏာ ရှေးရှု အလှူခံတော်မူ၏။ ထိုအချိန်မှစ၍ မိမိပိုင် နှစ်ခြိုက်ဖွယ်ရာ အလှူဝတ်များကို မြတ်စွာဘုရား အမှူးရှိသော ရဟန်းသံဃာအား မပြတ် လှူဒါန်း လေ၏။

မြတ်ဗုဒ္ဓသည် နှစ်သက်ဖွယ်သော ဝတ္ထုကို လှူလေ့ရှိကြသည့် ငါ ဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် ဥဂ္ဂသေဌေးသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှောက်တော်မူပါသည်။

ဥဂ္ဂသေဌေးသည် မြတ်စွာဘုရားကို ပထမအကြိမ် ဖူးတွေ့ရသောအခါကပင် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာဖြစ်ပြီး နောက်အဖို့ဝယ် အောက်မဂ် ၃-ပါး၊ အောက်ဖိုလ် ၃-ပါးတို့ကို မျက်မှောက် ပြုရလေသည်။ ထို့နောင် ကွယ်လွန်သောအခါတွင် သုဒ္ဓါဝါသဗြဟ္မာ့ဘုံ၌ ဗြဟ္မာဖြစ်လေ၏။

## ဥဂ္ဂသေဌေး၏ အံ့ဖွယ်ရှစ်ပါး

(၁) မြတ်စွာဘုရားကို ဖူးတွေ့ရသည်နှင့် တပြိုင်နက်ပင် ဘုရားရှင်၏ အပေါ်၌ အကြွင်းမဲ့ ယုံကြည် ကြည်ညိုခြင်း၊

(၂) မြတ်စွာဘုရားကို ပထမအကြိမ် ဖူးတွေ့ တရားနာရ၍ အနာဂါမ် အရိယာအဖြစ်ရရှိကာ လောကုတ္တရာ သရဏဂုံနှင့်တကွ ဗြဟ္မစရိယ ပဉ္စမကသီလကို ခံယူဆောက်တည်ကျင့်သုံးခြင်း၊

(၃) မယားကြီးကို ယောကျ်ားတစ်ပါးအား ပေးစား စွန့်လှူ လိုက်ရ သော်လည်း စိတ်တမျိုး ပြောင်းလဲဖောက်ပြန်မှု မရှိခြင်း၊

(၄) မိမိ၏ စည်းစိမ်ဥစ္စာ ရှိသမျှသည် သီလဝန္တပုဂ္ဂိုလ်မြတ်တို့နှင့် မခွဲခြားဘဲ ဆက်ဆံကုန်၏၊ သက်ဆိုင်ကုန်၏ ဟူ၍ စိတ်ထားရှိခြင်း၊

(၅) ရဟန်းသူမြတ်တို့ကို ရိုသေစွာ ဆည်းကပ်ပြုစုခြင်း၊

(၆) ရဟန်းသူမြတ်က တရားဟောလျှင် ရိုသေစွာ နာယူခြင်း၊ ရဟန်း သူမြတ်က တရားမဟောလျှင် မိမိက တရားဟောခြင်း၊

(၇) ငါ့ထံသို့ နတ်တို့ ချဉ်းကပ်ကုန်၏၊ ငါသည် နတ်တို့နှင့် အတူတကွ စကားပြောရ၏ဟု စိတ်မတက်ကြွခြင်း၊

(၈) အနာဂါမ် အရိယာဖြစ်ခြင်း။

## ၄။ ဥဂ္ဂတသေဋ္ဌေး

ဥဂ္ဂတသေဋ္ဌေးသည် ဝဇ္ဇီတိုင်း ဟတ္ထိဂါမအရပ် (ဆင်ရွာ)သား ဖြစ်၏။ ဥဂ္ဂတသေဋ္ဌေး၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏–

ဗုဒ္ဓမြတ်စွာသည် နာဂဝနဥယျာဉ်၌ သီတင်းသုံးနေစဉ် ဥဂ္ဂတသည် ခုနစ်ရက်တိုင်တိုင် သေရည်မူးယစ်လျက် ကချေသည်တို့ဖြင့် ခြံရံကာ ဥယျာဉ်သို့ သွား၍ မြူးထူး ပျော်ပါးကြသော် ဥယျာဉ်တစ်နေရာတွင် မြတ်ဗုဒ္ဓကို ဖူးတွေ့ရ၏၊ ထိုအခါ အလွန်ရှက်ကြောက်သွား၏၊ မြတ်ဗုဒ္ဓကို အနီးကပ် ဖူးရသောအခါ အရက်မူးပြေသွား၏၊ မြတ်ဗုဒ္ဓက ဟရားဟောတော်မူရာ ဓမ္မဒေသနာအဆုံး၌ ဥဂ္ဂတသေဋ္ဌေးသည် အနာဂါမ် အရိယာ ဖြစ်လေသည်။

ဥဂ္ဂတသေဋ္ဌေးသည် ထိုအချိန်မှစ၍ ရဟန်း သံဃာတော်တို့အား အလှူဒါနကိုသာ ပေးလှူ၍ နေ၏၊ နတ်တို့သည် လာရောက်၍ ဘယ်လိုပင် သဒ္ဓါပျက်အောင် ပြောကြားသော်လည်း အလှူခံပုဂ္ဂိုလ်နှင့် ပတ်သက်၍ သဒ္ဓါတရား ပျက်စီးခြင်းမရှိဘဲ တူမျှသော သဒ္ဓါစိတ်ဖြင့် လှူဒါန်း၏၊ သီလဝန္တပုဂ္ဂိုလ်တို့၏ ဂုဏ်ကျေးဇူးကိုသာလျှင် ချီးမွမ်း၏။

မြတ်ဗုဒ္ဓသည် သံဃာအား စိတ်တူမျှစွာ ထား၍ ပြုစု လုပ်ကျွေးကြသော ဒါဘုရား၏ တပည့် သာဝက ဥပါသကာတို့တွင် ဥဂ္ဂတသေဋ္ဌေးသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေသည်။

## ဥဂ္ဂတသေဋ္ဌေး၏ အံ့မွယ်ဒုစ်ပါး

(၁) မြတ်စွာဘုရားကို ဖူးတွေ့ရသည်နှင့် တပြိုင်နက်ပင် ဘုရားရှင်၏ အပေါ်၌ အကြွင်းမဲ့ ယုံကြည် ကြည်ညို၍ သေယစ်မူးမှု ချုပ်ငြိမ်းခြင်း၊

(၂) မြတ်စွာဘုရားရှင်ကို ပထမအကြိမ် ဖူးတွေ့ပြီး တရားနာရ၍ အနာဂါမ် အရိယာအဖြစ် ရရှိကာ လောကုတ္တရာ သရဏဂုံနှင့်တကွ ဗြဟ္မစရိယပဉ္စမကသီလကို ခံယူ ဆောက်တည် ကျင့်သုံးခြင်း၊

(၃) မယားကို ယောက်ျားတပါးအား ပေးစား စွန့်လှူ လိုက်ရသော်လည်း စိတ်တစ်မျိုး ပြောင်းလဲ ဖောက်ပြန်မှု မရှိခြင်း၊

(၄) မိမိ၏ ဝည်းစိမ်စွာ ရှိသမျှတို့သည် သံလဝဠ္ဌပုဂ္ဂိုလ်မြတ်တို့နှင့် မခွဲခြားဘဲ ဆက်ဆံကုန်၏၊ သက်ဆိုင်ကုန်၏ဟူ၍ စိတ်ထားခြင်း၊

(၅) ရဟန်းသူမြတ်တို့ကို ရှိသေစွာ သည်းကပ်ပြုစုခြင်း၊ ရဟန်းသူမြတ်က တရားဟောလျှင် ရိုသေစွာ နာယူခြင်း၊ ရဟန်းသူမြတ်က တရား မဟောလျှင် မိမိက တရားဟောခြင်း၊

(၆) သီလဝန္တပုဂ္ဂိုလ် ဒုဿီလပုဂ္ဂိုလ် နှစ်မျိုးလုံး၌ပင် ညီမျှသော စိတ်ရှိလျက် ပေးကမ်းပြုစုခြင်း၊

(၇) ငါ့ထံသို့ နတ်တို့ ချဉ်းကပ်ကုန်၏၊ ငါသည် နတ်တို့နှင့် အတူတကွ စကားပြောရ၏ဟု စိတ်မတက်ကြွခြင်း၊

(၈) နောက်ထပ်တဖန် ဤကာမဘုံသို့ ပြန်လာရောက်ကြောင်း သံယောဇဉ် အာရုံ မရှိခြင်း။

## ၈။ သူရမ္ဗဋ္ဌသေဌေး

သူရမ္ဗဋ္ဌသေဌေးသည် သာဝတ္ထိပြည် သေဌေးမျိုး၌ ဖြစ်၏၊ သူရမ္ဗဋ္ဌသေဌေး၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏-

မြတ်ဗုဒ္ဓသည် သူရမ္ဗဋ္ဌသေဌေးအား စရိုက်နှင့် လျော်သော ဝကားကို ဟောကြားတော်မူသော အဆုံး၌ သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန် အရိယာဖြစ်၏။ မာရ်နတ်က ဗုဒ္ဓအယောင်ဆောင် အကဲစမ်းသော်လည်း သူရမ္ဗဋ္ဌသည် ဗုဒ္ဓအပေါ်၌ မတုန်မလှုပ်သော သဒ္ဓါတရား ရှိ၏၊ ထိုအကြောင်းကို မြတ်ဗုဒ္ဓအား ကြားလျှောက်၏၊ ထို့ကြောင့် မြတ်ဗုဒ္ဓက သာသနာ၌ သက်ဝင်၍ မတုန်မလှုပ် ကြည်ညိုကြကုန်သော ငါဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် သူရမ္ဗဋ္ဌသေဌေးသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့် တော်မူပါသည်။

## ၉။ ဇီဝကဆေးဆရာ

ဆရာဇီဝကသည် ရာဇဂြိုဟ်ပြည်၌ သာလဝတီပြည့်တန်ဆာမ၏ သားဖြစ်၏။ အဘယမင်း၏ မွေးစားသားတည်း၊ ဆရာဇီဝက၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏-

ဆရာဇီဝကသည် ဆေးပညာတွင် ဟစ်ဖက်ကမ်းခပ် တတ်မြောက်၏၊ ဗိမ္ဗိသာရမင်းကြီး၏ သမားတော်ကြီး ဖြစ်၏၊ မြတ်ဗုဒ္ဓ၏ ကိုယ်တော်၌ သိမ်မွေ့ သော ဝမ်းလားဆေးကို ပေး၍ မြတ်ဗုဒ္ဓအား မိမိပိုင် သရက်ဥယျာဉ်

ကျောင်းတိုက်၌ သီတင်းသုံး နေတော်မူစေ၏၊ ဆရာဇီဝကသည် ဆေးကုသပေးသည့်အပြင် "မြတ်စွာဘုရား- ဤ သိဝိတိုင်းဖြစ် ပုဆိုးအစုံကို အရှင်ဘုရားတို့သာလျှင် သုံးဆောင်တော်မူကြပါကုန်ဘုရား" ဟု လျှောက်ထား၍ အရံ ဖြစ်သော ပုဆိုးအဝတ်အထည် တစ်ထောင်ကို ရဟန်းသံဃာအား လှူဒါန်းလေ၏၊ မြတ်ဗုဒ္ဓသည် ပုဂ္ဂိုလ်ကို ကြည်ညိုသည့် ငါဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် အဘယမင်း၏ သား ဇီဝကဆေးဆရာသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## ၁၀။ နကုလပိတုသေဋ္ဌေး

နကုလပိတုသည် ဘဂ္ဂတိုင်း သုသုမာရဂိရမြို့တွင် သေဋ္ဌေးမျိုး၌ ဖြစ်၏။ သားကလေး နကုလအမည်ကို စွဲ၍ နကုလပိတု, နကုလမာတုဟု အမည်အသီးသီး ရှိကြ၏။ နကုလပိတု၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏-

နကုလပိတုသေဋ္ဌေးသည် ဗုဒ္ဓမြတ်စွာ၏ ဘဝပေါင်းငါးရာ ဖခမည်းတော်၊ ဘဝပေါင်းငါးရာ ဘထွေး(အဖေ၏ညီ)၊ ဘဝပေါင်းငါးရာ ဘကြီး (အဖေ၏အစ်ကို) ဘဝပေါင်းငါးရာ ဦးကြီး (အမေ့အစ်ကို) ဖြစ်ခဲ့လေသည်။ ဘေသကဠာ တောအုပ်၌ သီတင်းသုံးသော မြတ်ဗုဒ္ဓထံသို့ ဖူးမြော်ရောက်ရှိသော် ဘဝသံသရာ ရှည်စွာသော ကာလပတ်လုံး အချစ်မေတ္တာစိတ် ကိန်းဝပ်ခဲ့လေသောကြောင့် မြတ်ဗုဒ္ဓကို မြင်တွေ့ရလျှင် သားဟူသော အမှတ်ကို ပြု၍ အကျွမ်းတဝင် တရင်းတနှီး ပြောဆိုလေသည်၊ မြတ်ဗုဒ္ဓသည် နကုလသေဋ္ဌေးကြီးတို့၏ အာသယစိတ်ကို သိ၍ တရားဟောတော်မူသည်ရှိသော် ဇနီးမောင်နှံ နှစ်ဦးလုံးပင် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်ကြလေကုန်၏။

မြတ်ဗုဒ္ဓသည် နကုလပိတုသေဋ္ဌေးဇနီးမောင်နှံအား ပစ္စုပ္ပန် တမလွန် နှစ်တန်သော ဘဝ၌ အချင်းချင်း ရှုမြင်လိုကုန်သော်-

၁။ တူမျှသော သဒ္ဓါတရား ရှိကြကုန်ရာ၏၊

၂။ တူမျှသော သီလ ရှိကြကုန်ရာ၏၊

၃။ တူမျှသော စွန့်ကြဲမှု ရှိကြကုန်ရာ၏၊

၄။ တူမျှသော အသိဉာဏ် ရှိကြကုန်ရာ၏-

ယင်းသို့ သဒ္ဓါ, သီလ, စာဂ, ပညာ တူမျှစွာ ရှိကြလျှင် ယခုဘဝ နောင်တမလွန် ဘဝ၌ အချင်းချင်း ရှုမြင်ကြရကုန်၏ ဟု သံသာရေကမ်းတိုင်တရားကို မိန့်တော်မူ၏။

နကုလပိတုသေဋ္ဌေး ဇနီးမောင်နှံတို့သည် မြတ်ဗုဒ္ဓအား သားအရင်းပမာ အလွန်အကျွမ်းတဝင် ရင်းနှီးအားထား ခင်မင်သော စိတ်ရှိကြသောကြောင့် မိမိတို့စိတ်၌ ရှိသမျှကို မရှက် မကြောက် အလုံးစုံ ဖွင့်လျှောက်ထား၏၊ ထို့ကြောင့် မြတ်ဗုဒ္ဓက ငါဘုရားနှင့် အကျွမ်းတဝင် ခင်မင်ရင်းနှီးသော စကားကို ပြောကြားသည့် ငါဘုရား၏ တပည့်သာဝက ဥပါသကာတို့တွင် နကုလပိတုသေဋ္ဌေးသည် အသားဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## အမိတဘောဂသေဋ္ဌေးကြီးများ

### ၁။ ဇောတိကသေဋ္ဌေး

ဇောတိကသည် ရာဇဂြိုဟ် သေဋ္ဌေးမျိုး၌ ဖြစ်၏။ ဇောတိက၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

ဇောတိကကို မွေးသောနေ့, နာမည်မှည့်သောနေ့၌ လက်နက်အားလုံး အလျှံတပြောင်ပြောင် တောက်လောင်၏၊ လူအားလုံးတို့၏ ကိုယ်ဝယ် ဝတ်ဆင်ထားသည့် အဆင်တန်ဆာတို့သည် အလျှံလွှတ်ကြသည့်ပမာ အရောင်အဝါလွှတ်ကြကုန်၏၊ ရာဇဂြိုဟ်တစ်ပြည်လုံးသည် တခဲနက် အရောင်တောက်ပြောင်လျက် ရှိလေ၏။ ဇောတိကသေဋ္ဌေးနေအိမ်ကို သိကြားမင်း ဖန်ဆင်းပေး၏၊ ၁၆- မင်းပယ်ကျယ်ပြီး ညီညွတ်သော မြေအရပ်ဖြစ်၏၊ ရတနာ (၇)ပါးဖြင့် ပြီးသော ဘုံခုနစ်ဆင့်ရှိ ပြာသာဒ်ကြီးပေါ်လာ၏၊ ပြာသာဒ်ကို ဝန်းရံ၍ ရတနာခုနစ်ပါးနှင့် ပြီးသော တံတိုင်းကြီး ခုနစ်ထပ် ပေါ်လာ၏၊ တံတိုင်း (၇)ထပ်တို့၏ အပိုင်းအခြား အကြား အကြား၌ ပဒေသာပင်တို့ ပေါ်လာ၏၊ ဘုံ (၇)ဆင့်ရှိသည့် ပြာသာဒ်ကြီး၏ ထောင့် လေးထောင့်တို့၌ ရွှေအိုးကြီး လေးလုံး ပေါ်လာ၏၊ ပြာသာဒ်ကြီး၏ ထောင့် လေးထောင့်တို့၌ ထန်းပင်ပျိုပင်စည်လုံးခန့် ရွှေကြံပင် လေးပင် ပေါက်၏၊ အရွက်တို့မှာ မြရတနာဖြင့် ပြီးကုန်၏၊ ပင်စည်မှာ ရွှေဖြင့် ပြီး၏၊ တံခါးမုခ်တို့၌ နတ်ဘီလူး ခုနစ်ဦးတို့ စောင့်ရှောက်ကြ၏။

ဗိမ္ဗိသာရမင်းကြီးသည် ဇောတိကထံသို့ လာ၍ သေဋ္ဌေးထီးဖြူနှင့် အဆောင်အယောင်ကို ချီးမြှင့်၏၊ ဇောတိက သေဋ္ဌေးကတော် "သတုလကာယီ" သည် မြောက်ကျွန်းသူဖြစ်၏၊ နတ်တို့ကပင် ပို့ဆောင်ပေးရ၏၊ မြောက်ကျွန်းသူကား ဆန်ကစ်စလယ်နှင့် မီးကျောက်သုံးလုံးတို့ကိုသာ ယူခဲ့၏၊ တစ်သက် စား၍ မကုန်တော့ပေ။

ဇောတိကသည် ဗိမ္ဗိသာရမင်းကြီးနှင့် သားတော် အဇာတသတ်အား ဘုံနန်းပြာသာဒ်ထက်၌ မြောက်ကျွန်းဖြစ် သလေးဆန်နှင့် ပွဲတော် တည်စေ၏၊ ဝစ်သည် ဗိုလ်ပါတို့ကိုလည်း ကျွေးမွေး၏၊ ဇောတိကသေဌေး၏ ကျွန်မများ ကိုပင် ဘုရင်ကိုယ်တိုင် သေဌေးကတော်ဟု ထင်မှားခဲ့၏၊ သတုလကာယိသည် ဘုရင်အား ယပ်ခတ်စဉ် ဘုရင်၏ ဦးရစ်ခေါင်းပေါင်းမှ အနံ့ကြောင့် မျက်ရည် ကျ၏၊ ရတနာရောင်တို့ဖြင့် နေခဲ့ရသောကြောင့် ဖြစ်၏၊ ဘုရင်ကြီးအားလည်း ရတနာအရောင်တို့ဖြင့် နေနိုင်ရန် သခွားငဆစ်သီးခန့်ရှိ ကျောက်မျက်ရတနာကို ဆက်သလိုက်၏။

ဝိသမလောဘ၊ ပြွမ်းပြွမ်းထ၍၊ အနွကြော့ကြမ်း၊ လူသော့သွမ်းတို့၊ ညှိုးနွမ်းဒုက္ခ၊ ရောက်သမျှပင်၊ ဓမ္မကိန်းပျော်၊ သူ့ သူတော်ကား၊ စိတ်သော် ရွှင်မွေ့၊ ကိုယ်ချမ်းမြေ့၏ (ဓမ္မပဒေသ)။

အဇာတသတ်မင်းအား ဇောတိကသေဌေးကြီးက ပြောသည်မှာ အကျွန်ုပ် သဘောမတူလျှင် အကျွန်ုပ်၏ ဥစ္စာကို မြိတ်ဆာချည်မျှင် တစ်ပင်ကိုမျှ သိမ်းပိုက် ယူငင်ခြားမှာ မစွမ်းနိုင်ပါ၊ မာန်မာနတက်သော မင်းကြီးအား လက်နှစ်ဖက်ကို ဆန့်တန်း၍ လက်စွပ် အကွင်း (၂၀) ကို ချွတ်ခိုင်း၏၊ အားကောင်းမောင်းသန်သော မင်းကြီးသည် ဘယ်ပြန်ညာပြန်ချွတ်သော်လည်း မစွမ်းနိုင်ချေ၊ ယူတော့ဟု ပေးမှ လက်စွပ် အကွင်း (၂၀)တို့ ကျွတ်ကျ၏၊ ဤသို့ အဇာတသတ်မင်း၏ မတရား အပြုအမူကြောင့် ဇောတိကသေဌေးကြီး သံဝေဂရ၏။

ဗုဒ္ဓမြတ်စွာထံ၌ ရဟန်းပြု၏၊ မကြာမီ ရဟန်းတရားများ အားထုတ်သဖြင့် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်ခါ ရဟန္တာဖြစ်လေ၏၊ ရဟန်းတို့၏ ပြစ်တင် စကားနှင့် ပတ်သက်၍ မြတ်စွာဘုရားက "ရဟန်းတို့-ငါ့သားတော် ဇောတိက ရဟန္တာ၏ စိတ် အစဉ် ခန္ဓာအစဉ်ဝယ် ထိုဘုံနန်းပြာသာဒ်စည်းစိမ်နှင့် သေဌေး ကတော်အပေါ်၌ တပ်မက်မှု တဏှာလောဘ မရှိကေန် အမှန်ဖြစ်၏"ဟု မိန့်တော် မူပြီးလျှင် တရားဒေသနာကို ဟောကြားတော်မူ၏၊ ဒေသနာအဆုံးတွင် များစွာသော လူတို့ကို သောတာပတ္တိဖိုလ်၌ တည်စေ၍ သောတာပန်အရိယာ ဖြစ်စေလေသည်။

## ၂။ မေဏ္ဍကသေဋ္ဌေး

မေဏ္ဍကသည် ဘဒ္ဒိယမြို့ သေဌေးမျိုး၌ ဖြစ်သည်၊ ဇနီးသည်မှာ စန္ဒပဒုမာ အမည်ရှိ၏၊ သူ၏ သားမှာ ဝိသာခါ၏ဖခင် ဓနဥ္စယသေဌေးဖြစ်၏၊ မေဏ္ဍက၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သေဋ္ဌေးကြီး၏ ရှေးကောင်းမှုကံကြောင့် ရွှေဆိပ်ရုပ်များ ကျောက်ကုန်းချင်း ထိခတ် ဆက်စပ်လျက် အိမ်၏ အနောက်ဘက် မြေတွင် ပေါက်လျက် ရှိ၏၊ ရွှေဆိပ်ရုပ် တစ်ရုပ်၏ ခံတွင်းမှ ဇမ္ဗူဒိပ်ကျွန်း၌ နေသူ အားလုံးတို့အတွက် ထောပတ်၊ ဆီ၊ ပျား၊ တင်လဲ၊ အဝတ်အထည်၊ ရွှေငွေတို့ ထွက်လာကုန်၏၊ ကျွန်းသူကျွန်းသားတို့သည် မေဏ္ဍကသေဋ္ဌေးကြီးထံ လာ၍ ယူကြရ၏။

မေဏ္ဍကသေဋ္ဌေးသည် ဘဒ္ဒိယမြို့တွင် ဘုန်းကြီးသောသူ ငါးဦးတို့၏ အကြီးအမှူးဖြစ်၏၊ သူသည် မိမိရှိ စပါးကျီ ၁၂၅၀ တို့ကို ရှင်းလင်း သုတ်သင်ပြီး ကောင်းကင်သို့ မော့ကြည့်စဉ် သလေးနီစပါးမိုးကြီး ရွာချ၍ စပါးကျီ ၁၂၅၀ တို့မှာ ပြည့်ကုန်၏။

ရှေးဘဝမှ တော်စပ်ခဲ့ဖူးသော ဇနီး၊ သား၊ ချွေးမ၊ ကျွန်တို့သည်လည်း ယခုဘဝတွင် ဇနီး သား ချွေးမ ကျွန် ပြန်ဖြစ်ကုန်၏။

ဗုဒ္ဓမြတ်စွာသည် မေဏ္ဍကသေဋ္ဌေးကြီးအား သူ၏ စရိုက်နှင့် သင့်လျော်သော တရားတော်ကို ဟောကြား၏။ ဒေသနာတော်အဆုံးတွင် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။ သေဋ္ဌေးကြီးသည် ၁၅ ရက် ပတ်လုံး ကြီးစွာသော အလှူဒါနကို ပြု၏။

တိတ္ထိတို့နှင့် ပတ်သက်၍ ဗုဒ္ဓကို လျှောက်သောအခါ မြတ်ဗုဒ္ဓက "ဒါယကာ သေဋ္ဌေး- ဤသတ္တဝါတို့မည်သည် ကြီးစွာသော မိမိအပြစ်ကိုကား မမြင်ကြကုန်၊ သူတပါးတို့၏ အပြစ်ကိုကား မရှိသည်ကိုပင် အရှိပြုကာ ထိုထိုအရပ်တို့၌ ဖွဲဖျင်းကဲ့သို့ လေလွှင့်ပြောကြားတတ်ကုန်၏" ဟု ဟောတော်မူသော ဒေသနာအဆုံးတွင် များစွာသော လူအပေါင်းတို့ကို သောတာပတ္တိဖိုလ်၌ တည်စေ၍ သောတာပန် အရိယာ ဖြစ်စေလေသည်။

## ၃။ ဇဋိလသေဋ္ဌေး

ဇဋိလသည် ဗာရာဏသီပြည်၌ မွေးဖွား၏၊ အမိမှာ အလွန်အဆင်းလှသော အမျိုးသမီးတစ်ဦး ဖြစ်၏၊ ဖခင်မှာ ဝိဇ္ဇာဓိုရ်တစ်ဦး ဖြစ်လေသည်။ ဇဋိလ၏ ထူးခြားသော ကြည်ညိုဖွယ် ဂုဏ်ရည်များမှာ အောက်ပါအတိုင်း ဖြစ်၏-

ဇဋိလသည် ကုန်သည်တစ်ဦး၏ အိမ်တွင် သားအဖြစ်နေစဉ် (၁၂) နှစ် ရောင်းမကုန်သော ကုန်ပစ္စည်းများကို တစ်နေ့တည်းနှင့်ရောင်းစွံ၏။ သူကြွယ်ကြီး ကပင် "အဖိုး မဖြတ်နိုင်အောင် ထိုက်တန်သည့် ယောက်ျား၊ ချမ်းချမ်း သာသာ

အသက်ရှင်နိုင်မည့်သူ"ဟု သိ၍ သမီးကညာနှင့် လက်ဆက်ကာ အိမ်တစ်ဆောင် မီးတပြောင်ထား၏၊ အိမ်တက်မင်္ဂလာ ပြုလုပ်သောအခါ အိမ်၏ နောက်ဝိုင်း၌ ရွှေတောင်ကြီး ပေါက်လေ၏၊ သေဋ္ဌေးထီးဖြူ ရလေ၏၊ သားသုံးယောက်၏ ဘုန်းကံကို စမ်းပြီးသောအခါ သေဋ္ဌေးကြီးက–

"ဤရွှေတောင်ကြီးသည် ငါနှင့် ငါ့သားငယ် ဘုန်းကံကြောင့် ပေါ်ပေါက်လာခြင်း မြစ်သည်၊ သားကြီးတို့သည် ညီငယ်နှင့် တစိတ်တပေါင်းတည်း ဖြစ်ကြကာ စားသုံးကြလော့"ဟု မှာကြား၍ မြတ်ဗုဒ္ဓထံ၌ ရဟန်းပြု၏၊ ရဟန်းပြုပြီးနောက် ရဟန်းတရားကို ပွားများအားထုတ် ကြိုးကုတ်သဖြင့် နှစ်ရက် သုံးရက်အတွင်းမှာပင် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်၍ ရဟန္တာ ဖြစ်လေ၏၊ သားသုံးယောက်တို့သည် မြတ်ဗုဒ္ဓအမှူးရှိသော ရဟန်းသံဃာတော်များအား လဝက်ပတ်လုံး ဆွမ်းအလှူဒါနကို ပေးလှူကြကုန်၏။

အရှင်ဇဋိလနှင့် ပတ်သက်၍ ရဟန်းတို့ ပြစ်တင်စကားဆိုရာ၌ မြတ်ဗုဒ္ဓက "ရဟန်းတို့– ငါ့သားတော် ဇဋိလရဟန်း၏ သန္တာန်မှာ ထိုရွှေတောင်နှင့် သားတို့၌ တပ်မက်ခြင်း၊ မြတ်နိုးခြင်း အလျှင်းပင် မရှိပော့ချေ"ဟု မိန့်တော်မူပြီးလျှင် တရားဟောတော်မူ၏၊ ဒေသနာအဆုံးတွင် များစွာသောသူတို့သည် သောတာပတ္တိဖိုလ် စသည်တို့သို့ ဆိုက်ရောက်လေသည်။

## ၄။ ကာဠဝဠိယသေဋ္ဌေး

ကာဠဝဠိယသည် ရာဇဂြိုဟ်ပြည်၌ ဆင်းရဲသားတစ်ယောက် ဖြစ်သည်။ တစ်နေ့တွင် ကာဠဝဠိယ၏ ဇနီးသည် စားသုံးရန် ဟင်းရွက်နှင့် ရောသော ယာဂုချဉ်ကို ပြုတ်၍ ထား၏။ ထိုနေ့၌ အရှင်မဟာကဿပမထေရ်သည် နိရောဓ သမာပတ်မှ ထတော်မူ၍ 'ငါသည် အဘယ်သူအား ချီးမြှောက်မှု ပြုရပါမည်နည်း'ဟု ကြည့်ရှုလေလျှင် ကာဠဝဠိယဆင်းရဲသားကို ဉာဏ်၌ မြင်၍ သူ၏ အိမ်တံခါးဝသို့ ကြွရောက် ဆွမ်းရပ်တော်မူ၏။

ကာဠဝဠိယ၏ ဇနီးသည် မထေရ်၏လက်မှ သပိတ်ကို တောင်းယူ၍ ကျိုပြီး အသင့်ရှိသော ယာဂုချဉ်အားလုံးကို သပိတ်၌ လောင်းထည့်၍ မထေရ်အား ဆက်ကပ်လှူဒါန်းလေ၏။ အရှင်မဟာကဿပသည် ကျောင်းတော်သို့ သွား၍ ထိုယာဂုကို မြတ်စွာဘုရားအား ဆက်ကပ်လေ၏၊ ဗုဒ္ဓမြတ်စွာသည် မျှတတော်မူရုံသာ ခံတော်မူ၏၊ ကျန်သော ယာဂုကို ရဟန်းငါးရာတို့အား လောက်ငစေ၏။ ကာဠဝဠိယ ဆင်းရဲသားသည် ဆွမ်းကြွင်းဆွမ်းကျန် တောင်းခံရန် ထိုနေရာသို့ ရောက်လာ၍ ယာဂုအနည်းငယ်ကို ရရှိလေသည်။

အရှင်မဟာကဿပ မထေရ်မြတ်သည် မြတ်ဗုဒ္ဓအား ယာဂုဒါယကာ ရရှိမည့် အကျိုးကို မေးလျှောက်လေ၏။ ဗုဒ္ဓမြတ်စွာသည် "ဤနေ့မှ စ၍ ခုနစ်ရက် မြောက်၌ ကာဠဝဠိယသည် သေဋ္ဌေးဖြစ်လိမ့်မည်"ဟု မိန့်ကြားတော်မူလေ၏။ ကာဠဝဠိယသည် ဗုဒ္ဓမြတ်စွာ၏ မိန့်မြွက်တော်မူသည်ကို နားနှင့် ဆတ်ဆတ် ကြား၍ အိမ်သို့ ပြန်လာပြီးလျှင် ဇနီးသည်အား ထိုအကြောင်းကို မြန်ကြားပြောဆို လေ၏။

ဗိမ္ဗိသာရမင်းသည် မြို့ကို လှည့်လည်သည်ရှိသော် အရှင်လတ်လတ် ကားစင် တင်ရာ တံကျင်၌ ရာဇဝတ်သားတစ်ယောက်ကို မြင်တော်မူလေ၏။ ရာဇဝတ်သား သည် မင်းကြီးကို မြင်လျှင် "အရှင်မင်းကြီး-ပွဲတော်ထမင်းကို ပို့သစေချင်ပါသည်"ဟု အရဲစွန့်ကာ အော်ဟစ် ပြောဆိုလေ၏။ မင်းကြီးသည် ကောင်းပြီဟု ဝန်ခံခဲ့ရာ ညချမ်းပွဲတော်စာ ဆက်သောအခါ၌ ရာဇဝတ်သား တောင်းခံသော စကားကို အမှတ်ရ၍ "ဤပွဲတော်စာ ထမင်းကို မြို့အပြင် ကားစင် တံကျင်သို့ ရောက်အောင် ပို့ဆောင်နိုင်မည့်သူကို စုံစမ်းကြလော့"ဟု မိန့်လေ၏။

ရာဇဂြိုဟ်၏ ပတ်ဝန်းကျင် မြို့ပြပစာအရပ်သည် အလွန်ကြမ်းကြုတ်သည့် ဘီလူးများ လှည့်လည်ကျက်စားရာ အရပ်ဖြစ်၍ ညအချိန်၌ အလွယ်တကူ မြို့ပြင်သို့ မထွက်ဝံ့သောကြောင့် ဆိုင်ရာဝန်တို့သည် 'မြို့ပြင်ကားစင် တံကျင်သို့ ထမင်း သွားရောက် ပို့ဝံ့သောသူသည် ဤအသပြာ တစ်ထောင်ကို ယူစေ' ဟု မြို့တွင်း၌ လှည့်လည်ကြေညာစေလေသည်။ ပထမ, ဒုတိယ အကြိမ်များ၌ အသပြာ တစ်ထောင်ထုပ်ကို ယူမည့်သူ မပေါ်ဘဲ တတိယအကြိမ် လှည့်လည်စေသောအခါမှ ကာဠဝဠိယ၏ ဇနီးသည် ထိုအသပြာ တစ်ထောင်ထုပ်ကို မင်းချင်းတို့ လက်မှ ယူလိုက်လေ၏။ မင်းချင်းတို့သည် သူမကို မင်းကြီးအား ပြသကြလေကုန်၏။ သူမသည် ယောကျ်ားအသွင်ကို ယူပြီးလျှင် ကိုယ်၌ လက်နက် ငါးပါး ဖွဲ့ချည်လျက် ထမင်းပွဲတော်ကို ယူဆောင်ကာ ရဲရဲရင့်ရင့် မြို့မှ ထွက်ခဲ့လေ၏။ မြို့ပြင်သို့ ရောက်လျှင် ဒိဃတာလနတ်ဘီလူးသည် ထန်းပင်အနီးမှသွားသော သူမကို မြင်လေလျှင် "ရပ်လော့၊ သင်သည် ငါ့အစာ ဖြစ်လေပြီ"ဟု ခြိမ်းခြောက်စကား ပြောကြားလေ၏။

**သူမ**။　ငါသည် သင့်အစာမဟုတ်၊ ငါကား မင်းကြီး၏တမန်တော် ဖြစ်သည်။

**ဘီလူး**။ ယခု အဘယ်သို့ သွားမည်နည်း။

**သူမ**။　အရှင်လတ်လတ်ကားစင်တင်သော တံကျင်၌ နေသော ရာဇဝတ်သား ထံသို့ ငါသွားမလို့။

**ဘီလူး။** ငါ၏ သတင်းစကားတစ်ခုကို ဆောင်သွားခြင်းငှာ စွမ်းနိုင်ပါမည်လော။

**သူမ။** စွမ်းနိုင်ပေ၏။

**ဘီလူး။** ထိုသို့ဖြစ်လျှင် "သုမနနတ်မင်းကြီး၏ သမီး ဒီဃတာလဘီလူး၏ဇနီး ကာဠီနတ်သမီးသည် သားကို မွေးဖွားလေပြီ"ဟု လမ်းတစ်လျှောက် ဟစ်အော် ပြောကြားပါလေ၊ ဤ ထန်းပင်ခြေ၌ ရွှေအိုးခုနစ်လုံးတို့ ရှိကြပေါ်ကုန်၏၊ ထိုရွှေအိုးများကို သတင်းကြေးကြော်ခအဖြစ် သင်ယူပါလော။

သူမသည် ဘီလူးပြောသည့်အတိုင်း ဟစ်အော် ကြွေးကြော်သွားသည် ရှိသော် သုမနနတ်မင်းကြီးသည် နတ်သမီးတို့ အစည်းအဝေး၌ ထိုအသံကို ကြားရ၍ လူသားတစ်ယောက်ဖြစ်လျက် ငါတို့အတွက် အလွန်နှစ်သက်ဖွယ်သော သတင်းကို ယူဆောင်လာ၏ဟု ဆိုကာ ဝမ်းသာလှသဖြင့် ထိုသူကို ခေါ်ပြီး "ဤသစ်ပင်၏ ဘေးပတ်ပတ်လည် အရိပ်ပျံ့နှံ့ရာအရပ်၌ ရွှေအိုးများ ရှိကြသည်၊ ထိုရွှေအိုးများကို သင့်အား ငါပေး၏"ဟု ပြောဆိုလေ၏။

ထို့နောက် သူမသည် ကားစင်ရှိရာသို့ သွား၍ ရာဇဝတ်သားကို ထမင်းခွံ့၍ ကျွေးလေ၏။ ရာဇဝတ်သားသည် ထမင်းစားပြီးနောက် ခံတွင်းကို သူမ၏ လက်ဖြင့် သုတ်ပေးသောအခါ မိန်းမအတွေ့မှန်းသိ၍ သူမ၏ ဆံထုံးကို တအားကိုက်၍ ထားလေ၏။ သတ္တိကောင်းသော သူမသည် သန်လျက်ဖြင့် ဆံထုံးကို ဖြတ်ခဲ့ပြီး မင်းကြီးထံသို့ ပြန်လာလေ၏။

ထိုအခါ မင်းကြီးက "မယ်မင်း-ထမင်းကို ကျွေးခဲ့ပြီးကြောင်းကို အဘယ်သို့သော အခြင်းအရာ အမှတ်အသားဖြင့် ငါသိရမည်နည်း"ဟု မေးတော်မူလျှင် သူမသည် "ကျွန်တော်မျိုးမ၏ ဆံထုံးအမှတ်အသားဖြင့် သိတော်မူနိုင်ပါသည်"ဟု လျှောက်တင်ကာ မင်းကြီးအား မိမိ တွေ့ကြုံခဲ့ရသမျှသော ဖြစ်ရပ်အားလုံးကို ပြန်ကြားလျှောက်ထား၍ ထိုရွှေအိုးများကို ဆောင်ယူစေလေ၏။ မင်းကြီးသည် ရွှေအိုးများကို ယူဆောင်စေပြီးလျှင် မှူးမတ်တို့အား "အခြားသူ တစ်ဦးတစ်ယောက်မှာ ဤမျှများပြားသော ဥစ္စာရှိသလား"ဟု မေးတော်မူ၍ မရှိပါဟု ပြန်ကြားလျှောက်ထားလေလျှင် မင်းကြီးသည် သူမ၏ အိမ်ရှင် ကာဠဝဋ္ဋိယကို ရာဇကြိုဟ်ပြည်၌ အဆောင်အယောင်များပါ ပေးအပ်ကာ "မနသေဋ္ဌိ" ဘွဲ့တံဆိပ်တပ်သည့် သေဋ္ဌေးကြီးရာထူး၌ ခန့်အပ် မြှောက်စားထားလေသသည်း။

## (ခ) လှူဒါန်းကြောင် မိန်းမအာရိယာများ

### ၁။ သုဇာတာသေဌေးကတော်

သုဇာတာသည် ဥရုဝေလတောအုပ်အနီး သေနနိဂုံးသူ သေနိယသေဌေးကြီး၏ သမီး ဖြစ်သည်။ သူ၏ သားမှာ ယသ သတို့သားဖြစ်၏၊ သူ၏ ခင်ပွန်းမှာ ဗာရာဏသီသေဌေး ဖြစ်လေသည်။ သုဇာတာသေဌေးကတော်၏ ထူးခြားမှုသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သုဇာတာသေဌေးကတော်သည် ဗုဒ္ဓအလောင်းတော်အား ညောင်စောင့်နတ် ထင်မှတ်၍ ရွှေခွက်နှင့်တကွ နို့ဃနာဆွမ်းကို ဆက်ကပ်၏။ "အကျွန်ုပ်၏ စိတ်နှလုံး အလိုဆန္ဒ ပြည့်ဝသကဲ့သို့ အရှင်တို့၏ အလိုဆန္ဒလည်း ပြည့်ဝ ပါစေသတည်း" ဟု ဆုတောင်း၏၊ ဆုတောင်းပြည့်၍ သား ယသကို ရ၏။

နောင်အခါဝယ် သုဇာတာ၏ ခင်ပွန်းသေဌေးကြီးက ပင့်ဖိတ်၍ ဗုဒ္ဓမြတ်စွာသည် အရှင်ယသကို နောက်ပါ ရဟန်းပြု၍ သုဇာတာသေဌေးကတော်အိမ်သို့ ဆွမ်းဘုဉ်း ပေးကြွ၏။ မြတ်ဗုဒ္ဓ၏ ဟောကြားတော်မူအပ်သော ဓမ္မဒေသနာ ဆုံးသောအခါ သေဌေးကတော် သုဇာတာသည် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန် အရိယာ ဖြစ်လေသည်။

ဗုဒ္ဓမြတ်စွာသည် ရှေးဦးစွာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သော သရဏဂုံသို့ ရောက်ကြသည့် ဒါယိကာ ဥပါသိကာတို့တွင် သေနိယသေဌေး၏သမီး သုဇာတာသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ် ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေသည်။

### ၂။ ဝိသာခါကျောင်းအမကြီး

ဝိသာခါသည် အင်္ဂတိုင်း၊ ဘဒ္ဒိယမြို့သူ မေဏ္ဍကသေဌေးကြီး၏သား ဓနဥ္စယ သေဌေးနှင့် သုမနဒေဝီသေဌေးကတော်ကြီး၏ သမီး ဖြစ်လေသည်။ ဝိသာခါ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

ဝိသာခါသည် အဘိုးဖြစ်သူ မေဏ္ဍကသေဌေးကြီး၏ လမ်းညွှန်မှုဖြင့် ခုနစ်နှစ် သမီးအရွယ်တွင် ရံရွေဖော်များ ခြံရံလျက် မြတ်ဗုဒ္ဓအား ခရီးဦးကြိုဆိုမှု ပြုလေ၏။ မြတ်စွာဘုရားသည် ဝိသာခါသေဌေးသမီးအား သူမ၏ စရိုက်နှင့် လိုက်လျော ညီညွတ်သော တရားကို ဟောကြားတော်မူသော အဆုံး၌ သောတာ ပတ္တိဖိုလ်၌ တည်၍ ခုနစ်နှစ်အရွယ်ကပင် သောတာပန် အရိယာ ဖြစ်လေ၏။

အရွယ်ရောက်၍ မင်္ဂလာပြုသောအခါ ဝိသာခါ၏ မင်္ဂလာပွဲသို့ ကောသလမင်းကြီးကိုယ်တိုင် လိုက်ပါချီးမြှင့်၏။ ယောက္ခမအိမ်သို့ လိုက်သွားမည့် ချစ်သမီးဝိသာခါအား ဓနဉ္စယသေဋ္ဌေးကြီးက အတွင်းမီး အပြင်မီး စသည့် ဩဝါဒ(၁၀)ချက်ဖြင့် သင်ကြားဆုံးမလေ၏။ သမီးဝိသာခါကို ကိုးကုဋေတန်သော မဟာလတာတန်ဆာဖြင့် တန်ဆာဆင်လေ၏။ နံ့သာမှုန့်ဖိုး လှည်း ၁၅၄ စီးတိုက်ဥစ္စာကို ပေး၏။ ကျွန်မ ၅၀၀၊ အာဇာနည်မြင်း ကသော ရထား ၅၀၀၊ အသုံးအဆောင်မျိုးစုံ တစ်မျိုးလျှင် တစ်ရာစီ တစ်ရာစီ ပေး၏။

သမီးဝိသာခါသည် "ရဟန်းသံဃာနှင့် ကင်းကွာ၍ နေထိုင်ရန် မဖြစ်နိုင်ပါ၊ ရဟန်းသံဃာတို့ကို ပြုစုလုပ်ကျွေးလိုပါ၏"ဟု မိဂါရသေဋ္ဌေးကို အရေးဆိုခဲ့၏၊ အခွင့်ရသောအခါ ဘုရားအမှူးရှိသော ရဟန်းသံဃာတော်တို့အား ဆွမ်းဖြင့်လုပ်ကျွေး၏၊ မိဂါရသေဋ္ဌေး ယောက္ခမကြီးအား မြတ်ဗုဒ္ဓ၏ တရားတော်ကိုနာကြားစေ၏။ ထိုအခါ မိဂါရသေဋ္ဌေး ဇနီးမောင်နှံမှာ သောတာပတ္တိဖိုလ်၌တည်၍ သောတာပန် အရိယာ ဖြစ်လေသည်။ မိဂါရသေဋ္ဌေးကြီးသည် ဝိသာခါကို အမိအရာ၌ တည်စေ၏။

ဝိသာခါ၏ ထူးခြားချက်မှာ အသက် ၁၂၀ ရှည်သူ ဖြစ်၏၊ ဆံပြုတစ်ပင်မျှမပေါက်ချေ၊ အမြဲတစေ (၁၆)နှစ် အရွယ် ပျိုမျစ်နုနယ်လျက် နေ၏၊ သားသမီးမြေး မြစ်တို့နှင့် အတူသွားသည်ကို မြင်လျှင် အဘယ်သူသည် ဝိသာခါလဲဟုမေးရ လောက်အောင်ပင် ပျိုမျစ်နုနယ်၏၊ လျောင်း၊ ထိုင်၊ ရပ်၊ သွား လေးပါးသောဣရိယာပုတ်တို့တွင် အဘယ်ဣရိယာပုတ်ဖြင့်တော့ မတင့်တယ်ဘူးဟု ပြောဆိုဖွယ်မရှိအောင် တင့်တယ်၏၊ ဆင်ပြောင် ဝာစ်ကောင်ကို လက်ချောင်းကလေးနှစ်ချောင်းဖြင့်နှာမောင်း၌ ညှပ်ကိုင်ကာ အသာအယာ တွန်းလှဲနိုင်သည့် ဆင်ပြောင်ငါးစီးအားရှိ၏။

ဝိသာခါသည် မိမိကိုယ်တိုင်သာလျှင် မဟာလတာတန်ဆာ၏ တန်ဖိုး ကိုးကုဋေနှင့်တစ်သိန်းကို ပေး၍ သာဝတ္ထိမြို့တံခါးအနီး၌ ပုဗ္ဗာရုံကျောင်းနေရာ မြေကိုပင်ကိုးကုဋေသော အသပြာတို့ဖြင့် ဝယ်ယူ၏၊ အခြား ကိုးကုဋေသော ဥစ္စာတို့ဖြင့်ပုဗ္ဗာရုံ ကျောင်းတိုက်ကြီးကို တည်ဆောက်၏။ ကိုးလကြာသော အခါရှင်မောဂ္ဂလာန်မထေရ်ကြီး၏ ကြီးကြပ်မှုဖြင့် ကျောင်းတော်ကြီး ပြီးစီးလေ၏။ကျောင်းရေစက်ချပွဲကို လေးလကြာ ကျင်းပပါသည်။

ဝိသာခါကျောင်းအမကြီးသည် ထိုနေ့မှစ၍ ဘုရားအမှူးရှိသော ရဟန်းသံဃာတော်တို့အား ပုဗ္ဗာရုံကျောင်းတိုက်မှာပင် အလှူဒါနကြီး ပေးလှူ၏။ အငယ်ဆုံး

သံဃာရသော သက်န်းလျာအဝတ်တို့သည် အဖိုးတစ်ထောင် ထိုက်တန်ကုန်၏။ ရဟန်းတို့အား သပိတ်အပြည့် ထည့်၍ စတုမဓုဆေးကို လှူဒါန်းလေ၏။ ကျောင်းလွှတ်ပူဇော်ပွဲ၌ ကိုးကုဋေသော အသပြာတို့ ကုန်လေ၏။

ဝိသာခါကျောင်းအမကြီးသည် ကျောင်းရေစက်ချပွဲတွင် "ငါ တောင့်တခဲ့သမျှ ဆုတောင်းခဲ့သမျှ ဥဿုံ အလုံးစုံ အထွတ်အထိပ်သို့ အပြီးအဆုံးသို့ ရောက်လေပြီ"ဟု ဝမ်းမြောက်ဝမ်းသာ ကျောင်းတော်ကြီးကို လှည့်လည်လျက် ငါးဂါထာတို့ဖြင့် အလွန်သာယာချိုမြိန်သော အသံဖြင့် ဥဒါန်းကျူးရင့်လေ၏။

ကျောင်းအမကြီးသည် နေ့စဉ် နံနက်အခါတွင် ရဟန်းသံဃာတော်တို့အား ဆိုင်ရာဆိုင်ရာသော ဆွမ်းများ လှူဒါန်းပြီး နေမွန်းလွဲသောအခါ ကျောင်းတော်သို့ သွား၍ ဆီဦး, ထောပတ်, ပျား, ဆီ, တင်လဲ တို့ကို လည်းကောင်း၊ အဖျော်ရှစ်မျိုးတို့ကို လည်းကောင်း၊ ရဟန်းတို့ လိုအပ်သော ဆေးပစ္စည်းများကို လည်းကောင်း ဆက်ကပ်လေ၏။ ဤကား ဝိသာခါ၏ နိစ္စဝတ် ဖြစ်ပါသည်။

ဗုဒ္ဓမြတ်စွာသည် စွန့်ကြဲပေးကမ်း လှူဒါန်းခြင်း၌ နှစ်ခြိုက်မွေ့လျော်ကြသည့် ငါဘုရား၏ တပည့်မ သာဝိကာ ဥပါသိကာမတို့တွင် မိဂါရ၏ မယ်တော် ဝိသာခါသေဋ္ဌေးမသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေသည်။

## ၃-၄။ ခုဇ္ဇုတ္တရာနှင့် သာမာဝတီ

ခုဇ္ဇုတ္တရာသည် ဃောသကသေဋ္ဌေး၏ အထိန်းတော်ကြီးသမီး ဖြစ်၏၊ ကိုယ်ခန္ဓာ ကုန်းကုန်းကလေးရှိ၍ ခုဇ္ဇုတ္တရာသူငယ်မဟု အမည်တွင်၏။

သာမာဝတီသည် ဘဒ္ဒိယမြို့၊ ဘဒ္ဒဝတိယသေဋ္ဌေးကြီး၏ သမီး ဖြစ်၏၊ ခုဇ္ဇုတ္တရာနှင့် သာမာဝတီတို့၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သာမာဝတီကို ဃောသကသေဋ္ဌေးကြီးက သမီးအဖြစ် မွေးစား၏၊ တဖန် ဥဒေနမင်းကြီးကလည်း မိဖုရားမြှောက်ခဲ့၏။

တနေ့သ၌ မြတ်စွာဘုရားသည် ရဟန်းအပေါင်း ခြံရံလျက် ပန်းသည်ကြီး အိမ်တွင် ထိုင်နေတော်မူ၏။ သာမာဝတီမိဖုရား၏ အလုပ်အကျွေးဖြစ်သော ခုဇ္ဇုတ္တရာသည် ထိုအိမ်သို့ ပန်းလာဝယ်၏၊ ဘုရားအမှူးရှိသော သံဃာတော်များအား ဆွမ်းကပ်ရာတွင် ဝေယျာဝစ္စကုသိုလ် ကူညီပြုလုပ်ပေး၏။

ဗုဒ္ဓဘုရားရှင် ဟောကြားတော်မူသော တရားအလုံးစုံကို နှုတ်ငုံရအောင် သင်ယူ၏၊ အနုမောဒနာ တရားအဆုံး၌ သောတာပတ္တိဖိုလ်၌ တည်၍ သောကာပန် အရိယာ ဖြစ်လေသည်။

တဖန် ခုဇ္ဇုတ္တရာသည် သာမာဝတီမိဖုရားထံ ပြန်လာပြီး သာမာဝတီ အမျှုးရှိသော မောင်းမငါးရာတို့အား တရားဟောလေ၏။ တရားဒေသနာ ဆုံးသောအခါ သာမာဝတီမိဖုရားကို အကြီးအမျှုးပြု၍ အလုံးစုံသော မောင်းမငါးရာတို့သည် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန် အရိယာများ ဖြစ်ကုန်၏။

ခုဇ္ဇုတ္တရာသည် ထိုနေ့မှ စ၍ နေ့စဉ် မြတ်ဗုဒ္ဓထံမှ တရားဓမ္မကို နာယူပြီးလျှင် သာမာဝတီအမျှုးရှိသော မောင်းမငါးရာတို့အား ရွှေနန်းတော်မှာပင် ပြန်၍ ဟောကြားလေ၏။

သာမာဝတီအမျှုးရှိသော မောင်းမငါးရာတို့သည် မာဂဏ္ဍီမိဖုရား၏ ရန်တိုက်မှုကို သုံးကြိမ်မြောက် ခံရသော်လည်း–

> "သူတဖက်သား၊ မျက်မာန်ပွားသော်၊ တရားမကွာ၊ ထိန်းစောင့်ကာဖြင့်၊ မေတ္တာနှလုံး၊ ကိုယ်က သုံးလျှင်၊ အရှုံး ဘယ်မှာ ရှိချိမ့်နည်း"
>
> (ဓမ္မုပဒေသ)

ဆိုသည်နှင့်အညီ မေတ္တာနှလုံး ကျင့်သုံးခြင်းဖြင့် အနိုင်ရခဲ့လေသည်။ သို့သော် ရှေးအကုသိုလ်ကံကြောင့် နောက်ဆုံး အကြိမ်တွင် မီးလောင်တိုက်သွင်း၍ သတ်ခြင်း ခံရရှာ၏။

မြတ်ဗုဒ္ဓသည် အကြားအမြင် ဗဟုသုတများကြသည့် ငါဘုရား၏ တပည့်မ သာဝိကာဥပါသိကာမတို့တွင် ခုဇ္ဇုတ္တရာဥပါသိကာမသည် အသာဆုံးအမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

သာမာဝတီမိဖုရားကိုမူကား မေတ္တာစျာန်ဖြင့် နေလေ့ရှိကြသည့် ငါဘုရား၏ တပည့်မ သာဝိကာဥပါသိကာမတို့တွင် သာမာဂတီသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## ၅။ ဥတ္တရာနန္ဒမာတာ ဥပါသိကာ

ဥတ္တရာနန္ဒမာတာသည် ရာဇဂြိုဟ်ပြည်သူ ပုဏ္ဏသီဟ အလုပ်သမားနှင့် ဇနီး ဥတ္တရာတို့၏ သမီးဖြစ်လေ၏၊ သူ့တွင် နန္ဒ အမည်ရှိသော သားတစ်ယောက် ထွန်းကား၏။ ဥတ္တရာနန္ဒမာတာ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်မှုားမှာ ဤသို့ ဖြစ်၏–

ဥတ္တရာနန္ဒမာတာ ဥပါသိကာမ၏ ဖခင် ပုဏ္ဏဆင်းရဲသားသည် နိရောဓသမာပတ်မှ ထ၍ မိမိလယ်တောသို့ ကြွရောက်လာသော အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီးကို မျက်နှာသစ်တော်ရေနှင့် ဒန်ပူ ဆက်ကပ် လှူရသော အကျိုးနှင့် ဇနီးဖြစ်သူ ဥတ္တရာ၏ ဆွမ်းလှူရသော အကျိုးကြောင့် မိမိထွန်အပ်သော ထွန်စိုင်မြေတုံးတို့သည် ရွှေတုံးရွှေခဲများ ဖြစ်လာပြီး ဗိမ္ဗိသာရမင်းသို့ ဆက်သရာမှ မင်းကြီးက "မဟာဓနသေဋ္ဌိ" ဟူသော ဘွဲ့ထူးဖြင့် သေဋ္ဌေးကြီးရာထူးကို ကြီးကျယ်ခမ်းနားစွာ ချီးမြှောက်လေ၏။ ထို့နောက် ခုနစ်ရက်တို့ပတ်လုံး မြတ်စွာဘုရား အမှူးရှိသော ရဟန်း သံဃာတော်များအား ကြီးစွာသော အလှူကြီးကို ပေးလှူ၏။ ဗုဒ္ဓမြတ်စွာ၏ အနုမောဒနာတရားကို ကြားနာရသောကြောင့် ပုဏ္ဏသေဋ္ဌေးကြီး၊ သေဋ္ဌေးကတော်ကြီး ဥတ္တရာ၊ သမီး ဥတ္တရာနန္ဒမာတာ မိသားစု သုံးဦးတို့သည် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်ကြလေသည်။

ဥတ္တရာ၏ ကြီးစွာသော သဒ္ဓါဆန္ဒမှာ မိမိခင်ပွန်းလင်အား ဖျော်ဖြေရန် အသပြာ တစ်သောင်း ငါးထောင် ပေး၍ သီရိမာ ပြည့်တန်ဆာမကို ငှားကာ ၁၅ ရက် အိမ်တွင် နေကြစေ၏၊ မိမိမှာမူ ဗုဒ္ဓအတွက် ကိုယ်တိုင် ဦးစီးကာ ဆွမ်းခဲဖွယ် ဘောဇဉ်များကို ဆက်ကပ်၍ ဥပုသ်သီတင်း စောင့်သုံးနေလေသည်။ သီရိမာသည် သူဌေးအိမ်မှာ သေဋ္ဌေးကို ဖျော်ဖြေနေရ၍ မိမိကိုယ်ကိုပင် သေဋ္ဌေးကတော်ထင်ကာ-

> "ဝတ္ထုကာမ၊ သဘာဝကား၊ ကာလရှည်ကြာ၊ သုံးမိပါက၊ ပမာဒစု၊
> လွှမ်းမိုးမှုကြောင့်၊ သူ့ဟာကိုပင်၊ ကိုယ့်ဟာ ထင်၏" (ဓမ္မပဒေသ)

ဆိုသည့်အတိုင်း ဖြစ်ပြီး ဥတ္တရာ၏ ဦးခေါင်းပေါ်သို့ အိုးကင်းထဲမှ ကျိုက်ကျိုက်ဆူသော ဆီကို ခပ်ပြီး လောင်းချလိုက်လေ၏။ သို့သော် ဥတ္တရာသည် မေတ္တာစျာန် ဖြန့်ကြက်ထားသောကြောင့် ဆီပူသည် ပဒုမ္မာကြာရွက်ပေါ်၌ လောင်းချအပ်သည့် ရေကဲ့သို့ လျှော၍သာ ကျလေ၏။ သီရိမာသည် မိမိ အမှားကို တောင်းပန်၏။ ဥတ္တရာက မြတ်ဗုဒ္ဓသည်းခံမှ သည်းခံမည်ဟု ပြော၏။ သီရိမာသည် မြတ်ဗုဒ္ဓထံ သည်းခံစေပြီးမှ ဥတ္တရာကိုလည်း သည်းခံစေ၏၊ ထို့နောက် ဗုဒ္ဓရှင်တော်ဘုရား၏ တရားဓမ္မကို ကြားနာရသောကြောင့် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။

ဗုဒ္ဓမြတ်စွာသည် စျာန်ဝင်စားခြင်းရှိကြသည့် ငါ့ဘုရား၏ တပည့်သာဝိကာ ဥပါသိကာမတို့တွင် နန္ဒသူငယ်၏ အမိဖြစ်သူ ဥတ္တရာဥပါသိကာမသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## ၆။ သုပ္ပဝါသာ (ကောလိယ) သာကီဝင်မင်းသမီး

သုပ္ပဝါသာသည် ကောလိယပြည်သူ သာကီဝင် မင်းသမီး ဖြစ်၏၊ သီဝလိ သတို့သား၏ မိခင်ဖြစ်၏၊ သုပ္ပဝါသာ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သုပ္ပဝါသာသည် မိမိ၏ ခင်ပွန်းအိမ်သို့ လိုက်နေစဉ် မြတ်ဗုဒ္ဓကို ပထမဦးဆုံး အကြိမ် ဖူးတွေ့ခွင့်ရ၏၊ ဘုရားရှင်၏ တရားတော်ကို ကြားနာရသဖြင့် သောတာ ပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။

သုပ္ပဝါသာ၏ ဘုန်းကံကြောင့် မင်းသမီး၏ လက်ဖြင့် ထိစေပြီး စိုက်အပ်သော စပါးတို့တွင် မျိုးစေ့တစ်စေ့မှ အပင်အညှောက်ပေါင်း ရာထောင်ပေါက်၍ မင်းပယ်တစ်ပယ်ကျယ်သော လယ်မြေတစ်ကွက်မှပင် လှည်းအစီးပေါင်း ငါးဆယ် ခြောက်ဆယ်တိုက် စပါးထွက်၏။ စပါးများကို ကျီတိုက်တွင် ဖြည့်သွင်းသော အခါတွင်လည်း မင်းသမီး၏ လက်ဖြင့် ထိစေ၏၊ မင်းသမီး၏ ဘုန်းကံကြောင့် ကောက်စပါး ထုတ်ယူသည်ရှိသော် ယူတိုင်းယူတိုင်း နေရာသည် တဖန် ထပ်၍ ပြည့်မြဲ ဖြစ်၏၊ ထို့ပြင် ထမင်းအိုးမှ ခူးကာ ခူးကာပေးသော်လည်း ထမင်းသည် မကုန်နိုင်ချေ။

သုပ္ပဝါသာသည် ခုနစ်နှစ် ခုနစ်ရက် ကိုယ်ဝန်ကို ဆောင်ထားစဉ် ခံစား ရသော ဒုက္ခကို မြတ်ဗုဒ္ဓ၏ ဂုဏ်တော်၊ သံဃာတော်၏ သုပ္ပဋိပန္နဂုဏ်တော်၊ နိဗ္ဗာန်၏ သန္တိသုခဂုဏ်တော်တို့ကို နှလုံးသွင်း အာရုံပြု၍ အောင့်အည်း သည်းခံလေသည်။ သားတော်သီဝလိကို မွေးဖွားပြီးနောက် မြတ်စွာဘုရား အမှူးရှိသော သံဃာတော်များကို ဆွမ်းကပ်လှူ၏။

မြတ်ဗုဒ္ဓသည် မွန်မြတ်သော ဝတ္ထုကို ပေးလှူသည့် ငါဘုရား၏ တပည့်မ သာဝိကာ ဥပါသိကာမတို့တွင် ကောလိယသာကီဝင် မင်းသမီး သုပ္ပဝါသာသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## ၂၇။ သုပ္ပိယာဥပါသိကာ

သုပ္ပိယာ ဥပါသိကာမသည် ဗာရာဏသီပြည်သူ သေဋ္ဌေးသမီး ဖြစ်လေသည်။ သုပ္ပိယာ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သုပ္ပိယာသေဋ္ဌေးကတော်သည် မြတ်စွာဘုရားရှင်ကို ပထမအကြိမ် ဖူးမြင် ရသော အခါ၌ပင်လျှင် တရားတော်ကို ကြားနာရ၍ သောတာပတ္တိဖိုလ်၌ တည်ကာ သောတာပန်အရိယာ ဖြစ်လေ၏။ တနေ့သ၌ သုပ္ပိယာ ဥပါသိကာမသည်

မိဂဒါဝုန် ကျောင်းတိုက်တွင် ကျောင်းစဉ် လှည့်လည်လတ်သော် ဝမ်းလျှော၍ အားနည်းကာ မမာ မကျန်းဖြစ်နေသော ရဟန်း တစ်ပါးကို ဖူးတွေ့ရ၏၊ ထိုဂိလာနရဟန်း အလိုရှိအပ်သော သားမျိုးဟင်းရည်ကို ပြုလုပ်ရန် ကျွန်မအား ပံ့သကူအသားကို ရှာခိုင်း၏၊ မရသည့်အတွက် မိမိပေါင်သားကို ဖြတ်၍ သားမျိုးဟင်းရည်ပြုလုပ်ကာ ဂိလာနရဟန်းအား ကပ်စေ၏၊ သုပ္ပိယာ ဥပါသိကာမ၏ အံ့ဩဖွယ် ဒါနစေတနာကို တွေ့ရပါသည်။

ဗုဒ္ဓမြတ်စွာသည် ထိုအကြောင်းကို သိ၍ နောက်ပါ ရဟန်းသံဃာတော်တို့နှင့် သုပ္ပိယာ ဥပါသိကာမ အပါးသို့ ကြွလေ၏။ သုပ္ပိယာဥပါသိကာမသည် ဗုဒ္ဓကို ဖူးမြင်ရလျှင်ပင် ပေါင်သားလှီးရာ အနာသည် ပကတိအထိုင်း ဖြစ်သွားလေ၏။

မြတ်ဗုဒ္ဓသည် သူနာကို လုပ်ကျွေးပြုစုကုန်သော ငါဘုရား၏ တပည့်မ သာဝိကာ ဥပါသိကာမတို့တွင် သုပ္ပိယာဥပါသိကာမသည် အသာဆုံးအမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

## ၈။ ကာတိယာနီဥပါသိကာ

ကာတိယာနီသည် ကုရရဃရမြို့သူ သေဌေးသမီး ဖြစ်၏၊ သူ၏ သူငယ်ချင်းမှာ သောဏကုဋိကဏ္ဏမထေရ်၏ မယ်တော် ကာဠီသေဌေးကတော် ဖြစ်လေသည်။ ကာတိယာနီ ဥပါသိကာမ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

သူငယ်ချင်းမ၏ သားဖြစ်သော သောဏကုဋိကဏ္ဏ မထေရ်သည် မယ်တော်၏ တောင်းပန်မှုကြောင့် ညတရားပွဲကို ကုရရဃရမြို့တွင် ကျင်းပလေ၏၊ မထေရ်သည် မြတ်စွာဘုရားအား လျှောက်ထားခဲ့သည့် နည်းအတိုင်း တရားတော်ကို ဟောကြားလေသည်။ ထိုအခါ ကာတိယာနီသေဌေးမသည် ကာဠီနှင့်အတူ ပရိသတ်အစွန်းမှ တရားကို ရိုသေစွာ နာယူ၏။ ကျွန်မက အိမ်တွင် သူခိုး ခိုးယူနေကြောင်း လာရောက်ပြောကြားသည်ကို "အမိ- အသံမပြုလင့်၊ တရားတော်၏ အန္တရာယ်ကို မပြုပါလင့်"ဟု ပြောဆိုလိုက်၏။ တရားတော်၏ အဆုံးတွင် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။

ခိုးသူမှူးကြီးသည် ကျွန်မနှင့် ကာတိယာနီတို့ ပြောဆိုသော စကားကို ကြားသိရ၍ ပစ္စည်းများကို ပြန်ထားကာ ဝန်ချတောင်းပန်ပြီး သောဏကုဋိကဏ္ဏအရှင်မြတ်ထံတွင် ကာတိယာနီကို ရဟန်းဒါယိကာမအဖြစ် ခံယူစေကာ

ခိုးသူမှူးကြီးနှင့် တကွ ခိုးသားငါးရာတို့သည် ရဟန်းပြုကုန်၏။ ရဟန်းတရားများကို ပွားများ ကြိုးကုတ် အားထုတ်သဖြင့် ငါးရာလုံးပင် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်ကာ ရဟန္တာဖြစ်ကြကုန်၏။

ဗုဒ္ဓမြတ်စွာသည် သာသနာတော်၌ မတုန်မလှုပ် သက်ဝင် ယုံကြည်ကြသည့် ငါဘုရား၏ တပည့်မသာဝိကာ ဥပါသိကာမတို့တွင် ကာတိယာနီ ဥပါသိကာမသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူလေသည်။

## ၉။ ကုရရဃရမြို့နေ ကာဠီဥပါသိကာ

ကာဠီဥပါသိကာမသည် ရာဇဂြိုဟ်ပြည်သူ သေဋ္ဌေးသမီး ဖြစ်၏၊ ကာဠီဥပါသိကာမ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

မဟာသက္ကရာဇ် ၁၀၃ ခု၊ ဝါဆိုလပြည့် ဓမ္မစကြာတရားဟောတော်မူသောနေ့ သန်းခေါင်ယံ ညဥ့်အခါ၌ မိဘတို့၏ အိမ်ပြာသာဒ်ထက်သို့ တက်၍ ကိုယ်ဝန်၏ ပင်ပန်းမှုကို ဖျောက်လိုသဖြင့် လေညင်းခံကာ ရပ်တန့်နေ၏၊ မိမိနေရာ ဘုံနန်းပြာသာဒ်အထက် ကောင်းကင်၌ ရပ်တည်ကြလျက် ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးကို မေးမြန်းပြောဆိုနေကြသည့် သာတာဂိရနတ်မင်း, ဟေမဝတနတ်မင်းတို့၏ တရားစကားကို ကြားနာရ၍ "မြတ်စွာဘုရားတို့သည် ဤသို့ အံ့ဖွယ် အထူး ဂုဏ်ကျေးဇူးတို့နှင့် ပြည့်စုံတော်မူပါပေစွတကား"ဟု နှစ်သက်မှု ပီတိကို ပွားများစေလျက် နီဝရဏ ပယ်ခွါကာ ဝိပဿနာကမ္မဋ္ဌာန်း စီးဖြန်းလျှင်ပင် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။ ဗုဒ္ဓဘုရားရှင်ကို မဖူးမတွေ့ရဘဲ ကာဠီအမျိုးသမီးသည် သောတာပန်အရိယာသာဝိကာထဲတွင် အကြီးဆုံး အစ်မကြီးသဖွယ် ဖြစ်လေသည်။

# (ဂ) ရဟန်းယောကျ်ား အရိယာများ

## ၁။ အရှင်ကောဏ္ဍည

အရှင်ကောဏ္ဍညသည် ကပိလဝတ်ပြည်၏အနီး "ဒေါဏဝတ္ထုပုဏ္ဏားရွာသား" ဗြာဟ္မဏမျိုး ဖြစ်၏။ အရှင်ကောဏ္ဍညမထေရ်မြတ်၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ဖြစ်၏-

ကောဏ္ဍညသည် ဗေဒင်သုံးပုံတတ်ကျွမ်း၍ မဟာပုရိသ လက္ခဏာတော်ကျမ်း၌ တစ်ဖက်ကမ်းရောက် တတ်မြောက်၏၊ ဘုရားအလောင်းတော်၏ မဟာပုရိသ လက္ခဏာတော်ကြီး အလုံးစုံတို့နှင့် ပြည့်စုံတော်မူပုံကို သေချာစွာ ကြည့်ရှု၍ "ဤအလောင်းမင်းသားမှာ ကေန်ပင် ဘုရားစစ်စစ် ဖြစ်လိမ့်မည်"ဟု တစ်ချောင်းသော လက်ညှိုးကို မြှောက်ချီ၍ ရဲရဲတောက် ဟောဆိုလေ၏။

ဘုရားလောင်း တောထွက် ရဟန်းပြုပြီ ဟူသော သတင်းကို ကြားသိရလေလျှင် ထိုယောက်ျားမြတ်နောက် အပူလိုက်၍ ရဟန်းပြုကြစို့ဟု ပြောကာ ကောဏ္ဍညပုဏ္ဏားသည် အခြားသောပုဏ္ဏားတို့၏ သားလေးယောက်နှင့်အတူ ရဟန်းပြုလေ၏။ ဉရုဝေလတော၌ ပဉ္စဝဂ္ဂီငါးဦးတို့သည် မြတ်ဗုဒ္ဓလောင်းလျာအား ဘုရားဖြစ်တော့မည်ဟု မျှော်လင့်ချက်ကြီးဖြင့် ခြောက်နှစ်တာ ကာလပတ်လုံး အနီးထံပါး၌ အလုပ်အကျွေးပြုနေကြကုန်၏။

မြတ်ဗုဒ္ဓလောင်းလျာသည် ဘုရားဖြစ်တော်မူပြီးနောက် မိဂဒါဝုန်တောသို့ ကြွတော်မူကာ ပဉ္စဝဂ္ဂီငါးဦးတို့အား ဓမ္မစကြာတရားကို ဟောကြားတော်မူ၏။ အရှင်ကောဏ္ဍညနှင့် မဟာဗြဟ္မာပေါင်း တစ်ဆယ့်ရှစ်ကုဋေတို့ သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်ကုန်၏။

ဗုဒ္ဓမြတ်စွာသည် “အညာသိ ဝတ ဘော ကောဏ္ဍညော၊ အညာသိ ဝတ ဘော ကောဏ္ဍညော-အို....ကောဏ္ဍညသည် သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိမြင်လေပြီတကား၊ အို.... ကောဏ္ဍညသည် သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိမြင်လေပြီတကား”ဟု ဥဒါန်းကျူးရင့်၍ အညာသိကောဏ္ဍည ဟု အမည်တွင်စေလေသည်။

အရှင်ကောဏ္ဍညသည် မဟာသက္ကရာဇ် ၁၀၃ ခုနှစ်၊ ဝါဆိုလပြည့်နေ့တွင် သောတာပန် အရိယာဖြစ်ပြီး ဝါဆိုလပြည့်ကျော် (၅)ရက်နေ့တွင် အနတ္တလက္ခဏသုတ္တန် ဒေသနာအဆုံး၌ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်၍ ရဟန္တာ ဖြစ်တော်မူလေသည်။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန် ကျောင်းတော်ဝယ် “ရဟန်းတို့- ညဥ့်အပိုင်းအခြားကို သိကြသည့် ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် အညာသိကောဏ္ဍညသည် အသာဆုံး အမြတ်ဆုံး”ဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူပါသည်။

ရတ္တညူဟူသည် ရဟန်းပြုချိန်မှ စ၍ ရှည်မြင့်စွာသော ညဥ့်အပိုင်းအခြားကို သိသောသူ ဖြစ်သည် (ရဟန်းသိက္ခာ ဝါအကြီးဆုံး ပုဂ္ဂိုလ် ဟူလို)။ အစောဆုံး သစ္စာလေးပါးတရားကို သိသူဟုလည်း ဆိုသေး၏။

အရှင်ကောဏ္ဍညသည် အဂ္ဂသာဝကနှစ်ပါးအား ချမ်းသာစွာ နေနိုင်ရန်နှင့် မိမိ၏တူ အရှင်ပုဏ္ဏကို ဘုရား၏ အန္တေဝါသိက=အနီးနေတပည့် ဖြစ်စေပြီးလျှင် မိမိမှာ ဖလသမာပတ်ဖြင့် ချမ်းသာစွာ နေမှုကိုသာ အလေးဂရုပြု၍ မြတ်ဗုဒ္ဓကို

ခွင့်ပန်ကာ ဆဒ္ဒန်အိုင်အနီး မဏ္ဍာကိနီရေကန် ဆိပ်ကမ်းသို့ ကြွတော်မူလေ၏။ ဆင်အပေါင်းတို့၏ လုပ်ကျွေးမှုကို ခံယူကာ ဖလသမာပတ်ဖြင့် နေတော်မူ၏။

မထေရ်မြတ်သည် ရံခါ ရံခါ နတ်သားတို့ ဗိမာန်သို့ ကြွ၍ နို့ဃနာဆွမ်းကို ခံယူလေ၏။ (၁၂)နှစ်ကြာသည့်တိုင်အောင် မဏ္ဍာကိနီရေကန်အနီး၌ သီတင်းသုံး နေတော်မူ၏။ ပရိနိဗ္ဗာန် ပြုချိန်နီးမှ မြတ်ဗုဒ္ဓထံ ကြွရောက် ခွင့်ပန်၍ တန်ခိုးပြာဋိဟာ အမျိုးမျိုးကို ပြသကာ မဏ္ဍာကိနီရေကန်အနီးသို့ ပြန်ကာ ပရိနိဗ္ဗာန်ပြုတော်မူ၏။ တေဇောဓာတ်လောင်ပြီးသောအခါ ရေစစ်နှင့် အပြည့်ရှိ မုလေးပန်းငုံအဆင်းရှိသည့် ဖြူဖွေးသော အရှင်မြတ်၏ ဓာတ်တော်များကို မြတ်စွာဘုရားသည် ဝေဠုဝန်ကျောင်းတိုက် မုခ်အနီး မြေကြီး၌ လက်တော် ဆန့်တန်းစဉ်ခဏမှာပင် ငွေရေပွက်သဏ္ဍာန် စေတီတော် ပေါ်ထွက်လာပြီး ဗုဒ္ဓမြတ်စွာကိုယ်တော်၏ လက်တော်ဖြင့် ထိုစေတီတော်၌ အရှင်ကောဏ္ဍည၏ ဓာတ်တော်များကို ဌာပနာတော်မူလေသည်။

## ၂-၃။ အဂ္ဂသာဝကမထေရ်နှစ်ပါး

အရှင်သာရိပုတ္တရာသည် ရာဇဂြိုဟ်ပြည်၏အနီး ဥပတိဿမည်သော ရွာ၌ ရူပသာရီအမည်ရှိသော ပုဏ္ဏေးမ၏ သားဖြစ်၏၊ ဥပတိဿ အမည်တွင်လေ၏။

အရှင်မဟာမောဂ္ဂလာန်သည် ရာဇဂြိုဟ်ပြည်၏အနီး ကောလိတရွာ၌ မောဂ္ဂလိ ပုဏ္ဏေးမ၏ သားဖြစ်၍ ကောလိတ အမည်တွင်၏။ ဥပတိဿနှင့် ကောလိတ တို့သည် ချစ်ခင်ရင်းနှီးကြသည့် သူငယ်ချင်းများ ဖြစ်ကြ၏။ အဂ္ဂသာဝကနှစ်ပါး တို့၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

တနေ့တွင် သူငယ်ချင်းနှစ်ဦးတို့သည် တောင်ထိပ်ပွဲသဘင်ကို သွားရောက် ကြည့်ရှု၏။ သူငယ်ချင်း နှစ်ဦးလုံးပင် "ဤပွဲသဘင်၌ ရှုချင်စဖွယ် အဘယ်မှာ ရှိအံ့နည်း၊ ဤယခု ပွဲကသောသူ ပွဲကြည့်သောသူ အားလုံးတို့သည်ပင် အနှစ်တစ်ရာသို့ မရောက်မီ ချုပ်ဆုံး ကွယ်ပျောက်ကြလိမ့်မည် ဧကန်သာတည်း။ ငါတို့သည် သံသရာမှ လွတ်မြောက်ရေး တစ်ခုခုကို ရအောင်ရှာမှ သင့်လျော် တော့မည်။

သံသရာမှ လွတ်မြောက်ရေးအတွက် ဆရာရှာပြီး ရဟန်းပြုမှ သင့်မည်ဟု နှီးနှော ပြောဆို တိုင်ပင်လေ၏။

သိဉ္စည်းဆရာကြီးနှင့် တွေ့ကာ အခြံအရံ ငါးရာနှင့်အတူ ရဟန်းပြုကြ၏။ နှစ်ရက် သုံးရက်နှင့်ပင် ဆရာကြီး၏ အယူဝါဒအားလုံးကို တတ်မြောက်၏။

ထို့ကြောင့် ဆရာကြီးအထံ၌ ငါတို့ရှာသော သံသရာမှ လွတ်မြောက်ရေးတရားကို အဘယ်နည်းနှင့်မျှ ရနိုင်မည်မဟုတ်၊ သို့သော် ဇမ္ဗူဒိပ်ကျွန်းကြီးမှာမတော့ ဆရာ တစ်ဆူဆူ ရှိပေလိမ့်မည်ဟု တိုင်ပင်ကြ၏။ ထိုအခါမှ စ၍ ပညာရှိ ရဟန်း ပုဏ္ဏားတို့ ရှိရာသို့ ချဉ်းကပ်၍ သံသရာမှ လွတ်ရာတရားကို ရှာရာ ဇမ္ဗူဒိပ် တစ်ကျွန်းလုံးတွင် ဆရာတင်လောက်သော ပုဂ္ဂိုလ် မတွေ့သဖြင့် မိမိပရိဗိုဇ်အာရာမ်သို့ ပြန်၍ "ငါတို့နှစ်ဦးတွင် အမြိုက်တရားကို ရှေးဦးစွာ ရရှိသိမြင်သူသည် ကျန်တစ်ဦးအား ပြန်ပြောကြစတမ်း"ဟု ကတိကဝတ်ထားပြီး တစ်ဦးစီ သွားကြကုန်၏။

ဥပတိဿသည် အရှင်အဿဇိရဟန္တာနှင့် ရာဇဂြိုဟ်တွင် တွေ့ပြီး "ယေ ဓမ္မာ ဟေတုပ္ပဘဝါ" စသော ဂါထာကို ကြားနာရ၍ သောတာပတ္တိဖိုလ်၌ တည်၏၊ သောတာပန်အရိယာဖြစ်လေသည်။ ကောလိတပရိဗိုဇ်သည်လည်း ဥပတိဿ ထံမှ ထိုဂါထာကို တစ်ဆင့်ကြားနာရ၍ သောတာပန်အရိယာ ဖြစ်ပြန်လေ၏။ ထို့နောက် သူငယ်ချင်းနှစ်ဦးတို့သည် ဗုဒ္ဓမြတ်စွာအထံတော်၌ တပည့်ပရိဗိုဇ် ပရိသတ်နှင့်အတူ ဧဟိဘိက္ခု ရဟန်းဖြစ်ကြလေသည်။ အဂ္ဂသာဝကပါရမီဉာဏ်၏ အလွန် ကြီးကျယ် မြင့်မြတ်သောကြောင့် အရှင်မဟာမောဂ္ဂလာန်မှာ ရဟန်းဖြစ် ပြီးသည်မှ ခုနစ်ရက်မြောက်သော နေ့၌ ရဟန္တာဖြစ်တော်မူ၏။ အရှင်သာရိပုတ္တရာမှာ ရဟန်းပြုပြီးနောက် ၁၅-ရက်ကြာမှ တပို့တွဲလပြည့်နေ့၌ ရဟန္တာဖြစ်တော်မူ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ "ရဟန်းတို့-ဉာဏ်ပညာကြီးကြ သည့် ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် သာရိပုတ္တရာသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေသည်။ ရှင်မောဂ္ဂလာန် အားလည်း တန်ခိုးကြီးသောအရာ၌ ဧတဒဂ်ထား၏။ ထို့ပြင် ပါရမီတော်အလိုက် ရှင်သာရိပုတ္တရာအား မြတ်စွာဘုရား၏ လက်ယာတော်ရံ၊ ရှင်မဟာမောဂ္ဂလာန်အား လက်ဝဲတော်ရံ ထားတော်မူ၏။

ဤမထေရ်မြတ် နှစ်ပါးတို့သည် (၄၄)ဝါ ကာလပတ်လုံး သတ္တလောက အကျိုးငှာ ကျင့်တော်မူကြ၏။ ထိုမထေရ်မြတ်တို့ ဟောကြားတော်မူအပ်သော တရားတော်တို့မှာ ပိဋကတ်တော်၌ များလှ၏၊ အထူးအားဖြင့် ပဋိသမ္ဘိဒါမဂ္ဂ ပါဠိတော်, မဟာနိဒ္ဒေသပါဠိတော်, စူဠနိဒ္ဒေသပါဠိတော်တို့မှာ အရှင်သာရိပုတ္တရာ ဟောအပ်သော ဓမ္မရတနာတို့ပါတည်း။ ထေရဂါထာတို့သည် အရှင်နှစ်ပါး၏ တရားဟောင်းလေးအိုးကြီးတို့ပါပေတည်း။

## ရှင်သာရိပုတ္တရာ

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် တရားစစ်သူကြီး အရှင်သာရိပုတ္တရာသည် မြတ်ဗုဒ္ဓအား အာရုံပြု၍ မိမိနေသည့် အရပ်၌ အရဟတ္တဖလသမာပတ် ဝင်စား၏၊ ထိုမှ ထသောအခါ ငါ၏ အာယုသင်္ခါရတို့သည် (၇)ရက်သာလျှင် ဖြစ်လိမ့်မည်ကို သိ၍ ပရိနိဗ္ဗာန်ဝင်စံရန် အရပ်ဒေသကို စဉ်းစားပြန်၏။ မယ်တော်ရူပသာရီပုဏ္ဏေးမ၏ ဥပနိဿယကို ဆင်ခြင်တော်မူပြီး "ငါ၏ မယ်တော်သည် ငါ၏ တရားဒေသနာတော်ဖြင့် သစ္စာလေးပါး တရားကို သိမြင် ကျွတ်ကမ်းဝင်လိမ့်မည်။ ငါသည် မယ်တော်ကို ကြောင့်ကြစိုက်မှု မပြုခဲ့ဘဲ လျစ်လျူမရှုသင့်။ မထေရ်မြတ်၌ သဒ္ဓါကြည်ညို ကြသော အမျိုးအိမ် (၈)သောင်း အရေအတွက် ရှိကုန်၏။ ထိုဒကာအချို့တို့က အရှင်မြတ်သည် မိစ္ဆာဒိဋ္ဌိမယ်တော်၏ အယူဝါဒမျှကိုပင် မပယ်ဖျောက်နိုင်ဟု အပြစ်တင်ကြလိမ့်မည်။ ထို့ကြောင့် မယ်တော်၏ အယူမှားကို ချေချွတ်ပယ်ဖျောက် ပေးလျက် ဖွားရာတိုက်ခန်း၌ပင် ပရိနိဗ္ဗာန်စံပေအံ့ဟု ဆုံးဖြတ်၏။

အရှင်သာရိပုတ္တရာသည် မိမိအာဝါသကို နောက်ဆုံး ကြည့်တော်မူ၍ မြတ်ဗုဒ္ဓ၏ ထံတော်သွားပြီး ပရိနိဗ္ဗာန်စံရန် အာယုသင်္ခါရကို လွှတ်အပ်ပြီးပြီဟု လျှောက်ထား၏။ မြတ်စွာဘုရား- မဂဓတိုင်း နာလကရွာ တပည့်တော်၏ မွေးရာတိုက်ခန်း၌ တပည့်တော် ပရိနိဗ္ဗာန်စံပါမည်ဟု လျှောက်သော် "ချစ်သား သာရိပုတ္တရာ-ယခုအခါ သင်သည်ပင် မိမိပရိနိဗ္ဗာန်စံရာ ကာလကို သိပေ၏။ မိမိ၏ နောင်တော် ညီတော်တို့အတွက် တရားဟောဦးလော့"ဟု ခိုင်းလေ၏။ အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် ကောင်းကင်သို့ ထန်း (၇)ဆင့် ပမာဏတိုင်အောင် တက်ချီသက်ချီပြု၍ တန်ခိုးပြာဋိဟာပြကာ တရားဟော၏။

မြတ်စွာဘုရား- တပည့်တော်သည် အရှင်ဘုရား၏ ဤခြေတော်အစုံတို့ကို ဖူးမြော်နိုင်ရန် တစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်းကြာအောင် ပါရမီဖြည့်အပ်ခဲ့ပါပြီ၊ တပည့်တော်၏ နှလုံးသည် ယခုအခါ အထွတ်အထိပ်ရောက် အောင်မြင်ခဲ့ပါပြီ စသည်ဖြင့် ပရိနိဗ္ဗာန် ဝင်စံတော့မည့် အကြောင်း လျှောက်ကြားလေ၏။ မြတ်ဗုဒ္ဓကလည်း အရှင်သာရိပုတ္တရာအား ယခုအခါ မိမိ သွားသင့်ရာ ကာလကို သိဖို့ရန်မှာ သင်ချစ်သား၏ အလိုအတိုင်း ဖြစ်ပေ၏ဟု မိန့်ကြားတော်မူ၏။ ထိုအခါ မဟာပထဝီမြေကြီးသည် ရေအဆုံးတိုင်အောင် ပြင်းစွာ တုန်လှုပ်လေ၏။ ကောင်းကင်၌လည်း သည်းထန်စွာ မိုးကြိုးထစ်ချုန်းလေ၏။ ပေါက္ခရဝဿမိုး ဖြိုးဖြိုးရွာသွန်းလေ၏။

အရှင်သာရိပုတ္တရာသည် ဝိုကြွေးမည်တမ်းကြသော ဒါယကာ ဒါယိကာမ အပေါင်းတို့အား ရုပ်နာမ်ဓမ္မ သင်္ခါရတို့မည်သည် ဤသို့ ဖြစ်လေ့ရှိကုန်၏။ ဖြစ်ပြီးလျှင် စုတိပြတ်ကြွေ သေခြင်းလျှင် အဆုံးရှိကုန်၏ဟု အပ္ပမာဒတရား လက်ကိုင်ထားကြဖို့ ဩဝါဒပေး ဆုံးမတော်မူ၏။

ဇာတိရွာသို့ ကြွသွားရာတွင် ရွာတံခါး၌ တူတော်မောင် ဥပရေဝတနှင့် တွေ့၍ တူတော်မောင်အား မယ်တော်ကြီးထံ သွားစေ၍ နောက်ပါ သံဃာတို့အတွက် နေရာထိုင်ခင်းနှင့်တကွ မိမိမွေးဖွားရာ တိုက်ခန်းကို သန့်ရှင်းစွာ သုတ်သင်ပြင်ဆင်ထားဖို့ မှာကြားလွှတ်လိုက်၏။

မထေရ်မြတ်ကြီးသည် မိမိဖွားရာ တိုက်ခန်းသို့ ရောက်ပြီး ကိုယ်ခန္ဓာမှာ ပြင်းထန်ကြမ်းတမ်းသော အနာရောဂါ ဖြစ်ပွားလေ၏။ မယ်တော်ကြီးမှာ သားတော်ကြီး၏ ဖြစ်အင်ကို မနှစ်သက်နိုင်ရှာဘဲ တိုက်ခန်းဟံခါးဝကို မှီ၍ ရပ်တည်နေလေ၏။

စတုမဟာရာဇ် နတ်မင်းကြီး ၄-ဦး၊ ထို့နောက် သိကြားမင်း၊ တဖန် မဟာဗြဟ္မာကြီး အသီးသီးတို့သည် အစဉ်အတိုင်း လာရောက်ကြပြီး အရှင်သာရိပုတ္တရာ အရှင်မြတ်အား သူနာပြုရန် လာရောက်ကြကြောင်း လျှောက်ထားကြလေ၏။ အရှင်မြတ်ကလည်း သူနာပြုရဟန်း ရှိပြီးဖြစ်၍ ပြန်လွှတ်လေ၏။

မယ်တော်ကြီးသည် သားတော်ကြီးထံ ရောက်လာပြီး "ချစ်သား- သင်ချစ်သားထံ ရှေးဦးစွာ ရောက်လာသူကား အဘယ်သူနည်း"ဟု မေးလျှောက်၏။ "ဒါယိကာမကြီး-ပထမ ရောက်လာသူကား စတုမဟာရာဇ် နတ်မင်းကြီးတို့ ဖြစ်သည်"ဟု မိန့်တော်မူလျှင် မယ်တော်ကြီးက "ချစ်သား- သင်ချစ်သားက စတုမဟာရာဇ် နတ်မင်းကြီးတို့ထက် သာလွန် မြင့်မြတ်သလော"ဟု မေး၏။ မထေရ်မြတ်က "ဒါယိကာမကြီး-စတုမဟာရာဇ်နတ်မင်းကြီးတို့မှာ သားတော်တို့၏ အာရာမ်စောင့်များနှင့် တူကြပါသည်။ သားတော်တို့၏ဆရာ မြတ်စွာဘုရား ပဋိသန္ဓေတည်နေသော အချိန်မှ စ၍ သန်လျက်လက်စွဲကြကာ စောင့်ရှောက်မှု ပြုခဲ့ကြပါသည်"ဟု မိန့်တော်မူလျှင် မယ်တော်ကြီးက "နတ်မင်းကြီးပြန်သွားသော အခါ လာရောက်သူကား အဘယ်သူနည်း"ဟု မေးပြန်၏။ မထေရ်မြတ်က "သိကြား နတ်မင်း ဖြစ်သည်"ဟု မိန့်လေလျှင် မယ်တော်ကြီးသည် "သင်ချစ်သားက သိကြား နတ်မင်းထက်လည်း သာလွန် မြင့်မြတ်သလော"ဟု မေးလေ၏။

မထေရ်မြတ်က "သိကြားနတ်မင်းမှာ သပိတ် ပရိက္ခရာ ဘဏ္ဍာကိုင် သာပဒော ယ်ကလေးနှင့် တူပါသည်။ သားတော်တို့၏ ဆရာ မြတ်စွာဘုရား တရား ဟောကြားတော်မူပြီး၍ တာဝတိံသာ နတ်ပြည်မှ လူ့ပြည်သို့ သက်ဆင်း ကြွလာတော်မူသော အခါ သပိတ်သက်န်းကို ယူဆောင်၍ သိကြား နတ်မင်း သက်ဆင်းလိုက်ခဲ့ပါသည်"ဟု မိန့်တော်မူလျှင် မယ်တော်ကြီးက "သိကြားနတ်မင်း ပြန်သွားပြီးနောက် ရောက်လာသူကား အဘယ်သူနည်း"ဟု မေးပြန်လေ၏။ မထေရ်မြတ်က "ဒါယိကာမကြီး- ထိုနောက်ဆုံး ရောက်လာသူမှာ ဒါယိကာမ ကြီး၏ ဘုရားလည်းဖြစ်၊ ဆရာလည်းဖြစ်သည့် မဟာဗြဟ္မာကြီးဆိုသူဖြစ်သည်"ဟု မိန့်လေလျှင် "သင်ချစ်သားက ငါ၏ ဘုရားဖြစ်သူ မဟာဗြဟ္မာကြီးထက်လည်း သာလွန်မြင့်မြတ်သလော"ဟု မေးလေ၏။

မထေရ်မြတ်က "ဟုတ်ပေတယ် ဒါယိကာမကြီး၊ ဤမဟာဗြဟ္မာကြီးတို့ မည်သည် ငါတို့ဆရာ မြတ်စွာဘုရား ဖွားမြင်တော်မူသော နေ့၌ တစ်ယောက်မက မဟာဗြဟ္မာကြီး လေးယောက်တို့လုံးကပင် အလောင်းတော် ယောကျ်ားမြတ်ကို ရွှေဇာကွန်ရက်ဖြင့် ခံလင့်လာကြကုန်ပြီ"ဟု မိန့်ကြားလေ၏။

ထိုအခါ မယ်တော်ကြီး၏ သန္တာန်မှာ "ယခုငါမြင်ရသော အာနုဘော်မှာ ငါ့သားတော်၏ အာနုဘော်သာ ဖြစ်၏။ ငါ့သား၏ ဆရာ မြတ်စွာဘုရား၏ အာနုဘော်တော်ကား ဘယ်လိုများ ဖြစ်လိမ့်မည်နည်း၊ မမှန်းမဆနိုင်အောင် ရှိလေတော့၏တကား"ဟု ဆင်ခြင်လျှင်ပင် မယ်တော်ကြီး၏ တစ်ကိုယ်လုံး၌ ပီတိငါးမျိုးတို့ ပျံ့နှံ့လေတော့၏။ မထေရ်ကြီးက ငါ့မယ်တော်ကြီးအား တရားဟောရန် သင့်လျော်သော အခါဟု သိ၍ "ဒါယိကာမကြီး- ဘာကို စဉ်းစားနေသလဲ"ဟု မေးတော်မူလေ၏။

မယ်တော်ကြီးက "ချစ်သား-ဤယခု ငါမြင်ရသော အာနုဘော်မှာ ငါ့သား တော်၏ အာနုဘော်သာ ဖြစ်သေး၏။ ငါ့သား၏ ဆရာ မြတ်စွာဘုရား၏ အာနုဘော်ကား ဘယ်လိုများဖြစ်လိမ့်မည်နည်း၊ မမှန်းမဆနိုင်အောင် ရှိတော့၏ တကား"ဟု ဤအကြောင်းအရာကို မယ်တော်ကြီး ကြံစည်ဆင်ခြင်၍ နေပါ သည်ဟု လျှောက်ထားလေလျှင် "ဒါယိကာမကြီး- ငါတို့ဆရာ မြတ်စွာဘုရား ဖွားတော်မူသောအခါ, တောထွက်တော်မူသောအခါ, ဘုရားဖြစ်တော်မူသော အခါ, ဓမ္မစကြာတရားဦး ဟောတော်မူသော အခါများ၌ စကြဝဠာပေါင်း တိုက်တစ်သောင်း တုန်လှုပ်ခဲ့လေပြီ၊ သီလဂုဏ်, သမာဓိဂုဏ်, ပညာဂုဏ်, ဝိမုတ္တိဂုဏ်, ဝိမုတ္တိဉာဏဒဿန ကျေးဇူးဂုဏ်တော်အားဖြင့် ငါတို့ဆရာ မြတ်စွာ ဘုရားနှင့် တူသောသူ မည်သည် လောက၌ တစုံတယောက်မျှ မရှိချေ။ ငါတို့

ဆရာ မြတ်စွာဘုရားသည် ဤအကြောင်း ဤအကြောင်းများကြောင့် အရဟံ ဂုဏ်ရှင် သမ္မာသမ္ဗုဒ္ဓဂုဏ်ရှင် ဖြစ်တော်မူ၏ စသဖြင့် မြတ်ဗုဒ္ဓဂုဏ်တော်နှင့် စပ်သော တရားတော်ကို ဟောကြားတော်မူ၏။ ဒေသနာအဆုံးတွင် မယ်တော်ကြီးသည် သောတာပတ္တိဖိုလ်၌ တည်၍ သောတာပန်အရိယာ ဖြစ်လေသည်။ မယ်တော်ကြီးအား မွေးကျေးဇူးကို ဆပ်အပ်လေပြီးနောက် ရဟန်းအပေါင်းကို "ငါ့ရှင်တို့-(၄၄)ဝါပတ်လုံး ငါနှင့် အတူ လှည့်လည် သွားလာ နေထိုင်ကြရသော ငါ့ရှင်တို့ အဖို့ရာ ငါ့အပေါ်၌ မနှစ်သက်ဖွယ် ကာယကံမှု ဝစီကံမှုများရှိခဲ့လျှင် သည်းခံကြပါကုန်လော့"ဟု တောင်းပန်ပြောကြား၏။ ရဟန်းအပေါင်းကလည်း သည်းခံခွင့်လွှတ်ပြီး "အရှင်ဘုရားတို့ကသာ တပည့်တော်တို့အား သည်းခံတော်မူကြပါ" ဟု တောင်းပန်ကန်တော့၏။ ထို့နောက် မထေရ်မြတ်သည် သမာပတ် (၉)ပါးကို ဝင်စားတော်မူ၏။ ထိုစတုတ္ထစျာန်မှ ထ၍ မဟာပထဝီမြေကြီးကို ပဲ့တင်ထပ်စေလျက် အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ခန္ဓပရိနိဗ္ဗာန် ဝင်စံချုပ်ငြိမ်းတော်မူလေ၏။

မယ်တော်ကြီးသည် သားတော်ကြီး၏ ခန္ဓာချုပ်ငြိမ်းမှုကို ဆို၍ ငိုကြွေးပြီးလျှင် ရွှေတုံးရွှေစိုင်တို့ဖြင့် ရွှေပြာသာဒ် ငါးရာ၊ ရွှေမဏ္ဍပ် ငါးရာတို့ကို တည်ဆောက်စေ၏။ သိကြားမင်းကလည်း ဝိသကြုံနတ်သားအား ရွှေပြာသာဒ် ငါးရာနှင့် ရွှေမုခ်ဦး၊ တနန်းမဏ္ဍပ် ငါးရာတို့ကို ဖန်ဆင်းစေ၏။ ဤသို့လျှင် နှစ်ထောင်သော ပြာသာဒ်,မဏ္ဍပ်တို့ဖြင့် သာဓုကီဠနသဘင် ဆင်ယင်ကျင်းပကြကုန်၏။ အမြင့် (၉၉)တောင်ရှိ နံ့သာထင်းပုံပေါ်တွင် မထေရ်မြတ်၏ ဥတုဇရုပ်ကလာပ်ကို တင်၍ စျာပနအမှု ပြုကြကုန်၏။

ညီတော် အရှင်စုန္ဒမထေရ်သည် ဓာတ်တော်မြတ်ကို ရေစစ်နှင့် ထည့်ပြီး ငါ၏ နောင်တော်ကြီး ပရိနိဗ္ဗာန် စံတော်မူကြောင်းကို မြတ်စွာဘုရားအား လျှောက်ထားအံ့ဟု ကြံ၍ ဓာတ်တော်ထည့်ထားသော ရေစစ်နှင့် မထေရ်မြတ်၏ သက်န်းစသော ပရိက္ခရာတို့ကို ယူ၍ သာဝတ္ထိပြည်သို့ ခရီးဆက်ခဲ့၏။

အရှင်စုန္ဒသည် မိမိဥပဇ္ဈာယ်ဆရာ အရှင်အာနန္ဒာကို ချဉ်းကပ်၍ အရှင်အာနန္ဒာနှင့်အတူ မြတ်ဗုဒ္ဓထံသို့ ရောက်လေ၏။ အရှင်အာနန္ဒာက မြတ်စွာဘုရားကို "အရှင်ဘုရား- အရှင်သာရိပုတ္တရာသည် ပရိနိဗ္ဗာန် စံတော်မူပါပြီ၊ ဤသည်ကား အရှင်သာရိပုတ္တရာ၏ သပိတ်သင်္ကန်းပါပယည်း။ ဤသည်ကား ဓာတ်တော်ထည့်ထားသော ရေစစ်ပါတည်း"ဟု လျှောက်ထားပြီးလျှင် ဓာတ်တော်ထည့်ထားသော ရေစစ်ကို မြတ်စွာဘုရားရှင် လက်တော်သို့ ဆက်ကပ်လေ၏။ ဗုဒ္ဓမြတ်စွာသည် ဓာတ်တော်များကို ခံယူတော်မူပြီးလျှင် ရဟန်းတော်တို့အား

မထေရ်မြတ်နှင့် ပတ်သက်၍ "ချစ်သားရဟန်းတို့ ယခုအခါ အရှင်သာရိပုတ္တရာ၏ ခရုသင်း ပွတ်သစ်အတူ ဖြူစင်သော ဓာတ်တော်များ ထင်ရှားကျန်ခဲ့ပြီ၊ ရဟန်းတို့-သာရိပုတ္တရာသည် တစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ခဲ့၏၊ တရားစမ္မကိုလည်း ငါ့နောက်လိုက်ကာ လည်စေ-ဖြစ်စေ-ဟောမြွက်နိုင်သော ပုဂ္ဂိုလ်ဖြစ်၏၊ ငါဘုရားမှ ထောက်သော် နှစ်ခုမြောက်သောနေရာကို ကောင်းစွာ ရရှိထားသူ ဖြစ်၏၊ သာဝကသန္နိပါတကို လှလှကြီး ပြည့်စေသူ ဖြစ်၏၊ ငါဘုရားက လွဲ၍ ဇာတိခေတ် စကြဝဠာတိုက် တစ်သောင်း၌ ပညာအားဖြင့် အတူမရှိသူ ဖြစ်၏၊ ထိုသာရိပုတ္တရာသည် ကြီးသော, ကျယ်ပြန့်သော, ရွှင်သော, လျင်သော, ထက်သော, ကိလေသာကို ဖောက်ထွင်းနိုင်သော ပညာရှိသူဖြစ်၏။ အလိုနည်းသူ, ရောင့်ရဲလွယ်သူ, နိဝရဏတရားတို့မှ ဆိတ်သူ, လူတို့နှင့် ရောနှောခြင်းမှ ကင်းသူ, ထက်သန်သော လုံ့လရှိသူ, အပြစ်ပြ၍ ဆုံးမတတ်သူ, မကောင်းမှုနှင့် မကောင်းမှု ပြုသောသူတို့ကို မျက်နှာမငဲ့ ကဲ့ရဲ့တတ်သူ ဖြစ်၏။

သာရိပုတ္တရာသည်-

(က) ဘဝငါးရာတို့ ပတ်လုံး ကြီးစွာသောစည်းစိမ်တို့ကို ပယ်စွန့်၍ ရဟန်း ပြုခဲ့သူ ဖြစ်၏၊

(ခ) ငါဘုရားသာသနာ၌ မဟာပထဝီမြေကြီးတမျှ သည်းခံသော ပုဂ္ဂိုလ် ဖြစ်၏၊

(ဂ) ဦးချိုကျိုးသော နွားလားပမာ မာန်မာန နည်းလှစွာ၏။ ဒွန်းစဏ္ဍား သားနှင့်အတူ နှိမ့်ချသော စိတ်ရှိသူလည်း ဖြစ်ပေ၏။

ဤသို့ မြတ်စွာဘုရားသည် ဂါထာငါးရာတို့ဖြင့် အရှင်သာရိပုတ္တရာ မထေရ် မြတ်၏ ဂုဏ်ကျေးဇူးကို ချီးကျူးဟောကြားတော်မူ၏။

မြတ်စွာဘုရားသည် မထေရ်မြတ်၏ ဂုဏ်ကျေးဇူးကို ဟောကြားတော် မူသောအခါ အရှင်အာနန္ဒာမှာ တဖျပ်ဖျပ် တုန်လှုပ်လျက် ဆောက်တည်ရာ မရ ဖြစ်ပေ၏။ ဗုဒ္ဓမြတ်စွာသည် အရှင်အာနန္ဒာအား သက်သာတော်မူစေ၍ အရှင်သာရိပုတ္တရာ၏ အရိုးဓာတ်တော်များကို သာဝတ္ထိပြည်တွင် စေတီတည်ထား တော်မူလေ၏။

## ရှင်မောဂ္ဂလာန်

ဗုဒ္ဓမြတ်စွာသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် အရှင်မောဂ္ဂလာန်သည် ဣသိဂိလိတောင်ယံ ကာဠသိလာ မည်သော ကျောက်ဖျာ၌ သီတင်းသုံး နေထိုင်တော်မူ၏။

အရှင်မောဂ္ဂလာန်သည် တန်ခိုးအရာ၌ အထွတ်အထိပ်ရောက်တော်မူသော မထေရ်မြတ်ဖြစ်၍ နတ်ပြည်နှင့် ငရဲပြည်သို့ ဒေသစာရီ ကြွချီတော်မူစဉ် နတ်ပြည်၌ ဗုဒ္ဓမြတ်စွာ၏ တပည့်သာဝကတို့ ကြီးစွာသော စည်းစိမ်ခံစားရပုံ၊ ဥဿဒငရဲ၌ တိတ္ထိတို့၏ တပည့်များ ကြီးစွာသော ဆင်းရဲဒုက္ခခံစားရပုံများကို ကိုယ်တော်တိုင်မြင်တော်မူခဲ့ကာ လူ့ပြည်သို့ ရောက်ရှိသောအခါ ထိုအကြောင်းကို လူအပေါင်းအား ဟောကြားတော်မူ၏။ ထိုအခါ လူတို့သည် သာသနာတော်၌ ကြည်ညိုကြ၍ တိတ္ထိတို့ကို ရှောင်ကြဉ်ကြလေကုန်၏။ မြတ်စွာဘုရားနှင့် တပည့်သာဝကတို့မှာ ကြီးစွာသော ပူဇော်သက္ကာရဖြစ်၍ တိတ္ထိတို့အဖို့ တနေ့တခြား ပူဇော်သက္ကာရမှ လျော့ပါးဆုတ်ယုတ်လာတော့၏။ ထို့ကြောင့် တိတ္ထိတို့သည် အရှင်မြတ်အား ရန်ငြိုးဖွဲ့ကာ သတ်စေကုန်အံ့ဟု တိုင်ပင်ညီညွတ်၍ သမဏဂုတ္တက ခိုးပြဗိုလ်အား အသပြာတစ်ထောင်ပေး၍ ငှားကြလေကုန်၏။

သမဏဂုတ္တက ခိုးပြဗိုလ်သည် လူဆိုးခိုးပြ အခြံအရံနှင့်တကွ ကာဠသိလာ ကျောက်ဖျာရှိရာအရပ်သို့ မထေရ်မြတ်ကို သတ်ရန် သွားလေ၏။ မထေရ်မြတ်သည် တန်ခိုးဖြင့် ကောင်းကင်ပျံတက်၍ တိမ်းရှောင်နေလေ၏။ ဤကဲ့သို့ ခြောက်ရက်တိုင်တိုင် တိမ်းရှောင်ခဲ့လေသည်။

ခုနစ်ရက်မြောက်သော နေ့၌ကား မထေရ်မြတ်အား ရှေးက ပြုမှားခဲ့သော အပရာပရိယ အကုသိုလ်ကံသည် အကျိုးပေးခွင့် ရရှိလေသည်။

မထေရ်မြတ်သည် နုစဉ်ဘဝက မယား၏ ကုန်းချောစကားကိုယုံ၍ မျက်မမြင် မိဘနှစ်ပါးကို သတ်ဖို့ရန် လှည်းဖြင့် တင်ဆောင်၍ တောသို့ ခေါ်ခဲ့ပြီး လူဆိုး ခိုးပြဟန်ပြုလျက် ရိုက်နှက်လေ၏။ မိဘနှစ်ပါးသည် တကယ့်လူဆိုး ခိုးပြတွေ ရိုက်နှက်သည် ထင်မှတ်၍ သားကိုပင် လွတ်ရာသို့ ပြေးဖို့ ငိုကြွေးလျက် ပြောလေ၏။ သားဖြစ်သူသည် "သြော်... ငါ့မိ ငါ့ဘတို့ကား ငါက ရိုက်နှက် ပုတ်ခတ်ပါလျက်လည်း ငါ့အတွက်သာ စိုးရိမ် ငိုကြွေးကြရှာ၏။ ငါကား မသင့်လျော်သောအမှုကို ပြုအပ်ခဲ့ပြီ"ဟု နောင်တ ပူပန်မှု ဖြစ်ရကား လူဆိုး ခိုးပြများ ပြေးသွားကြပြီဟု ဆိုလျက် မိခင် ဖခင်တို့ကို သက်သာရာ ရစေကာ အိမ်သို့ ပြန်၍ ခေါ်ဆောင်ခဲ့၏။

အရှင်မောဂ္ဂလာန်မထေရ်မြတ်သည် မိမိပြုခဲ့သော အကုသိုလ်ကံ ဝဋ်ကြွေး ကြောင့် ခုနစ်ကြိမ်မြောက်၌ တန်ခိုးဖြင့် ဖဲသွားမှု မပြုနိုင်တော့ချေ။

သမဏဂုတ္တကနှင့်အဖွဲ့သည် မထေရ်မြတ်၏ အရိုးတို့ကို ဆန်ကျိုး ဆန်ကွဲမျှ ဖြစ်အောင် ထုနှက်ကြ၍ "သေပြီ"ဟု မှတ်ထင်ကာ ချုံပုတ်တစ်ခုပေါ်၌ ပစ်တင် ခဲ့၍ ဖဲသွားကြလေ၏။ မထေရ်မြတ် သတိရသောအခါ မိမိကိုယ်ကို တန်ခိုးဖြင့်

ပြန်လည်ဆောက်တည်ပြီး မြတ်စွာဘုရားအား ခွင့်ပန်ပြီးမှ ပရိနိဗ္ဗာန်ပြုရန် ကောင်းကင်ခရီးဖြင့် မြတ်ဗုဒ္ဓထံသို့ သွားရောက်ပြီးလျှင် ပရိနိဗ္ဗာန်ပြုရန် ခွင့်ပန်လျှောက်ထား၏။ မြတ်စွာဘုရားက "ထိုသို့ ဖြစ်လျှင် တရားဟောပြီးမှ သွားလော့၊ ယခုအခါ သင်ချစ်သားကဲ့သို့ တပည့်သာဝက နောက်တစ်ကြိမ် တွေ့မြင်နိုင်ခွင့် မရှိတော့ပြီ"ဟု မိန့်တော်မူ၏။ မထေရ်မြတ်သည် ကောင်းကင်ယံသို့ တက်ကာ တန်ခိုးပြာဋိဟာ အမျိုးမျိုးပြသပြီး တရားဓမ္မကိုလည်း ဟောကာ ကာဠသိလာ ကျောက်ဖျာရှိရာ တောအုပ်သို့ ကြွတော်မူ၍ ပရိနိဗ္ဗာန် ဝင်စံတော်မူ၏။

နတ်ပြည် (၆)ထပ်လုံး အုတ်အုတ်ကျက်ကျက် ဖြစ်၍ နတ်ပြဟ္မာတို့သည် နံ့သာပန်း အထုံအခိုး စန္ဒကူးအမှုန့်တို့ကိုလည်းကောင်း၊ အထူးထူးသော နံ့သာထင်းတို့ကိုလည်းကောင်း ယူဆောင်၍ စုပုံလိုက်သောအခါ စန္ဒကူး နတ်ထင်းပုံတို့သည် (၉၉)တောင် အမြင့်ရှိလေသည်။ ဗုဒ္ဓမြတ်စွာသည် ကိုယ်တော်တိုင် ကြွချီ၍ မထေရ်မြတ်၏ ဥတုဇရုပ်ကလာပ်အနီး၌ ရပ်၍ စီမံကာ သင်္ဂြိုဟ်မှုကို ပြုစေတော်မူ၏။ သာဓုကီဠနသဘင်ဝယ် တစ်ယူဇနာမျှသော အရပ်၌ ပန်းမိုးများ ရွာချ၏။ နတ်၊ လူ၊ ဘီလူး၊ ရက္ခနတ်၊ ဂန္ဓဗ္ဗနတ်များ၊ နဂါးများ၊ ဂဠုန်များ၊ ကိန္နရာများ၊ ထီးများ၊ ရွှေစာမရီ ယားမြီးယပ်များ၊ တံခွန်လုံးများ၊ တံခွန်ပြားများ အကြား အကြား၌ တည်ရှိကြလျက် ဆင်ယင်ကျင်းပကြကုန်၏။

မြတ်စွာဘုရားသည် မထေရ်မြတ်၏ ဓာတ်တော်တို့ကို ယူဆောင်တော်မူ၍ ဝေဠုဝန်ကျောင်းတိုက်၏ တံခါးမုခ်အနီး၌ ဓာတုစေတီ တည်ထားတော်မူ၏။

အရှင်မောဂ္ဂလာန်၏ သာဓုကီဠနသဘင် ဈာပနကိစ္စတွင် ဗုဒ္ဓမြတ်စွာ ကိုယ်တော်တိုင် ကြီးစွာသော မြတ်နိုးတနာမှု ပြုလေသည်။

## ၄။ အရှင်မဟာကဿပမထေရ်

မဂဓတိုင်း မဟာတိတ္ထပုဏ္ဏားရွာ ကပိလပုဏ္ဏား သေဋ္ဌေးကြီးနှင့် သေဋ္ဌေးကတော်တို့မှ ပိပ္ပလိကို မွေးဖွား၏။ ပိပ္ပလိ၏ ဇနီးကြင်ရာမှာ ဘဒ္ဒါကာပိလာနီ အမည်ရှိ၏။ အရှင်မဟာကဿပမထေရ်၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

ပိပ္ပလိကို မိဘနှစ်ပါးတို့သည် အရွယ်ရောက်ပြီဖြစ်၍ အိမ်ထောင်ပြုရန် နားချကြ၏။ အမြဲ မပြတ် နားချ ပြောဖန် များသော အခါ ပိပ္ပလိသည် ရွှေစင်ရုပ်တု တစ်ခုကို သွန်းထုစေပြီး အဝတ်တန်ဆာရတနာများ ဆင်မြန်း၍

မိခင်ကြီးအား ပေးလေ၏။ "အို မိခင်–အကျွန်ုပ်သည် ဤရွှေစင်ရုပ်တုကဲ့သို့သော မိန်းမလှကို ရပါလျှင် အိမ်၌ နေမည်၊ မရလျှင် အိမ်ရာတည်ထောင် လူ့ဘောင်၌ နေလိမ့်မည် မဟုတ်ပါ"ဟု ပြော၏။

မိခင်ကြီးသည် ပညာရှိပုဏ္ဏား ရှစ်ယောက်တို့အား ရွှေစင်ရုပ်ကို ပေး၍ မိန်းမမြတ် ရှာစေ၏။ မဒ္ဒတိုင်း သာဂလမြို့တွင် တွေ့လေ၏။ ကောသိယဂေါတ္တပုဏ္ဏားသေဌေးကြီး၏ သမီး ဘဒ္ဒါကာပိလာနီ ဖြစ်၏။ ပုဏ္ဏားတို့သည် ရွှေစင်ရုပ်ကို ပေးအပ်ကာ ပိပ္ပလိ၏ မိခင်နှင့် ဖခင် ကပိလသေဌေးထံ သတင်းပြန်ကြားကြကုန်၏။ ပိပ္ပလိနှင့် ဘဒ္ဒါကာပိလာနီတို့သည် မိမိတို့၏ ဆန္ဒ သဝဏ်လွှာများကို ပို့ဆက်ကြ၏။ သဝဏ်လွှာတွင် အခြား တစ်ယောက်ကို ရှာယူဖို့၊ ရဟန်းပြုပြီး တောထွက်မည့်သူ ဖြစ်၍ နောင်မှ နှလုံးမသာမယာ မဖြစ်စေချင် စသည်ဖြင့် အသီးသီး ရေးကြသော်လည်း တပို့လုလင် ကျေးကျွန်တို့သည် လမ်းတွင် ဖွင့်ပစ်ပြီး နှစ်သက်သဘောတူညီဝမ်းမြောက်သည့် အဓိပ္ပါယ်ပါရှိသော သဝဏ်လွှာရေးသား၍ သတို့သား သတို့သမီးတို့ထံ ပို့ကြလေ၏။ မိဘနှစ်ပါးနှင့် ကြားလူတို့၏ ဆောင်ရွက်မှုကြောင့် ထိမ်းမြားခြင်းသို့ ရောက်ကုန်၏။ သို့သော် သတို့သားသတို့သမီးတို့သည် မောင်နှမအရင်းကဲ့သို့ နေထိုင်ပြုမူကြ၏။ ပန်းကုံး နှစ်ကုံးကို အလယ်က ထား၍ ရာဂစိတ်ဖြစ်သူဘက်မှ ပန်းကုံးသည် ညှိုးစတမ်းဟု ကတိထားကာ အိပ်ကြ၏။ ပန်းကုံးတို့သည် မညှိုးနွမ်းကြချေ။

သေဌေးသားသည် မိဘနှစ်ပါးကွယ်လွန်သောအခါ စီးပွားရေးကို လုပ်ကိုင်ကြပ်မတ်စီမံလေ၏။ ပိပ္ပလိ၏ စည်းစိမ်ကား များပြားလှ၏။ တစ်နေ့တစ်နေ့လျှင် ကိုယ်ကို ပွတ်တိုက်၍ စွန့်ပစ်အပ်သော ရွှေမှုန့်သည်ပင် ခြောက်ပြည်သားခန့်ရှိ၏။ ယန္တရား တပ်ဆင်ထားသော တစ်ဖက်ဆည်ကန်များ၊ ၁၂–ယူဇနာကျယ်ဝန်းသော မြေယာများ၊ ဆင်တပ်၊ မြင်းတပ်၊ ရထားတပ်များ အများအပြားရှိ၏။

တနေ့တွင် ပိပ္ပလိသည် လယ်ယာထွန်းယက်ရာသို့ သွားကြည့်စဉ် ကျီး ငှက်တို့က ထွန်ယက်ရာ မြေမှ တီကောင် စသော ပိုးမွှားများကို စားသောက် ဖျက်ဆီးကြသည်ကို မြင်၍ မေးမြန်းရာ ကျေးကျွန်များက "အရှင်သေဌေးမင်းတို့အတွက် လယ်ထွန်ကြခြင်း ဖြစ်၍ ထိုမကောင်းမှု အကုသိုလ်ကံသည် အရှင်သေဌေးမင်းတို့၏ အကုသိုလ်ကံဖြစ်ပါ၏"ဟု ဖြေကြားလျှင် ငါ့အဖို့ရာ ရွှေငွေ ဥစ္စာ မြေယာတို့သည် အဘယ်အကျိုးရှိပါအံ့နည်း၊ အကျိုးမရှိသည်သာ၊ ငါ၏ အလုံးစုံသော ဥစ္စာကို သေဌေးကတော်အား အပ်နှင်း၍ တောထွက် ရဟန်းပြုတော့အံ့ဟု စဉ်းစားမိ၏။

ဘဒ္ဒါကာပိလာနီလည်း နှမ်းများနေလှမ်းစဉ် ကျီးငှက်တို့သည် နှမ်းပိုးများကို စားကြကုန်၏။ "အမိတို့-ထိုသို့ ကျီးငှက်တို့ နှမ်းပိုးတို့ကို စားသောက်ကြသော မကောင်းမှုသည် အဘယ်သူ၏ မကောင်းမှု အကုသိုလ် ဖြစ်သနည်း" ဟု မေးရာ "အရှင်မတို့အတွက် လုပ်ဆောင်ရခြင်း ဖြစ်သောကြောင့် ထိုမကောင်းမှု အကုသိုလ်ကံသည် အရှင်မတို့၏ မကောင်းမှု အကုသိုလ်ကံ"ဟု ဖြေကြားလေလျှင် "အကယ်၍များ ဖြစ်ခဲ့သော် ငါသည် ကေန်ပင် ဘဝပေါင်း အထောင်ဖြင့်လည်း သံသရာဝဋ်ဒုက္ခမှ ထွက်နိုင်တော့မည် မဟုတ်ချေ" ဟု စဉ်းစားပြီး အရှင့်သားအား အလုံးစုံသော စည်းစိမ်ကို အပ်၍ တောထွက် ရဟန်းမ ပြုမည်ဟု ဆင်ခြင်မိ၏။ ဤကဲ့သို့ ပါရမီရှင်နှစ်ဦးတို့သည် အပြန်အလှန် ပြောဆိုတိုင်ပင်ကြပြီး ရဟန်းအသွင် ဝတ်ဆင်ကြလျက် တောထွက်ကြလေ၏။

ပိပ္ပလိ မထေရ်မြတ်သည် ရှေ့မှ ကြွ၏၊ ဘဒ္ဒါကာပိလာနီသည် နောက်မှ လိုက်၏။ တစ်ဦးတစ်ယောက်သောသူက ဤသို့ နေထိုင်ခြင်းသည် ရဟန်းတို့နှင့် မသင့်လျော်ဟု အကြံမှားမည်ဆိုက မှားနိုင်ချေ၏၊ စိတ်ပြစ်မှားချေက အပါယ်သို့ ရောက်နိုင်လေရာ၏။ ထို့ကြောင့် ငါသည် ဘဒ္ဒါကာပိလာနီကို စွန့်ခွာ၍ သွားအံ့ဟု ကြံစည်၍ လမ်းနှစ်မွှာ၏ အလယ်တွင်ရပ်၍ ဘဒ္ဒါကာပိလာနီအား လက်ဝဲလမ်းမှ ဖဲသွားစေ၏။ ပိပ္ပလိမထေရ်သည် လက်ယာလမ်းဖြင့် ဖဲခဲ့၏။ ထိုအခါတွင် မဟာပထဝီမြေကြီးသည် ပွဲတင်သံမည်ဟီးလျက် တုန်လှုပ်၏၊ မိုးကြိုး ထစ်ချုန်း၏၊ စကြဝဠာတောင် မြင်းမိုရ်တောင်တို့သည် အထက်သို့ မြင့်၍ မြင့်၍ တက်လေ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်တွင် သီတင်းသုံးနေတော်မူစဉ် မြေကြီးတုန်လှုပ်ခြင်းအကြောင်းကို ဆင်ခြင်ကြည့်သော် ပိပ္ပလိတို့၏ ဂုဏ်ကျေးဇူးကြောင့် တုန်လှုပ်သည်ကို သိတော်မူ၍ ချီးမြှောက်တော်မူရန် ကိုယ်တော် တစ်ပါးတည်းသာ ရာဇဂြိုဟ်နှင့် နာလန္ဒမြို့၏အကြား ဗဟုပုတ္တပညောင်ပင်ရင်းသို့ ကြွတော်မူ၍ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူ၏။ အရှင်မဟာကဿပ၏ သဒ္ဓါ တရား တိုးပွားစေရန် လက္ခဏာတော် ကြီးငယ်တို့ဖြင့် ပကတိဘုရား အသရေတော်တို့ကို မဖုံးမကွယ်ဘဲ အတောင်ရှစ်ဆယ်အရပ်တိုင်အောင် ထွန်းပြောင် တောက်ပသည့် ဘုရားရောင်ခြည်တော်တို့ကို လွှတ်တော်မူကာ ထိုင်နေတော်မူ၏။ မြတ်စွာဘုရား၏ ရောင်ခြည်တော်ကြောင့် ဗဟုပုတ္တပညောင်ပင်ကြီးသည် ရွှေရောင်အဆင်း ဝါဝင်းထိန်ဝေ၍သာ နေလေတော့သည်။

အရှင်မဟာကဿပသည် မြတ်စွာဘုရားကို မြင်ရာအရပ်မှ စ၍ မိမိကိုယ်ကို ညွတ်လျက် အဝေး, မနီးမဝေး, အနီးအရပ်တို့မှ ဗုဒ္ဓမြတ်စွာအား ရှိသေစွာ ရှိခိုးပြီးလျှင် "သတ္ထာ မေ ဘန္တေ ဘဂဝါ၊ သာဝကောဟမသ္မိ= မြတ်စွာဘုရား- ဘုန်းတော်ကြီးတော်မူသော မြတ်စွာဘုရားသည် အကျွန်ုပ်၏ဆရာ ဖြစ်တော်မူပါပေ၏။ အကျွန်ုပ်သည် တပည့်သာဝက ဖြစ်ပါ၏"ဟု သုံးကြိမ်တိုင် နှုတ်မြွက်၍ တပည့်အဖြစ်ကို ခံယူလေ၏။ ဤကဲ့သို့ အရှင်မဟာကဿပ၏ ရှိသေမှုတို့သည် မြတ်ဗုဒ္ဓသာလျှင် အရိုအသေခံနိုင်ပေ၏။ မွေးညင်းတစ်ပင်မျှပင် မတုန်လှုပ်ချေ၊ အကယ်၍ မဟာပထဝီမြေကြီးကို အရိုအသေပြုအံ့၊ ဆောင်ထားနိုင်ခြင်းငှာ မစွမ်းနိုင်ရာပေ။

မြတ်စွာဘုရားသည် အရှင်မဟာကဿပအား အမွေပေးတော့အံ့ဟု မိန့်တော်မူပြီး-

(၁) ကဿပ-သင်သည် သီတင်းသုံးဖော်ပုဂ္ဂိုလ်တို့၌ ငါ့အား ထက်စွာ ဟိရီဩတ္တပ္ပတရားကို ရှေးရှုဖြင်သည် ဖြစ်လတ္တံ့ဟု ကျင့်ရမည်။

(၂) ကဿပ-ဤသာသနာတော်၌ သင်သည် ကုသိုလ်နှင့်စပ်သော တရား အားလုံးကို နာအံ့၊ အရိုအသေပြုကာ နှလုံးသွင်း၍ စိတ်ဖြင့် ကောင်းစွာဆောင်၍ နားစိုက်လျက် တရားကို နာအံ့ဟု ကျင့်ရမည်။

(၃) ကဿပ-သင်သည် သုခနှင့်တကွဖြစ်သော ကာယဂတာသတိသည် ငါ့အား မစွန့်လတ္တံ့ဟု ဤသို့ ကျင့်ရမည်ဟု အဆုံးအမ ဩဝါဒကို ပေးတော်မူလေ၏။

ဤအဆုံးအမ ဩဝါဒသည် အရှင်မဟာကဿပအတွက် ရှင်ပြုခြင်း၊ ရဟန်း ခံခြင်း ဖြစ်၏။ ဤသာသနာတော်၌ အရှင်မဟာကဿပမထေရ် တစ်ပါးသာ ရတော်မူ၏၊ ဤရဟန်းခံခြင်းမျိုးကို ဩဝါဒပဋိဂ္ဂဟဏာဥပသမ္ပဒါဟု ခေါ်၏။

အရှင်မဟာကဿပသည် ဗုဒ္ဓမြတ်စွာကဲ့သို့ သုံးဆယ့်နှစ်ပါးသော မဟာ ပုရိသလက္ခဏာတော်တို့နှင့် ပြည့်စုံ၏၊ လမ်းခရီးတွင် ဗုဒ္ဓမြတ်စွာထိုင်တော်မူရန် အလွန်နူးညံ့သော ဒုကုဋ်သင်္ကန်းကို လေးခေါက်ပြုကာ "မြတ်စွာဘုရား- ဤနေရာ၌ ထိုင်တော်မူပါ၊ ထိုသို့ မြတ်စွာဘုရား ထိုင်တော်မူခြင်းသည် အကျွန်ုပ် အဖို့ ရှည်မြင့်စွာသော ကာလပတ်လုံး စီးပွားချမ်းသာအလို့ငှာ ဖြစ်လေရာပါ၏" ဟု လျှောက်ထားလေ၏။ ဗုဒ္ဓမြတ်စွာသည် "ချစ်သား ကဿပ- သင်ချစ်သား၏ ဒုကုဋ်သင်္ကန်းကြီးသည် နူးညံ့လှပါ့တကားဟု ချီးမွမ်းသည်ကို သိ၍ သင်္ကန်းချင်း

လဲတော်မူ၏၊ ဗုဒ္ဓမြတ်စွာ၏ သက်နှန်းကို ဂုဏ်ကျေးဇူးနည်းပါးသော ပုဂ္ဂိုလ်သည် ဝတ်ရုံခြင်းငှာ မစွမ်းနိုင်၊ ပဋိပတ်အကျင့်နှင့် ပြည့်စုံသူ ဇာတိပံ့သကူဆောင် ပုဂ္ဂိုလ်များသာ ခံထိုက်ပေ၏၊ ဤသို့ သင်္ကန်းချင်း လဲတော်မူခြင်းကြောင့် မဟာ ပထဝီမြေကြီးသည် ပြင်းစွာ တုန်လှုပ်လေ၏။

အရှင်မဟာကဿပသည် ဗုဒ္ဓမြတ်စွာထံမှ ဓုတင်အကျင့် ဆယ့်သုံးပါးတို့ကို ကောင်းစွာ ခံယူဆောက်တည်ပြီးလျှင် ရဟန်းတရား ပွားများအားထုတ်လေရာ ခုနစ်ရက်မျှသာ ပုထုဇဉ်အဖြစ် တည်နေ၍ ရှစ်ရက်မြောက် အရုဏ်တက်သော အခါ၌ ပဋိသမ္ဘိဒါ ၄-ပါးတို့နှင့်တကွ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူ၏။

ရဟန်းတို့-ကောင်းမြတ်သော ဓုတင်ပဋိပတ်အကျင့်မြတ်ကို ကိုယ်တိုင်လည်း ကျင့်သုံး၍ သူတစ်ပါးကိုလည်း ဟောကြားပြသ ဆိုဆုံးမကြသော ငါဘုရား၏ တပည့်သား ရဟန်းတို့တွင် မဟာကဿပမထေရ်သည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူ၏။

## ၅။ အရှင်ပိဏ္ဍောလဘာရဒွါဇ

အရှင်ပိဏ္ဍောလသည် ရာဇဂြိုဟ်ပြည်သား ပုဏ္ဏားမျိုးဖြစ်၏။ ဘာရဒွါဇဟု အမည်တွင်၏။ ဘာရဒွါဇသည် ဗေဒင်သုံးပုံကို သင်ကြား တတ်မြောက်၍ ပုဏ္ဏား ငါးရာတို့အား လှည့်လည်ပို့ချလျက် ဆရာတစ်ဆူလုပ်ကာ နေလေ၏၊ ရောက်လေရာ၌ အစာထမင်းကိုသာ တောင့်တမျှော်ခေါ်ကာ လှည့်လည် နေထိုင်တတ်သောကြောင့် ပိဏ္ဍောလဘာရဒွါဇဟု ထင်ရှား၏။ ဘာရဒွါဇ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

တနေ့သ၌ မြတ်စွာဘုရား ရာဇဂြိုဟ်ပြည်သို့ ရောက်တော်မူ၍ တရားဟော ကြားရာ ပိဏ္ဍောလဘာရဒွါဇပုဏ္ဏားသည် တရားနာယူ၍ သဒ္ဓါတရားဖြစ်က ရှင်ရဟန်းပြုလေ၏။ မထေရ်သည် အလွန်ကြီးသော အိုးကင်းသပိတ်ကြီးကိ ဆောင်လျက် ယာဂုကိုလည်း အပြည့်သောက်၏၊ မုန့်တို့ကိုလည်း အပြည စားသုံးလေ၏၊ ဆွမ်းကိုလည်း အပြည့်ဘုဉ်းပေးလေ၏၊ ထို့ကြောင့် ရဟန်းတို့ အစားကြီးကြောင်းကို မြတ်ဗုဒ္ဓအား ကြားလျှောက်ကြကုန်၏။

မထေရ်မြတ်သည် သပိတ်ကို ခုတင်အောက် ထားရာ အသွင်း အထု ပြုဖန် များလာသောအခါ အနားရေးများ ပြတ်ပြီး တစ်ခွက်ချက်ခန့်သ ဆန့်သော သပိတ် ဖြစ်လာတော့သည်။ ထိုအခါ မြတ်စွာဘုရားသည် သပိ အိတ်ကို ခွင့်ပြုလေသည်။

အရှင်ပိဏ္ဍောလဘာရဒွါဇ မထေရ်သည် ဣန္ဒြိယဘာဝနာတရား ပွားများ ကြိုးကုတ် အားထုတ်တော်မူ၍ အရဟတ္တဖိုလ်သို့ ရောက်ရှိကာ ရဟန္တာဖြစ်တော်မူ၏။ မထေရ်မြတ်သည် ရဟန္တာဖြစ်သောအခါ သော့ကို ယူဆောင်၍ ကျောင်းတိုက်တစ်တိုက်မှ တစ်တိုက်သို့ သွား၍ "မဂ်တရား ဖိုလ်တရားတို့၌ သံသယရှိသော ရဟန်းတို့သည် အကျွန်ုပ်ကို မေးစေချင်ပါ၏"ဟု မရွံ့မကြောက် ခြင်္သေ့ဟောက်သကဲ့သို့ ရဲရဲတင်းတင်း ပြောကြား လှည့်လည်လေ၏။

အရှင်မြတ်သည် တနေ့သ၌ ရာဇဂြိုဟ်သေဋ္ဌေး၏ အတောင် ၆၀ မြင့်သော ကောင်းကင်၌ ချိတ်ဆွဲထားသော စန္ဒကူးသပိတ်ကို ယူဆောင်၍ မြတ်ဗုဒ္ဓ၏လက်၌ ထားလေ၏၊ ဗုဒ္ဓမြတ်စွာသည် သိလျက် အဘယ်မှ ရသနည်းဟု မေးမြန်း၏၊ မထေရ်မြတ်က ပြန်ကြားလျှောက်ထားသောအခါ "သင် ချစ်သားကား စျာန် မဂ် ဖိုလ်တရားကို ပြသဘိ၏၊ မပြသင့်သည်ကို ပြဘိ၏"ဟု ကဲ့ရဲ့မှတ်ချ ပြီးနောက် ချီးမွမ်းသင့်သောအရာ၌-

ရဟန်းတို့-ဣန္ဒြေသုံးပါးကို ပွားများခြင်း၊ ကြိမ်ဖန်များစွာ လေ့လာခြင်း ကြောင့် ဘာရဒွါဇသည် "ငါ့မှာ ပဋိသန္ဓေနေရမှု ကုန်ပြီ၊ အကျင့်မြတ်ကို ကျင့်သုံး ပြီးပြီ၊ ပြုဖွယ်ကိစ္စများကို ပြုပြီးပြီဟု ငါသိ၏"ဟူ၍ အရဟတ္တဖိုလ်ကို ပြောကြား၏။ သတိန္ဒြေ၊ သမာဓိန္ဒြေ၊ ပညိန္ဒြေကို ပွားများခြင်း ကြိမ်ဖန်များစွာ လေ့လာ ခြင်းကြောင့် အထက်ပါအတိုင်း အရဟတ္တဖိုလ်ကို ပြောကြား၏။

ဤဣန္ဒြေသုံးပါးတို့သည် ကုန်ခြင်းလျှင် အဆုံးရှိကုန်၏၊ ပဋိသန္ဓေနေမှု၊ အိုမှု၊ သေမှု ကုန်ပြီဟု ကောင်းစွာသိသော ဘာရဒွါဇသည် အထက်ပါအတိုင်း အရဟတ္တဖိုလ်ကို ပြောကြား၏ဟု ချီးမွမ်းတော်မူပါသည်။

မထေရ်မြတ်သည် ကောသမ္ဗီပြည့်ရှင် ဘုရင်ဥဒေနမင်းကို သရဏဂုံတည်သူ ဥပါသကာတစ်ယောက်ဖြစ်အောင် တရားဟောတော်မူခဲ့၏။

ဗုဒ္ဓမြတ်စွာသည် မရွံ့မကြောက် ခြင်္သေ့ဟောက်သကဲ့သို့ ရဲရဲတောက်စကား ပြောကြားသည့် ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် ပိဏ္ဍောလဘာရဒွါဇ ရဟန်းသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူပါသည်။

## ၆။ အရှင်အာနန္ဒာ

အရှင်အာနန္ဒာသည် ကပိလဝတ်နေပြည်တော်တွင် အမိတောဒနသာကီဝင် မင်း၏ သားဖြစ်လေသည်။ ဆွေမျိုးအားလုံးတို့ကို နှစ်သက်အောင် ပြုတတ် သောကြောင့် အာနန္ဒာအမည်တွင်လေ၏။ အရှင်အာနန္ဒာ၏ ထူးခြားသော ကြည်ညိုဖွယ်ရာ ဂုဏ်ရည်များမှာ ဤသို့ ဖြစ်၏-

အာနန္ဒာသည် မြတ်စွာဘုရား ကပိလဝတ်မှ ပြန်ကြွသွားသောအခါ ဘုရား၏ အခြံအရံဖြစ်ရန်အတွက် ဘဒ္ဒိယမင်းသား စသည်တို့နှင့်အတူ တောထွက်ခဲ့၍ အနုပိယမြို့၏အနီး အနုပိယမည်သော သရက်ဥယျာဉ်ဝယ် ဗုဒ္ဓမြတ်စွာဘုရားရှင် အထံတော်၌ ရှင်ရဟန်းပြုလေသည်။ အရှင်အာနန္ဒာသည် "မန္တာဏိပုတ္တ ပုဏ္ဏ အရှင်၏ ပပဉ္စတရားကြေးမုံ ဥပမာတရားကို ကြားနာရသောကြောင့် ငါသည် သစ္စာ ၄-ပါးတရားကို သိရ၏၊ သောတာပန်အရိယာဖြစ်၏"ဟု မိန့်ဆို၏။

ရှင်အာနန္ဒာကား ဗုဒ္ဓမြတ်စွာအား ပြုစုလုပ်ကျွေးခွင့်ရရန် မဟောင်း၊ ဆိတ်ဆိတ် သာနေလေသည်။ မြတ်ဗုဒ္ဓက "အာနန္ဒာသည် သူတပါး တိုက်တွန်းမှ ပြုစုမည့်သူ မဟုတ်၊ မိမိအလိုလို အသိဖြင့်ပင် ငါဘုရားကို ပြုစု လုပ်ကျွေးလိမ့်မည်"ဟု မိန့်တော်မူမှ ပယ်လေးတန်, ခံလေးပါးဆုကို တောင်းခံတော်မူ၏။

**ပယ်လေးတန်ဟူသည်မှာ–** (၁) "မြတ်စွာဘုရား– ရှင်တော်ဘုရားသည် တပည့်တော်အား အကယ်၍ ကိုယ်တော်မြတ် ရအပ်သည့် ကောင်းမြတ်သော သင်္ကန်းကို မပေးစွန့်ဘူးဆိုလျှင်၊ (၂) ကောင်းမြတ်သော ဆွမ်းကို မပေးစွန့်ဘူး ဆိုလျှင်၊ (၃) ကိုယ်တော်မြတ်နှင့်အတူ ဂန္ဓကုဋီတစ်တိုက်တည်း၌ အတူတကွ နေထိုင်ခွင့်မပေးဘူးဆိုလျှင်၊ (၄) ကိုယ်တော်မြတ်အား ဒါယကာ ဒါယိကာမ တို့က ပင့်ဖိတ်ရာသို့ တပည့်တော်ကို ခေါ်ဆောင်၍ ကြွတော်မမူဘူးဆိုလျှင် ဤလျှောက်ဆိုရာပါ ဆုလေးပါးကို သနား ချီးမြှောက်တော်မူပါလျှင် တပည့် တော်သည် ရှင်တော်ဘုရားကို ပြုစု လုပ်ကျွေးပါရစေဘုရား"ဟု လျှောက်ထား လေသည်။

မြတ်စွာဘုရားက အဘယ်အပြစ်ကို မြင်၍ လျှောက်ထားသနည်းဟု မေးတော် မူသော် မြတ်စွာဘုရား–ဤဝတ္ထုလေးပါးတို့ကို အကယ်၍ ရယူခဲ့လျှင် "အရှင် အာနန္ဒာသည် ဆွမ်းကောင်းကိုလည်း ဘုဉ်းပေးရ၏၊ သင်္ကန်းကောင်းကိုလည်း ဝတ်ရုံရ၏၊ မြတ်စွာဘုရားနှင့်လည်း အတူတကွနေရ၏။ ပင့်ဖိတ်ရာသို့လည်း အတူ လိုက်ပါရ၏။ ဤသို့ လာဘ်ကြီးလေးပါးကို ရသည်ဖြစ်၍ ပြုစုလုပ်ကျွေးသည်မှာ ဝန်လေးဖွယ် မရှိသည်သာတည်း"ဟု ရှုတ်ချပြောကြားသူများ ပေါ်ပေါက်လာမည့် အပြစ်ကို မြင်၍ တောင်းခံခြင်းဖြစ်သည်ဟု လျှောက်ထားတော်မူ၏။

**ခံလေးပါးဟူသည်မှာ–** (၁) "မြတ်စွာဘုရား– ရှင်တော်ဘုရားသည် အကယ်၍ တပည့်တော်ပင့်လျှောက်အပ်သည့် ဖိတ်ကြားရာ အရပ်သို့ လိုက်ပါကြွရောက် ချီးမြှောက်တော်မူမည်ဆိုလျှင်၊ (၂) အကယ်၍ တပည့်တော်သည် တိုင်းတပါး ကိုက်နယ်တပါးမှ ဘုရားဖူးရောက်လာသော ပရိသတ်ကို လာရောက်သော

ခဏမှာပင် ဘုရားရှင်ကို ဖူးမြင်စေနိုင်ခွင့် ပေးမည်ဆိုလျှင်၊ (၃) တပည့်တော်၏ သန္တာန်ဝယ် တရားနှင့်စပ်၍ ယုံမှားသံသယဖြစ်သော ခဏမှာပင် ရှင်တော်ဘုရား ထံသို့ ကပ်ရောက်မေးလျှောက်နိုင်ခွင့်ကို ရမည်ဆိုလျှင်၊ (၄) ထိုမှ တပါး မြတ်စွာဘုရားသည် တပည့်တော်၏ မျက်ကွယ်ဝယ် ဟောကြားတော်မူအပ်သော တရားတော်ကို တဖန် ပြန်ရောက်လာလျှင် တပည့်တော်အား သနားသဖြင့် ဟောကြားတော်မူမည်ဆိုလျှင်- ဤလျှောက်ဆိုရာပါ ဆုလေးပါးကို သနား ချီးမြှောက်တော်မူပါလျှင် တပည့်တော်သည် ရှင်တော်ဘုရားကို ပြုစုလုပ်ကျွေး ပါရစေဘုရား"ဟု လျှောက်ထားလေသည်။

အဘယ်ကြောင့် အရှင်အာနန္ဒာသည် ပြုစုလုပ်ကျွေးဘိသနည်း၊ မြတ်စွာ ဘုရားသည် ထိုအရှင်အာနန္ဒာအား ဤမျှလောက်သော ချီးမြှင့်မှုကိုပင် ပြုတော်မမူချေဟု ကဲ့ရဲ့သူများ ထင်ရှားပေါ်ပေါက်လာပါလိမ့်မည်။ ထို့ကြောင့် လျှောက်ထားပါ ကဲ့ရဲ့မှုများ မပေါ်စေရန် ရှေးဆုသုံးပါးကို လိုလားတောင့်တ ပါသည်။ ထို့ပြင်လည်း ရှင်တော်ဘုရား၏ မျက်ကွယ်၌ တပည့်တော်ကို "ငါ့ရှင် အာနန္ဒာ-ဤဂါထာ၊ သုတ္တန်၊ ဇာတ်ကို မြတ်စွာဘုရားသည် အဘယ် အရပ်၌ ဟောကြားတော်မူပါသနည်း"ဟု မေးမြန်းကြပါလိမ့်မည်။ တပည့်တော်သည် အကယ်၍ ထိုအမေးကို အပြည့်အစုံ မဖြေနိုင်ပါလျှင် "ငါ့ရှင်-သင်သည် ဤမျှလောက်ပင်မသိချေ၊ အဘယ်ကြောင့် သင်သည် အရိပ်ပမာ မြတ်စွာဘုရား ကို မစွန့်ဘဲ ကာလရှည်ကြာစွာ လိုက်ပါပြုစုနေဘိသနည်း"ဟု အပြစ်တင်စကား ပြောကြားသူများ ပေါ်ပေါက်လာပါလိမ့်မည်။ ထို့ကြောင့် တပည့်တော်၏ မျက်ကွယ်၌ ဟောကြားအပ်သည့် တရားကိုလည်း တဖန်ပြန်၍ ဟောကြား တော်မူခြင်း စတုတ္ထဆုကို လိုလားတောင့်တပါသည်။ မြတ်စွာဘုရားရှင်သည် အရှင်အာနန္ဒာမထေရ်မြတ် တောင်းခံအပ်သည့် ပယ်လေးတန်+ ခံလေးပါး ဤဆုရှစ်ပါးတို့ကို ပေးတော်မူလေ၏။

ဤသို့လျှင် အရှင်အာနန္ဒာသည် ပယ်လေးတန်+ခံလေးပါး ဤဆုရှစ်ပါး တို့ကို ယူ၍ အမြဲအလုပ်အကျွေး ဖြစ်တော်မူ၏။ ထိုရာထူးအတွက် ကမ္ဘာတစ်သိန်း ကာလပတ်လုံး ပါရမီ ဖြည့်ဆည်းပူးခဲ့ရ၏။ မထေရ်မြတ်သည် ထိုနေ့မှ စ၍ ဗုဒ္ဓမြတ်စွာအား ရေပူရေချမ်း ကပ်ခြင်း၊ ခြေဆုပ်လက်နယ် ပြုခြင်း၊ ရေချိုးတော်မူသောအခါ ကြေးတွန်းပေးခြင်း၊ ဂန္ဓကုဋီကို တံမြက်လှည်းခြင်း အစရှိသော ကိစ္စကြီးငယ်တို့ကို ပြုစုလုပ်ကျွေးလျက် အနီး၌ပါး၌ နေလေ့ရှိ၏။ ညချမ်းအချိန်ရောက်သောအခါ၌ ဆီမီးတိုင် ကိုင်ဆွဲ၍ ဂန္ဓကုဋီ ပရိဝုဏ်ကို ကိုးပတ် လှည့်တော်မူလေသည်။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ ကိန်းအောင်းမွေ့လျော်စဉ် "ရဟန်းတို့- အကြားအမြင်များခြင်းရှိကြသော၊ ငါဘုရား၏ တရားစကားကို ကြားမြင့်စွာ ဆောင်နိုင်သည့် သတိရှိကြသော၊ ငါဘုရားဟောအပ်သည့်အတိုင်း ပုဒ်တို့ကို သိစွမ်းနိုင်သည့် အသိပညာရှိကြသော၊ ငါဘုရား၏ တရားစကားတော်ကို သင်ခြင်း၊ ဆောင်ခြင်း၊ သရဇ္ဈာယ်ခြင်းနှင့် ပြုစုလုပ်ကျွေးခြင်း လုံ့လဝီရိယရှိကြသော ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် အရှင်အာနန္ဒာသည် အသာဆုံး အမြတ်ဆုံး" ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူပါသည်။

## ၇။ အရှင်အနုရုဒ္ဓါမထေရ်

အနုရုဒ္ဓါမထေရ်သည် ကပိလဝတ်ပြည်၌ သုက္ကောဒနမင်း၏ သားဖြစ်သည်။ သူ၏ နောင်တော်မှာ မဟာနာမဖြစ်ပါသည်။ မြတ်ဗုဒ္ဓသည် ကပိလဝတ်နေပြည် အနုပိယတော၌ သီတင်းသုံးတော်မူစဉ် အနုရုဒ္ဓါသည် ဘဒ္ဒိယ၊ အာနန္ဒာစသော အပေါင်းအဖော်များနှင့်အတူ ဗုဒ္ဓမြတ်စွာထံတော်တွင် ရဟန်းပြုကြလေသည်။ ထိုရဟန်းခုနစ်ပါးတို့တွင် အရှင်အနုရုဒ္ဓါသည် ဒိဗ္ဗစက္ခုအဘိညာဉ်ကို ရတော်မူလေသည်။ ထိုဉာဏ်သည် စကြဝဠာတိုက်ပေါင်း တစ်ထောင်ကို ရှုမြင်ခြင်းငှာ စွမ်းနိုင်လေသည်။

တနေ့တွင် အရှင်အနုရုဒ္ဓါသည် ရှင်သာရိပုတ္တရာမထေရ်မြတ်ထံသို့ ချဉ်းကပ်ပြီးလျှင် မထေရ်မြတ်အား "တပည့်တော်သည် လူတို့၏ မျက်စိအမြင်ကို လွန်သော နတ်မျက်စိနှင့် တူသော မျက်စိ (ဒိဗ္ဗစက္ခုအဘိညာဉ်) ဖြင့် တစ်ထောင်သော လောကဓာတ်ကို မြင်နိုင်ပါ၏၊ လုံ့လကို မတွန့် မဆုတ် အားထုတ်ပါ၏၊ မမေ့ မလျော့သော သတိလည်း ထင်ပါ၏၊ ပင်ပန်းမှု မရှိ၊ ပူပန်မှု ငြိမ်း၏၊ တခုတည်းသော အာရုံ၌ စိတ်သည် ကောင်းစွာတည်ကြည်၏။ သို့ဖြစ်သော်လည်း အာသဝေါတရား မကင်းသေးပါ"ဟူ၍ လျှောက်ထား၏။

ထိုအခါ မထေရ်မြတ်က "ငါ့ရှင်အနုရုဒ္ဓါ- သင်သည် ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် တစ်ထောင်သော လောကဓာတ်ကို မြင်နိုင်သည်ဟု အကြံဖြစ်ခြင်းသည် သင့်သန္တာန်ဝယ် မာနဖြစ်၍ နေ၏၊ တဖန် "ငါသည် လုံ့လကို မတွန့်မဆုတ် အားထုတ်ပါ၏၊ မမေ့မလျော့သော သတိလည်း ထင်ပါ၏၊ ပင်ပန်းမှုမရှိ၊ ပူပန်မှုငြိမ်းသော ကိုယ်လည်း ရှိ၏၊ တစ်ခုတည်းသော အာရုံ၌ စိတ်သည် ကောင်းစွာတည် ကြည်၏"ဟု ဤသို့ အကြံဖြစ်ခြင်းသည် သင့်သန္တာန်ဝယ် စိတ်ပျံ့လွင့်မှု (ဥဒ္ဓစ္စ) ဖြစ်၍ နေ၏။ ထို့နောက် "သို့ဖြစ်သော်လည်း တဏှာဒိဋ္ဌိတို့ဖြင့် မစွဲလမ်းမှု၍ အာသဝေါတရားတို့မှ မလွတ်ကင်းသေးပါ" ဟု ဤသို့ အကြံဖြစ်ခြင်းသည်

သင့်သန္တာန်ဝယ် တွေးတောမှု သံသယ (ကုက္ကုစ္စ) ဖြစ်၍ နေ၏။ ငါ့ရှင် အနုရုဒ္ဓါ-သင့်အား တိုက်တွန်းစကား မြွက်ကြားလိုသည်မှာ သင့်သန္တာန်၌ ဖြစ်ပွားနေသော ဤမာန, ဥဒ္ဓစ္စ, ကုက္ကုစ္စ တရားသုံးပါးတို့ကို ပယ်စွန့်ကာ နှလုံးမသွင်းမူ၍ အမြိုက် (နိဗ္ဗာန်) ဓာတ်သို့ မိမိစိတ်ကို ပို့စေချင်ပါသည်" ဟု ကမ္မဋ္ဌာန်းတရား ဟောကြားတော်မူလေ၏။

အရှင်အနုရုဒ္ဓါသည် မထေရ်မြတ်၏ ကမ္မဋ္ဌာန်းတရားကို ခံယူပြီးနောက် စေတိယတိုင်း အရှေ့ဝါးတောအရပ်သို့ ကြွရောက် သီတင်းသုံးတော်မူပြီး ရဟန်းတရားကို မအိပ်မနေ စကြံကြွ၍ အားထုတ်တော်မူ၏။ ထိုအခါ အရှင်မြတ်သန္တာန်ဝယ် ယောကျ်ားမြတ်တို့၏ အကြံကြီးများ ထင်ရှားဖြစ်ပေါ် လာလေသည်။

(၁) ဤလောကုတ္တရာတရား ကိုးပါးသည် အလိုနည်းသော ပုဂ္ဂိုလ်၏သန္တာန် မှာသာ ပြည့်စုံနိုင်၏၊ အလိုကြီးသော ပုဂ္ဂိုလ်၏သန္တာန်မှာ မပြည့်စုံနိုင်။

(၂) ဤလောကုတ္တရာတရား ကိုးပါးသည် ရောင့်ရဲလွယ်သော ပုဂ္ဂိုလ်၏ သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ မရောင့်ရဲသော ပုဂ္ဂိုလ်၏ သန္တာန်မှာ မပြည့်စုံနိုင်။

(၃) ဤလောကုတ္တရာတရား ကိုးပါးသည် ဆိတ်ငြိမ်မှုရှိသော ပုဂ္ဂိုလ်၏ သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ အပေါင်းအဖော်၌ မွေ့လျော်သော ပုဂ္ဂိုလ်၏သန္တာန်မှာ မပြည့်စုံနိုင်။

(၄) ဤလောကုတ္တရာတရား ကိုးပါးသည် ထက်သန်သော လုံ့လရှိသော ပုဂ္ဂိုလ်၏ သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ ပျင်းရိသော ပုဂ္ဂိုလ်၏ သန္တာန်မှာ မပြည့်စုံနိုင်။

(၅) ဤလောကုတ္တရာတရား ကိုးပါးသည် ထင်လင်းသော သတိရှိသော ပုဂ္ဂိုလ်၏ သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ သတိလွတ်ကင်းသော ပုဂ္ဂိုလ်၏သန္တာန်မှာ မပြည့်စုံနိုင်။

(၆) ဤလောကုတ္တရာတရား ကိုးပါးသည် တည်ကြည်သော စိတ်ရှိသော ပုဂ္ဂိုလ်၏သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ မတည်ကြည်သော စိတ်ရှိသော ပုဂ္ဂိုလ်၏ သန္တာန်မှာ မပြည့်စုံနိုင်။

(၇) ဤလောကုတ္တရာတရား ကိုးပါးသည် ပညာရှိသော ပုဂ္ဂိုလ်၏သန္တာန် မှာသာ ပြည့်စုံနိုင်၏၊ ပညာမဲ့သော ပုဂ္ဂိုလ်၏သန္တာန်မှာ မပြည့်စုံနိုင်။

အရှင်အနုရုဒ္ဓါမထေရ်မြတ်သည် အထက်ပါ မဟာပုရိသဝိတက်ကြီး ခုနစ်ပါးတို့ကို ကြံစည်စဉ်းစားပြီးနောက် ရှစ်ခုမြောက်သော မဟာပုရိသဝိတက်ကြီးကို ဆက်လက်၍ ကြံစည်ဆင်ခြင်ရန် ပင်ပန်းလျက် ရှိလေ၏။ မှန်၏။ တပည့်သာဝကတို့အဖို့ရာ အလိုနည်းခြင်း အပ္ပိစ္ဆတာတရား, ရောင့်ရဲလွယ်ခြင်း သန္တုဋ္ဌိတရား, ကင်းဆိတ်ခြင်း ပဝိဝေကတရား, အားထုတ်ခြင်း ဝီရိယာရမ္ဘတရား, သတိထင်လင်းခြင်း ဥပဋ္ဌိတသတိတာတရား, တည်ကြည်ခြင်း သမာဓိတရား, ပိုင်းခြား၍ သိခြင်း ပညာတရား၊ ဤတရားများကို စဉ်းစားဆင်ခြင်ပြီးသောအခါ ထို့ထက် အထက်သို့ တက်၍ တရားတမျိုးဆင်ခြင်ရန် ဝန်လေးမြဲ ပင်ပန်းမြဲ ဓမ္မတာဖြစ်ပါသည်၊ ပညာတွင်သာ တရားဆုံး၍ နေမြဲ ဓမ္မတာ ဖြစ်ပါသည်။ ထို့ကြောင့် မထေရ်မြတ်မှာ ပင်ပန်းလျက် ရှိလေသည်။

ထိုအခါ မြတ်စွာဘုရားရှင်သည် ဘေသကဋာတောအုပ်၌ သီတင်းသုံးနေတော်မူရင်းကပင် မထေရ်မြတ်သည် ရှစ်ခုမြောက် မဟာပုရိသဝိတက်ကြီး၌ ပင်ပန်းလျက် နေ၏ဟု သိတော်မူ၍ မထေရ်မြတ်၏ အလိုအကြံကို ဖြည့်စွက်ပေးရန် ကြံစည်လျက် တန်ခိုးတော်ဖြင့် တခဏတွင်းမှာပင် အရှေ့ဝါးတောရှိ အရှင်အနုရုဒ္ဓါ၏ မျက်မှောက်သို့ ကြွရောက်တော်မူ၍–

"အနုရုဒ္ဓါ.....ကောင်းလေစွ.....ကောင်းလေစွ၊ သင်သည် ယောက်ျားမြတ်တို့၏ အကြံကို ကောင်းစွာသာလျှင် ကြံပေ၏။

အနုရုဒ္ဓါ.....ထိုသို့ဖြစ်လျှင် သင်သည် "ဤလောကုတ္တရာတရားကိုးပါးသည် သံသရာကို ချဲ့ထွင်တတ်သည့် (တဏှာ, မာန, ဒိဋ္ဌိ တည်းဟူသော) ပပဉ္စတရားမှ လွတ်ကင်းရာနိဗ္ဗာန်၌ မွေ့လျော်နှစ်ခြိုက်ပျော်ပိုက်သော ပုဂ္ဂိုလ်၏ သန္တာန်မှာသာ ပြည့်စုံနိုင်၏၊ ပပဉ္စတရား၌သာ မွေ့လျော်နှစ်ခြိုက် ပျော်ပိုက်သော ပုဂ္ဂိုလ်၏ သန္တာန်မှာ မပြည့်စုံနိုင်"ဟု လိုနေသည့် ရှစ်ခုမြောက် မဟာပုရိသဝိတက်ကြီးကို ဆက်လက်၍ ဆင်ခြင်လော့ဟု ဖြည့်စွက်ပေးတော်မူလေသည်။

ဆက်လက်၍ ဗုဒ္ဓမြတ်စွာသည် မထေရ်မြတ်အား ဤမဟာပုရိသဝိတက် ရှစ်မျိုးကို ကြံစည်နေလျှင် လောကီပဌမစျာန်၊ ဒုတိယစျာန်၊ တတိယစျာန်၊ စတုတ္ထစျာန်တို့ကို အလွယ်တကူ ရယူဝင်စားနိုင်၏။ ထိုသို့ ဝင်စားနေလျှင်–

(၁) စီဝရသန္တောသ = သင်္ကန်း၌ ရောင့်ရဲလွယ်ခြင်း၊

(၂) ပိဏ္ဍပါတသန္တောသ = ဆွမ်း၌ ရောင့်ရဲလွယ်ခြင်း၊

(၃) သေနာသနသန္တောသ = ကျောင်းအိပ်ရာနေရာတို့၌ ရောင့်ရဲလွယ်ခြင်း၊

(၄) ဘာဝနာရာမတာ = ဘာဝနာအလုပ်၌ မွေ့လျော်ပျော်ပိုက်ခြင်း–

တည်းဟူသော အရိယဝံသပဋိပဒါလေးပါးကို အလွယ်နှင့် ရမည်ဟု ဟောကြားတော်မူလေ၏။

ထို့နောက် ဗုဒ္ဓမြတ်စွာသည် မထေရ်မြတ်၏ အာဝါသသပ္ပါယကို ဆင်ခြင်တော်မူ၍ မထေရ်မြတ်အား ဤဝါးတောအရပ်၌ပင် ဝါကပ်နေရန် မိန့်တော်မူပြီး ပြန်ကြွတော်မူလေ၏။

မထေရ်မြတ်သည် ထိုဝါးတော၌ ရဟန်းတရားကို ကြိုးစားအားထုတ်လေရာ မကြာမြင့်မီပင် ပုဗ္ဗေနိဝါသဉာဏ်, ဒိဗ္ဗစက္ခုဉာဏ်, အာသဝက္ခယဉာဏ် တည်းဟူသော ဝိဇ္ဇာသုံးပါးနှင့် ပြည့်စုံ၍ အဘိညာဉ်ခြောက်ပါးနှင့်ပြည့်စုံသော ရဟန္တာမထေရ်မြတ်ဖြစ်တော်မူလေသည်။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ရဟန်းတို့.....ဒိဗ္ဗစက္ခု အဘိညာဉ်ရှိသော ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် အရှင်အနုရုဒ္ဓါသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးကို ချီးမြှင့်တော်မူလေသည်။

## ၈။ အရှင်မဟာကစ္စည်းမထေရ်

အရှင်မဟာကစ္စည်းမထေရ် လောင်းလျာသည် ဥဇ္ဇေနီမြို့သား ပုရောဟိတ်ပုဏ္ဏား၏သား ဖြစ်လေသည်။ ရွှေရောင်အဆင်းဝါဝင်းသော ကိုယ်ရှိသောကြောင့် "ကဥ္စန" ဟု မိဘဆွေမျိုးတို့က မှည့်ခေါ်ကြလေ၏။ အမွယ်ရောက်သော် ဗေဒင်သုံးပုံကို တတ်မြောက်၍ ပုရောဟိတ်ရာထူးကို ရရှိလေသည်။ ထိုပုဏ္ဏားသည် အနွယ်၏ အစွမ်းအားဖြင့် "ကစ္စာန"ဟု အမည်တွင်လေသည်။

ဗုဒ္ဓမြတ်စွာ ပွင့်ထွန်းတော်မူသောအခါ ဥဇ္ဇေနီပြည့်ရှင် စဏ္ဍပဇ္ဇောတမင်းသည် ကစ္စာနပုရောဟိတ်အား ခေါ်စေ၍ ဗုဒ္ဓမြတ်စွာဘုရားရှင်အား ပင့်ရန် အမိန့်ချမှတ်လေ၏။ ထိုအခါ ကစ္စာနပုရောဟိတ်သည် ရဟန်းပြုခွင့် ရပါမူ သွားရောက်ပင့်ပါမည်ဟု လျှောက်လေလျှင် စဏ္ဍပဇ္ဇောတမင်းသည် "အမောင်နှစ်သက်ရာကို ပြုပြီးလျှင် မြတ်စွာဘုရားကိုသာ ပင့်ဆောင်ခဲ့ပါလော့"ဟု ခွင့်ပြုမိန့်ကြားလေ၏။

ထိုအခါ ကစ္စာနပုရောဟိတ်သည် အဖော်ခုနစ်ယောက်ကို ခေါ်၍ မြတ်ဗုဒ္ဓ ထံတော်သို့ သွားရောက်လေသည်။ ဗုဒ္ဓမြတ်စွာသည် ကစ္စာနပုရောဟိတ်အား တရားဟောတော်မူ၏။ တရားဒေသနာ ဆုံးသောအခါ ကစ္စာနပုရောဟိတ်သည် အဖော်ခုနစ်ယောက်နှင့်အတူ ပဋိသမ္ဘိဒါပတ္တရဟန္တာ ဖြစ်လေ၏။

ထိုအခါ မြတ်စွာဘုရားရှင်သည် "ဧထ ဘိက္ခဝေါ=ရဟန်းတို့-လာကြ ကုန်လော့"ဟု ခေါ်တော်မူကာ လက်ယာလက်တော်ကို ဆန့်တန်းတော်မူလိုက် လေ၏။ ထိုခဏမှာပင် ဆံမုတ်ဆိတ်တို့ ကွယ်ပျောက်၍ ဣဒ္ဓိမယသပိတ်သင်္ကန်း တို့သည် ကိုယ်သို့ရောက်လာပြီး ဝါတော်ခြောက်ဆယ်ရှိသော မထေရ်ကြီးများ ကဲ့သို့ ရဟန်းအဖြစ်သို့ ရောက်ရှိကြလေသည်။

အရှင်မဟာကစ္စည်းမထေရ်သည် ရဟန္တာဖြစ်ပြီးသော်လည်း ကြွောင့်ကြမဲ့ နေတော်မမူဘဲ မြတ်စွာဘုရားရှင် ဥဇ္ဇေနီပြည်သို့ ကြွရောက်တော်မူရန် လမ်း ခရီး၏ ဂုဏ်ကျေးဇူးကို ဖော်ညွှန်းသော ဂါထာများကို လျှောက်ထားလေ၏။ ထိုအခါ ဗုဒ္ဓမြတ်စွာသည် မထေရ်မြတ်၏ ဥဇ္ဇေနီသို့ လိုက်ပါရန် ပင့်ဖိတ်သည်ကို သိတော်မူ၍ အရှင်မဟာကစ္စည်း မထေရ်မြတ်ကို "ချစ်သား-သင်သာလျှင် ဥဇ္ဇေနီပြည်သို့ သွားလေလော့၊ သင်ချစ်သား သွားလျှင်လည်း စဏ္ဍပဇ္ဇောတ မင်းသည် ကြည်ညိုပေလိမ့်မည်"ဟု ဒိန့်တော်မူ၏။

အရှင်မဟာကစ္စည်းမထေရ်မြတ်သည် မိမိနှင့်အတူ လိုက်ပါခဲ့ရသော ရဟန်း ခုနစ်ပါးတို့နှင့် ဥဇ္ဇေနီပြည်သို့ ကြွတော်မူလေ၏။ လမ်းခရီးတွင် အရှင်မဟာ ကစ္စည်းမထေရ်မြတ်တို့ ဆွမ်းခံဝင်ကြလေ၏။ ဆံပင်ကောင်း၍ ဥစ္စာစီးပွား ပျက်သော တစ်ချိန်က သေဌေးသမီးသည် ရဟန်းခုနစ်ပါး ကြွရှိလျက် ရွှေရောင် အဆင်းရှိသည့် ပြဟ္မာနွယ်ဖွား ရဟန်းတစ်ပါး ဆွမ်းမပါဘဲ ဆေးမြတိုင်းသော သပိတ်ဖြင့်သာလျှင် ဆွမ်းခံကြွလာသော မထေရ်မြတ်တို့ကို ပင့်ဖိတ်ပြီး အိမ် တွင်း၌ ထိုင်စေလေ၏။ ထို့နောက် မိမိအား တစ်ချိန်က ဆံပင်ရောင်းရန် ပြောဖူးသော သေဌေးသမီးတစ်ဦးထံ မိမိ၏ဆံပင်ကို ဖြတ်၍ အထိန်းတော် ကြီးအား အရောင်းခိုင်းလေ၏။ အသပြာရှစ်ကျပ် ရခဲ့လေသည်။ စီးပွားပျက် သေဌေးသမီးသည် မထေရ်မြတ်ရှစ်ပါးတို့အား တစ်ပါးလျှင် အသပြာ တစ်ကျပ်တန်ဆွမ်း ဆက်ကပ် လှူဒါန်းလေ၏။ အရှင်မဟာကစ္စည်း မထေရ် မြတ်သည် ဆင်ခြင်ကြည့်ရှုတော်မူလတ်သော် သေဌေးသမီး၏ အားကြီးသော ကောင်းမှုကို မြင်တော်မူ၍ "သေဌေးသမီးသည် ယခုအခါ အဘယ်မှာနည်း"ဟု မေးတော်မူ၏။ အထိန်းတော်ကြီးက "အိမ်ခန်းထဲမှာပါ အရှင်ဘုရား" ဟု

လျှောက်ထားလေလျှင် "ထိုဆွမ်းဒါယိကာမ သေဌေးသမီးကို ခေါ်လိုက်ကြလော့"ဟု မိန့်တော်မူလေ၏။ ဆွမ်းဒါယိကာမ သေဌေးသမီး ရောက်လာကာ မထေရ်မြတ်ကို ရှိခိုးလိုက်သည်နှင့် တပြိုင်နက် ဆွမ်းဒါယိကာမ သေဌေးသမီး၏ ဆံပင်များသည် မူလပကတိအကိုင်း ပြန်၍ ဖြစ်လာကြသည်။ ထို့နောက် မထေရ်တို့သည်လည်း ကောင်းကင်ခရီးဖြင့် စဏ္ဍပဇ္ဇောတမင်း၏ ကဥ္စနဝနမည်သော ဥယျာဉ်၌ ဆင်းသက်တော်မူကြလေကုန်၏။

ဥယျာဉ်မှူးသည် အရှင်မဟာကစ္စည်း မထေရ်ကို မြင်ရလျှင် မင်းကြီးထံသို့ သွားရောက်၍ "အရှင်မင်းကြီး-ကစ္စာနပုရောဟိတ်သည် ယခုအခါ ရဟန်းပြု၍ ဥယျာဉ်တော်သို့ ကြွရောက်လာပါပြီ"ဟု လျှောက်ထားလေ၏။ စဏ္ဍပဇ္ဇောတမင်းသည် ဥယျာဉ်တော်သို့ ကြွရောက်၍ အရှင်မဟာကစ္စည်း မထေရ်ကို ဤသို့ ကြားလျှောက်၏ "အရှင်ဘုရား- မြတ်စွာဘုရား အဘယ်မှာနည်း" ဟု မေးလျှောက်လေ၏။ ထိုအခါ မထေရ်မြတ်က "မြတ်သောမင်းကြီး-ဗုဒ္ဓမြတ်စွာသည် ကိုယ်တော်တိုင် ကြွတော်မမူသေးဘဲ ငါ့ကို လွှတ်လိုက်၏"ဟု မိန့်လေလျှင် စဏ္ဍပဇ္ဇောတမင်းသည် "အရှင်ဘုရားတို့ ယနေ့ဆွမ်းကို ဘယ်အရပ်၌ ရပါကုန်သနည်း" ဟု မေးလေလျှင် မထေရ်မြတ်သည် ဆွမ်းဒါယိကာမ သေဌေးသမီး၏ ခဲယဉ်းစွာပြုအပ်သော ကောင်းမှုကုသိုလ်အကြောင်းကို အလုံးစုံ မိန့်ကြားတော်မူ၏။

စဏ္ဍပဇ္ဇောတမင်းကြီးသည် အရှင်မဟာကစ္စည်း မထေရ်မြတ်အား နက်ဖြန်အတွက် ဆွမ်းအလှူ ပင့်ဖိတ်ပြီးလျှင် ရွှေနန်းတော်သို့ ပြန်ကြွကာ ဆွမ်းဒါယိကာမ သေဌေးသမီးကို မင်းအာဏာဖြင့် ခေါ်ယူ၍ မိဖုရားကြီးအရာ၌ မြှောက်စားလေ၏။ ဤ ဆွမ်းဒါယိကာမ သေဌေးသမီး၏ ပထမဇောကုသိုလ်စေတနာသည် မျက်မှောက် ဘဝ၌ပင် ချမ်းသာသုခကို ခံစားရလေသည်။ ထိုအချိန်မှစ၍ စဏ္ဍပဇ္ဇောတမင်းကြီးသည် မထေရ်မြတ်အား လာဘ်ပူဇော်သက္ကာရ ကြီးစွာ ပြု၏။ လူအပေါင်းတို့သည်လည်း မထေရ်မြတ်၏ ဆုံးမသြဝါဒကြောင့် မထေရ်မြတ်ထံတွင်ပင် ရဟန်းပြုကြလေ၏။ မထေရ်မြတ်သည် ဥဇ္ဇေနီပြည်သူပြည်သားများကို သာသနာတော်၌ သက်ဝင်ယုံကြည်စေ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ရဟန်းတို့.....အကျဉ်းဟောကြားထားသော တရားတော်၏ အနက်အဓိပ္ပါယ်ကို အကျယ်အားဖြင့် ဝေဖန် ခွဲခြား စိတ်ဖြာ ဟောကြားတတ်သော ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် မဟာကစ္စာနရဟန်းသည် အသာဆုံး အမြတ်ဆုံး ဟု [1]ဧတဒဂ်ဘွဲ့ထူးကို ချီးမြှောက်မတော်မူလေသည်။

[1] အံ ၁-၂၄

## ၉။ အရှင်သီဝလိမထေရ်

အရှင်သီဝလီသည် ကောလိယသာကီဝင်မင်းမျိုးဝယ် သုပ္ပဝါသာ သာကီဝင် မင်းသမီး၏ ဝမ်း၌ ပဋိသန္ဓေတည်လေ၏။ ထိုပဋိသန္ဓေတည်သော အခါမှ စ၍ မင်းသမီးထံသို့ လက်ဆောင်ပဏ္ဏာတို့သည် ညဉ့် နံနက် ဆက်ကာ ဆက်ကာ ရာပေါင်းများစွာ ရောက်လာကြကုန်၏။

တစ်နေ့သောအခါတွင် သုပ္ပဝါသာမင်းသမီး၏ ဘုန်းကံအစွမ်းကို သိရှိရန် ဆွေတော်မျိုးတော်တို့သည် မင်းသမီး၏ လက်ဖြင့် မျိုးစေ့ဟေ ၇င်းများကို ထိစေကြကုန်၏၊ ထိုမျိုးစေ့များကို ကြဲချသောအခါ မျိုးစေ့ တစ်စေ့တစ်စေ့မှ အညှောက်ပေါင်း အရာအထောင်ပေါက်၍ ထွက်လာလေ၏။ မင်းပယ်တစ်ပယ် ကျယ်သော လယ်မြေတစ်ကွက်မှ လှည်းအစီးပေါင်း ငါးဆယ် ခြောက်ဆယ်တိုက် ကောက်စပါးများ ထွက်ရှိကြကုန်၏။

စပါးကျီအတွင်း စပါးများ ဖြည့်သွင်းသောအခါ၌လည်း ဆွေတော်မျိုးတော် များက မင်းသမီး၏လက်ဖြင့် ကျီတံခါးကိုထိစေကြကုန်၏။ မင်းသမီး၏ ဘုန်းကံ ကြောင့် ကောက်စပါးများကို ထုတ်ယူသော်လည်း ယူသော့နေရာတိုင်းသည် တစ်ဖန်ပြန်၍ ပြည့်လေ၏။ ထို့ပြင် ပြည့်သောတမင်းအိုးမှ ထမင်းကို ခူးကာ ရောက်လာသမျှသော လူအပေါင်းအား ပေးလှူကြသည်ရှိသော်လည်း မကုန် နိုင်ချေ။ ရှင်သီဝလိသည် အမိဝမ်း၌ ခုနစ်နှစ်တိုင်အောင် ပဋိသန္ဓေနေရ၏၊ ရင့်ကျက်လာသောအခါ မင်းသမီးသည် ကိုယ်ဝန်ကြောင့် မိန်းမောတွေဝေ ရခြင်း ဆင်းရဲကို ခုနစ်ရက်ကြာ ခံစားရ၏။ ထိုအခါ မင်းသမီးသည်-

(၁) ဗုဒ္ဓမြတ်စွာ၏ ဂုဏ်တော်နှင့်စပ်သော ကောင်းသောအကြံ၊

(၂) သံဃာတော်၏ ဂုဏ်တော်နှင့်စပ်သော ကောင်းသောအကြံ၊

(၃) နိဗ္ဗာန်၏ သန္တိသုခ ဂုဏ်နှင့် စပ်သော ကောင်းသောအကြံ-

တို့ကို အောက်မေ့၍ ကိုယ်ဝန်၏ ဆင်းရဲဒုက္ခကို အောင့်အည်း သည်းခံလေသည်။ ထိုနောက် မင်းသမီးသည် မိမိ၏ ခင်ပွန်းကိုခေါ်၍ "အို.....အရှင့်သား ကြွပါ၊ အကျွန်ုပ်၏ ဖြစ်ရပ်ကို မြတ်ဗုဒ္ဓအား လျှောက်ထား၍ ဘုရားရှင်အား ပင့်ဖိတ်တော် မူခဲ့ပါ၊ ဗုဒ္ဓမြတ်စွာ၏ မိန့်ကြားတော်မူလိုက်သည်များကိုလည်း မှတ်သား၍ အကျွန်ုပ်အား ပြောကြားတော်မူပါ"ဟု ပြောဆို လွှတ်လိုက်လေ၏။ ကောလိယ မင်းသားသည် သုပ္ပဝါသာမင်းသမီး၏ အကြောင်းအရာ သတင်းစကားကို ဗုဒ္ဓ မြတ်စွာအား လျှောက်ထားလေလျှင် ဘုရားရှင်သည် "ကောလိယ-မင်းသမီး သုပ္ပဝါသာသည် ရောဂါမရှိ ပကတိချမ်းသာစေသတည်း၊ ရောဂါကင်းသော သားကို ဖွားစေသတည်း"ဟု မိန့်တော်မူလေသည်။

ထိုသို့ မိန့်တော်မူသည့်အတိုင်း သားကို ဖွားမြင်လေ၏။ ကောလိယသည် မင်းသမီးအား ဘုရားရှင်၏ မိန့်ကြားတော်မူလိုက်သော သတင်းစကားကို ပြန်ပြောလေ၏။ မင်းသမီးသည် "အရှင့်သား ပင့်ဖိတ်အပ်သော အသက်ရှင် ဆွမ်းသည် မင်္ဂလာဆွမ်းဖြစ်လိမ့်မည်၊ တဖန်ပြန်၍ ခုနစ်ရက်ပတ်လုံး ဆွမ်းဘုဉ်း ပေးတော်မူရန် မြတ်စွာဘုရားကို ပင့်လျှောက်ချေပါဦး"ဟု ပြောဆို၏။ ကောလိယသည် မင်းသမီး၏ ဆန္ဒကို ပြည့်စေ၍ ခုနစ်ရက်ပတ်လုံး မြတ်စွာဘုရား အမှူးရှိသော ရဟန်းသံဃာတော်များအား အကြီးအကျယ် လှူဒါန်းကြလေကုန်၏။

သီဝလိဟူသော အမည်သည် ဆွေမျိုးမိဘတို့၏ စိတ်နှလုံးပူပန်မှုကို ငြိမ်းအေး စေသောကြောင့် မှည့်ခေါ်သောအမည် ဖြစ်ပေသည်။ သီဝလိသည် အမိဝမ်း၌ ခုနစ်နှစ်ကြာအောင် ကိန်းအောင်းနေရသဖြင့် ဖွားမြောက်လာသော အခါ ခုနစ်နှစ်သားအရွယ်တို့ ပြုနိုင်သောအရာတို့ကို ပြုစွမ်းနိုင်သူ ဖြစ်ပါသည်၊ ခုနစ်ရက်ပတ်လုံး အလှူဒါနပွဲကြီး၌ ရဟန်းသံဃာတော်များအား ရေစစ်ဖြင့် ရေကို စစ်၍ ဆက်ကပ်လှူဒါန်းလေ၏။

တရားစစ်သူကြီး အရှင်သာရိပုတ္တရာသည် ခုနစ်ရက်မြောက်သောနေ့၌ သီဝလိသူငယ်အား "သီဝလိ သင်သည် ဤသို့သဘောရှိသော ဒုက္ခအစုကို ခံစား ရခဲ့၍ ရှင်ရဟန်းပြုရန် မသင့်မလျော်ဘူးလော"ဟု မေးတော်မူ၏။ သီဝလိသည် မိဘထံမှ ခွင့်ရလျှင် ရဟန်းပြုလိုပါသည်ဟု လျှောက်လေ၏။ သုပ္ပဝါသာသည် သားနှင့် မထေရ်မြတ်ပြောဆိုနေသည်ကို မြင်၍ မထေရ်မြတ်ထံ ချဉ်းကပ်ကာ မေးလျှောက်လေ၏။ ထိုအခါ မထေရ်မြတ်က "အမိဝမ်းထဲ၌ ခံစားခဲ့ရသော ဒုက္ခကို ပြောပြ၍ အသင်မိဘနှစ်ပါးတို့က ခွင့်ပြုလျှင် ရှင်ရဟန်းပြုပေးမည်"ဟု မိန့်ကြားလျှင် သုပ္ပဝါသာ မင်းသမီးသည် ခွင့်ပြုကြောင်း စကားကို လျှောက်ထားလေ၏။

ထိုအခါ မထေရ်မြတ်သည် သီဝလိကို ကျောင်းတော်သို့ ခေါ်ဆောင်၍ တစ ပဥ္စကကမ္မဋ္ဌာန်းကို ပေးပြီးလျှင် ရှင်ပြုပေး၏။ "သီဝလိ-သင့်အား အခြားဩဝါဒ ပေးရန်မလို၊ ခုနစ်နှစ်ပတ်လုံး မိမိ ခံစားခဲ့ရသော ဆင်းရဲဒုက္ခဝေဒနာကိုသာ ဆင်ခြင်ပါ"ဟု မိန့်တော်မူလေ၏။ သီဝလိသည် ပြုနိုင်သမျှသော တရားနှလုံးသွင်းခြင်း အမှုကို ဆင်ခြင်ပွားများ၏။

ရှင်သီဝလိသည် ပဌမဆံဝန်းကို ရိတ်ချလိုက်သောခဏမှာပင် သောတာပတ္တိ ဖိုလ်၌ တည်လေ၏။ ဒုတိယဆံဝန်းကို ရိတ်ချလိုက်သောအခါ သကဒါဂါမိဖိုလ်၌ တည်၏။ တတိယဆံဝန်းကို ရိတ်ချလိုက်သောအခါ အနာဂါမိဖိုလ်၌ တည်၏။ အားလုံးသော ဆံဝန်းကို ရိတ်ချလိုက်သည်နှင့် တပြိုင်နက် အရဟတ္တဖိုလ်၌ တည်လေ၏။

ရှင်သီဝလိသည် ရှင်ရဟန်းပြုသောနေ့မှစ၍ ပစ္စည်းလေးပါးတို့ အလိုရှိတိုင်း ပေါများလေ၏။ ထိုသို့ လာဘ်ပေါများလာသောကြောင့် မိမိ၏ဘုန်းကို စုံစမ်းရန် မြတ်ဗုဒ္ဓ၏ ခွင့်ပြုချက်ဖြင့် ရဟန်းငါးရာတို့ကို အဖော်အဖြစ်ခေါ်၍ ဟိမဝန္တာ တောသို့ ရှေးရှုကြွသွားတော်မူ၏။ ထိုအခါ ခရီးဝခန်း၌ ရှေးဦးစွာ ပညောင်ပင် ကြီးကို တွေ့လေ၏၊ ညောင်ပင်စောင့်နတ်မင်းသည် မထေရ်မြတ်အား ခုနစ်ရက် ကြာအောင် အလှူဒါနပြုလေသည်။ ဤနည်းဖြင့်-

(၁) ရှေးဦးစွာ ပညောင်ပင်ကြီး
(၂) နှစ်ကြိမ်မြောက်၍ ပဏ္ဍဝတောင်
(၃) သုံးကြိမ်မြောက်၌ အစိရဝတီမြစ်
(၄) လေးကြိမ်မြောက်၍ ဝရသာဂရမည်သော သမုဒ္ဒရာ
(၅) ငါးကြိမ်မြောက်၍ ဟိမဝန္တာတောင်
(၆) ခြောက်ကြိမ်မြောက်၌ ဆဒ္ဒန်အိုင်
(၇) ခုနစ်ကြိမ်မြောက်၌ ဂန္ဓမာဒနတောင်
(၈) ရှစ်ကြိမ်မြောက်၌ အရှင်ရေဝတနေရာသို့-

ကြွရောက်တော်မူလေသည်။ နေရာအားလုံးတို့၌ ခုနစ်ရက်စီ မထေရ်မြတ်အား နတ်တို့က ကြီးစွာ လှူဒါန်းကြလေသည်။

အထူးသဖြင့် ဂန္ဓမာဒနတောင်သို့ ကြွသော ခုနစ်ရက်တို့တွင် နွားနို့ ဆွမ်း တစ်ရက်၊ ထောပတ်တစ်ရက်၊ အလှည့်အပြည် နတ်တို့ ပေးလှူ၏။ ထိုသို့ ပေးလှူနိုင်ခြင်းမှာ-ကဿပ ဗုဒ္ဓမြတ်စွာ လက်ထက်တော်အခါ၌ စာရေးတံ နို့ဆွမ်းလှူဒါန်းခဲ့သော ဒါနကောင်းမှုအကျိုးကြောင့် ဖြစ်ပါသည်ဟု နာဂဒတ္တ နတ်မင်းက ရဟန်းသံဃာတော်များအား လျှောက်ထားလေသည်။

ဗုဒ္ဓမြတ်စွာသည် အရှင်ခဒိရဝနိယရေဝတမထေရ်ထံ ကြွတော်မူရာဝယ် လမ်းခရီး၌ နတ်များက အရှင်သီဝလိမထေရ်မြတ်အား ဦးတည်၍ နေ့ရက် မပြတ် အလှူဒါန ဆက်ကပ်ကြသည်ကို အကြောင်းပြု၍ "ရဟန်းတို့-လာဘ် လာဘပေါများကြသည့် ငါဘုရား၏ တပည့်သာဝက ရဟန်းတို့တွင် သီဝလိ ရဟန်းသည် အသာဆုံး အမြတ်ဆုံး" ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော် မူပါသည်။

## (ဃ) အမျိုးသမီးထေရီများ

### ၁။ မဟာပဇာပတိ ဂေါတမီထေရီ

မဟာပဇာပတိ ဂေါတမီသည် ဒေဝဒဟပြည် မဟာသုပ္ပဗုဒ္ဓ သာကီဝင်မင်းကြီး၏ သမီးတော်အငယ် ဖြစ်လေသည်။ ဂေါတမီဟု အမည်တွင်၏။ မဟာမာယာမင်းသမီး၏ ညီမတော်တည်း။ ဤမင်းသမီးနှစ်ပါး၏ ဝမ်း၌ သန္ဓေယူသော သားတို့သည် စကြဝတေးမင်း ဖြစ်လိမ့်မည်ဟု ပုဏ္ဏားတို့က နိမိတ်ဖတ်ကြကုန်၏။ သုဒ္ဓေါဒနမင်းကြီးသည် မဟာမာယာနှင့် ဂေါတမီ ညီအမနှစ်ယောက်လုံးကို ထိမ်းမြားမင်္ဂလာပြု၍ ကပိလဝတ်နန်းတော်သို့ ဆောင်ယူခဲ့၏။ မဟာမာယာကို အဂ္ဂဒေဝီ မဟေသီ မိဖုရားခေါင်ကြီးအရာ၌ ထား၏။

အကျွန်ုပ်တို့၏ ဗုဒ္ဓလောင်းလျာသည် မိဖုရားခေါင်ကြီးဝမ်း၌ ပဋိသန္ဓေနေတော်မူ၏။ မဟာမာယာမိဖုရားကြီးသည် ဘုရားအလောင်းတော်ကို ဖွားမြင်တော်မူသည်။ မဟာသက္ကရာဇ် ၆၈ ခုနှစ် ကဆုန်လပြည့်နေ့မှ နောက် ခုနစ်ရက်မြောက်သောနေ့ (ကဆုန်လပြည့်ကျော် ခုနစ်ရက်နေ့)၌ နတ်ရွာစံ၍ တုသိတာနတ်ပြည်ဂယ် သန္တုသိတ နတ်သားဖြစ်လေသည်။

သုဒ္ဓေါဒနမင်းကြီးသည် ညီမတော် ဂေါတမီကို အဂ္ဂဒေဝီမဟေသီမိဖုရားကြီးအရာ မြှောက်စားလေ၏။ ဘုရားအလောင်းတော်ကို ဖွားမြင်၍ ခုနစ်ရက်မြောက်သောနေ့တွင် ပဇာပတိဂေါတမီ မိဖုရားမှ နန္ဒမင်းသားကို ဖွားမြင်လေသည်။ ပဇာပတိဂေါတမီသည် မိမိ၏သားရင်း နန္ဒမင်းသားကို အထိန်းတော်များအား ပေးအပ်ပြီး မိမိကိုယ်တိုင်ကမူ ဘုရားအလောင်း၏ အထိန်းအယ ကိစ္စအဝဝကို ကိုယ်တိုင် ပြုလုပ်ကာ ဘုရားအလောင်းတော်အား နို့ချိုအေးကို တိုက်ကျွေးမွေးမြူခဲ့လေသည်။

သားတော်ဘုရားအလောင်း ဘုရားဖြစ်ပြီး ကပိလဝတ်နေပြည်တော်သို့ ရောက်တော်မူသောအခါ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးသည် ဆွမ်းခံလမ်းအကြားမှာပင် တရားစကား ကြားနာရ၍ သောတာပန် အရိယာဖြစ်လေသည်။ ခုနစ်ရက်မြောက်သော နေ့တွင် နန္ဒမင်းသား ရဟန်းပြု၏။ ခုနစ်ရက်မြောက်သောနေ့တွင် ရာဟုလာ ရှင်ပြုလေသည်။ မြတ်စွာဘုရား မဟာဝုန်တော၌ သီတင်းသုံးစဉ် သုဒ္ဓေါဒနမင်းကြီးသည် ကပိလဝတ်ပြည်ရွှေနန်းတော်အတွင်း၌ အရဟတ္တဖိုလ်သို့ ရောက်၍ ပရိနိဗ္ဗာန်ဝင်စံလေသည်။ ထိုအခါ မဟာပဇာပတိဂေါတမီသည် ရဟန်းပြုရန် စိတ်အားသန်လေ၏။

မိထွေးတော်ဂေါတမီသည် သာကီဝင်မင်းသမီး ငါးရာနှင့် ရဟန်းပြုခွင့်ရရန် ပထမအကြိမ် ဗုဒ္ဓမြတ်စွာကို တောင်းပန်သော်လည်း အခွင့်မရသောကြောင့် ဤအကြိမ်တွင် ခေါင်းရိတ်, ဖန်ရည်ဆိုးသော အဝတ်တို့ကို ဝတ်ဆင်လျက် သာကီဝင်မင်းသမီး ငါးရာနှင့်အတူ ဝေသာလီပြည်သို့ သွားရောက်၍ အရှင်အာနန္ဒာကို အကူအညီတောင်းကာ ဗုဒ္ဓမြတ်စွာကို တောင်းပန်စေပြီးနောက် ဂရုဓမ်ရှစ်ပါး တရားတို့ဖြင့် ရှင်, ရဟန်းအဖြစ်ကို ရယူလေသည်။

မိထွေးတော် ဂေါတမီထေရီမသည် ရဟန်းမိန်းမဖြစ်ပြီးနောက် "သံခိတ္တ"သုတ် ဒေသနာကို ကြားနာရသဖြင့် အရဟတ္တဖိုလ်သို့ ရောက်ရှိလေသည်။ သာကီဝင်မင်းသမီး ရဟန်းမငါးရာတို့သည်ကား နောက်အခါ၌ "နန္ဒကောဝါဒ"သုတ္တန်ကို ကြားနာရသဖြင့် မိမိတို့ အလိုဆန္ဒအတိုင်း အချို့ သောတာပန်, အချို့ သကဒါဂါမ်, အချို့ အနာဂါမ်, အချို့ ရဟန္တာ ဖြစ်ကြလေကုန်၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတိုက်၌ သီတင်းသုံး နေတော်မူစဉ်- ရဟန်းတို့-ညဥ့်အပိုင်းအခြားကို သိကြသည့် ငါဘုရား၏ တပည့်မ သာဝိကာ ဘိက္ခုနီမတို့တွင် မဟာပဇာပတိဂေါတမီထေရီသည် အသာဆုံး အမြတ်ဆုံးဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူပါသည်။

သက်တော် ၁၂၀ ရှိပြီ ဖြစ်သော မိထွေးတော်ဂေါတမီ ထေရီမကြီးသည် နံနက်အခါ ဝေသာလီပြည်တွင်း၌ ဆွမ်းခံလှည့်လည်ကာ ဆွမ်းဘုဉ်းပေးပြီးနောက် မိမိနေ့သန့်ရာ နေရာ၌ ဖလသမာပတ်ဝင်စားပြီးလျှင် ထိုသမာပတ်မှထ၍ မိမိ၏ အာယုသင်္ခါရကို ဆင်ခြင်ကြည့်ရှုလတ်သော် ကုန်နေပြီကို သိ၍ "ဗုဒ္ဓမြတ်စွာအား ပရိနိဗ္ဗာန်စံဖို့ရန် ခွင့်ပြုသိစေပြီး အဂ္ဂသာဝက နှစ်ပါးစသော မထေရ်မြတ်များ၊ သီတင်းသုံးဖော် အရိယာသံဃာတော်တို့ကို ပန်ကြားပြီး မိမိဘိက္ခုနီမကျောင်းသို့ ပြန်လာ၍ ပရိနိဗ္ဗာန်စံရမူ ကောင်းလေစွ"ဟု ကြံစည်မိ၏။ ထို့အတူ သာကီဝင်မင်းသမီး ဘိက္ခုနီမ ငါးရာတို့လည်း ကြံစည်ဆင်ခြင်မိကြ၏။ ထိုအခါ မြေငလျင် ပြင်းစွာ တုန်လှုပ်၏။ အခါမဟုတ် မိုးထစ်ချုန်း၏။

မိထွေးတော်ဂေါတမီထေရီမကြီးက-

"ငါသည် အိုခြင်း ကင်းရာ, သေခြင်းကင်းရာ, မနှစ်သက်အပ်သည့် သတ္တဝါ သင်္ခါရတို့နှင့် တွေ့ဆုံရခြင်း ဆင်းရဲကင်းရာ, နှစ်သက်အပ်သည့် သတ္တဝါသင်္ခါရ တို့နှင့် ကွေကွင်းရခြင်း ဆင်းရဲကင်းရာ အသခ်တဓာတ် နိဗ္ဗာန်ရွှေပြည်မြတ်သို့ သွားရောက်တော့အံ့"ဟု ရွတ်ဆိုလိုက်လျှင် နတ်လူတို့သည် ငိုကြွေးကြလေသည်။

မြို့လယ်လမ်းမကြီးအတိုင်း ဘိက္ခုနီမများထွက်လာရာ ဥပါသိကာမတို့သည် ငိုကြွေးကြလေသည်။ ထေရီမကြီးသည် သောကပျောက်ရေး တရားကို ဟောတော်မူခဲ့ရသေး၏။ ဗုဒ္ဓမြတ်စွာထံတော်သို့ ရောက်သောအခါ "အဟံ သုဂတ တေ မာတာ၊ တွံ စ ဝီရ ပိတာ မမ" စသော ၁၆ ဂါထာတို့ဖြင့် ပရိနိဗ္ဗာန် စံလိုကြောင်း ခွင့်တောင်းကန်တော့ပြီးနောက် ဗုဒ္ဓမြတ်စွာက ခွင့်ပြုတော်မူ၏။ ထို့နောက် ရဟန်းသံဃာတော်များ, အရှင်ရာဟုလာ, အရှင်အာနန္ဒာ, အရှင်နန္ဒ တို့ကိုလည်း ရိုသေစွာရှိခိုး၍ ခန္ဓာ၏ အပြစ် ဖော်ပြကာ ပရိနိဗ္ဗာန် ဝင်စံ လိုကြောင်း ခွင့်တောင်းပြန်လေသည်။ အခြားအရှင်တို့မှာ ရဟန္တာဖြစ်ကြ၍ ဓမ္မသံဝေဂ ဖြစ်ကြသော်လည်း အရှင်အာနန္ဒာမှာ သေက္ခအရိယာဖြစ်၍ သည်းစွာငိုကြွေးလေသည်။

ထို့နောက် ဗုဒ္ဓရှင်တော်ဘုရားက မိထွေးတော် ဂေါတမီအား တန်ခိုး ပြာဋိဟာကို ပြခိုင်းလေ၏။ ထေရီမကြီးသည် တစ်ပါးတည်းက အများဖြစ်ခြင်း, အများကြီးမှ တစ်ပါးတည်းဖြစ်ခြင်း, ပေါ်ခြင်း, ပျောက်ကွယ်ခြင်း, နံရံတဖက် တောင်တဖက်သို့ မငြိမကပ်သွားခြင်း စသော တန်ခိုးကို ပြသည့်အပြင် မြင်းမိုရ် တောင်ကို ထီးရိုး မဟာပထဝီမြေကြီးကို ထီးရွက်ပြု၍ အထက်အောက် ပြန်လှန် ကာ ကောင်းကင်၌ ထီးသဖွယ် ဆောင်၍ စင်္ကြံလျှောက်ကာ ပြသလေသည်။ နေခြောက်စင်း ထွက်သောအခါကဲ့သို့ သြကာသလောကတစ်ခုလုံး အခိုးတွေ ဖုံးနေပုံကိုလည်း ဖန်ဆင်းပြသလေသည်။ တန်ခိုးပြပြီးနောက် ကောင်းကင်မှ ဆင်းသက်၍ မြတ်စွာဘုရားကို ရှိခိုးကာ "သားတော်ဘုရား-တပည့်တော်မ မိထွေးတော်ကြီးသည် အသက် ၁၂၀ ရှိပါပြီ အိုမင်းလှပါပြီ သားတော်ဘုရား၊ ပရိနိဗ္ဗာန်ဝင်စံပါရစေတော့" ဟု လျှောက်ထားလေသည်။ ထို့အတူ ငါးရာသော ဘိက္ခုနီမတို့သည်လည်း ကောင်းကင်သို့ တက်၍ တန်ခိုးအမျိုးမျိုးကို ပြသ ပြီးနောက် ဗုဒ္ဓမြတ်စွာအား ပရိနိဗ္ဗာန် ဝင်စံခွင့် တောင်းကြလေသည်။ ဗုဒ္ဓ ဘုရားရှင်၏ ခွင့်ပြုချက်ရသောအခါ မိထွေးတော် ဂေါတမီ အမှူးရှိသော ဘိက္ခုနီမငါးရာတို့သည် မိမိတို့ ကျောင်းအသီးသီး၌ ထက်ဝက်ဖွဲ့ခွေ ထိုင် နေတော်မူလျက်ရှိစဉ် ဘိက္ခုနီမတို့ကို ဆည်းကပ်သော ဥပါသိကာမတို့က ရင်ဘတ်ကို တီးခတ်၊ ဗုန်းဗုန်းပစ်လှဲ ငိုကြွေးကြကုန်၏။ မိထွေးတော်ကြီးက "သမီးတို့-ငိုကြွေးခြင်းဖြင့် အကျိုးမရှိ၊ သင်္ခါရတရားတို့သည် အမြဲမရှိ၊ ကွေကွင်း ရခြင်း အဆုံးရှိ၏၊ ဖောက်ပြန်တတ်၏" ဟု ဟောပြောဆုံးမ၍ အိမ်သို့ ပြန်မစေ ကုန်ပြီးလျှင် လောကီစျာန်သမာပတ် ရှစ်ပါးတို့ကို အနုလုံ ပဋိလုံ ဝင်စား၍ စတုတ္ထစျာန်မှ ထပြီးသော် အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် အငြိမ်းကြီး ငြိမ်းလေ၏။

ဘိက္ခုနီမငါးရာတို့သည်လည်း ထို့အတူ နိဗ္ဗာန်ယူသိမ်း ငြိမ်းကြလေကုန်၏။ ထိုသို့ ဘိက္ခုနီငါးရာ တပြိုင်နက် ပရိနိဗ္ဗာန်စံယူသောအခါ ပြင်းစွာ မြေတုန်လှုပ်ခြင်း၊ ကောင်းကင်မှ ဥက္ကာကျခြင်း၊ နတ်မိုး နတ်စည် ချုန်းမြည်ခြင်း၊ နတ်တို့ ငိုယိုမြည်တမ်းလျက် ထိတ်လန့် သံဝေဂရ၍ "အနိစ္စာ ဝတ သင်္ခါရာ၊ ယထာယံ ဝိလယံ ဂတာ"ဟု သံဝေဂစကား မြွက်ဆိုခြင်း စသည့် အံ့ဖွယ်တို့သည် ဖြစ်ကုန်၏။

မြတ်စွာဘုရားသည် ရဟန်းသံဃာများနှင့်တကွ ကိုယ်တော်တိုင် ကြွတော်မူပြီးလျှင် (၁) ရှေ့ဆုံးမှ လူ နတ် နဂါး အသူရာ ဗြဟ္မာများ (၂) ထို့နောက် ဝိသကြုံ ဖန်ဆင်းအပ်သည့် ရွှေသားအလောင်းစင်ပြာသာဒ် ငါးရာထက်သို့ ညောင်စောင်းနှင့်တကွ တင်စေ၍ ဘိက္ခုနီမငါးရာတို့၏ အလောင်းစင်ပြာသာဒ်တို့ကို နတ်တို့က ထမ်းလျက်လည်းကောင်း (၃) ထို့နောက်မှ မိထွေးတော်ဂေါတမီ၏ အလောင်းစင်ပြာသာဒ်ကို လောကပါလနတ်မင်းကြီး လေးယောက်တို့က ထမ်းလျက်လည်းကောင်း (၄) ထို့နောက်မှ သံဃာတော်များနှင့် မြတ်စွာဘုရားရှင် လိုက်ပါတော်မူ၍ လည်းကောင်း ဤအစီအစဉ်အတိုင်း လမ်းမ တစ်လျှောက် ကောင်းကင်အပြည့် ဇိတာန်မျက်နှာကြက်မိုးကာ အမျိုးမျိုးသော ပန်းနံ့သာ သာယာချိုအေးသော တူရိယာတို့ဖြင့် ပူဇော်ချီးမြှောက်ကြ၍ သုသာန်သို့ ပို့ကြလေ၏။

နေသည် မွန်းတည့်ချိန်ဖြစ်သော်လည်း လကဲ့သို့ အေးမြ၍ နေ၏။ မိထွေးတော်၏ နိဗ္ဗာန်စံမြန်းခန်းသောက် မြတ်ဗုဒ္ဓ၏ နိဗ္ဗာန်စံမြန်းခန်းသည်ပင် အံ့ဖွယ် မများလှချေ။ မိထွေးတော် ဂေါတမီ နိဗ္ဗာန်မှုသားရာ၌ကား မြတ်စွာဘုရားရော အရှင်သာရိပုတ္တရာပါ ကြပ်မတ်စီရင်ကြကုန်၏။

မြတ်စွာဘုရားသည် မိထွေးတော်၏ အရိုးဓာတ်တို့ကို ကိုင်ပြတော်မူလျက် လူ နတ် ဗြဟ္မာ ပရိသတ်တို့အား အနှစ်သာရပြည့်ဝပြီး ခိုင်မြဲစွာ တည်တံ့သော သစ်ပင်ကြီး၏ ပင်စည်သည် အလွန်ပွားများ ကြီးကျယ်၏။ ထိုပြန့်ပွားကြီးကျယ်သော ပင်စည်သည် ပင်ကိုသဘော မမြဲလေသောကြောင့် ယိမ်းယိုင်ပျက်ပြားလဲပြိုသကဲ့သို့ သစ်ပင်ကြီးပမာ ဘိက္ခုနီသံဃာ၏ ပင်စည်ကြီးနှင့် တူသော မိထွေးတော်ဂေါတမီသည် နိဗ္ဗာန်ယူသိမ်း ငြိမ်းလေပြီတကားဟု တရားပြဆုံးမတော်မူ၏။

## ၂။ ခေမာထေရီ

ခေမာသည် သာဂလမြို့ မဒ္ဒရာဇ်မင်း၏ သမီးတော် ဖြစ်သည်။ ပြည်သူတို့ကို ဘေးကင်းစေလျက် မွေးဖွားလာသူ ဖြစ်သောကြောင့် "ခေမာ" ဟု

အမည်တွင်လေသည်။ ခေမာသည် ဗိမ္ဗိသာရမင်းကြီး၏ အလွန် ချစ်မြတ်နိုးသည့် မိဖုရားကြီး ဖြစ်၍ အလွန်ချော အလွန်လှသည့်အတွက် သူ့အဆင်း၌ အလွန် မာန်ယစ်သူ ဖြစ်လေသည်။

ဗုဒ္ဓမြတ်စွာသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေတော်မူစဉ် ခေမာမိဖုရားသည် မြတ်ဗုဒ္ဓက ရုပ်၌ အပြစ်ကို ပြ၍ တရားဟောတော်မူသတဲ့ဟု တဆင့်စကား ကြားသိရ၍ ငါသွားလျှင်လည်း ဗုဒ္ဓမြတ်စွာသည် အဆင်းရုပ်၌ အပြစ်ကိုပင် ပြတော်မူလေရာ၏ဟု ကြံစည်မိကာ မြတ်ဗုဒ္ဓထံသို့ အဖူး အမြော် မသွားရောက်ချေ။

ဗိမ္ဗိသာရမင်းကြီးသည် ဗုဒ္ဓမြတ်စွာ၏ တပည့်အရိယာတစ်ယောက် ဖြစ်လျက် သူ၏ မိဖုရားမှာ ဗုဒ္ဓထံတော်သို့ အဖူးအမြော် မသွားရောက်ခြင်းကို မနှစ်သက်နိုင် ရကား စာဆိုကဝိတို့အား ဝေဠုဝန်ကျောင်းတိုက်ကြီး၏ သာယာပုံအကြောင်း တို့ကို ဖွဲ့နွဲ့သီကုံးစေလျက် ခေမာမိဖုရား ကြားလောက်ရာအရပ်၌ သီဆိုကြ ရမည်ဟု အမိန့်ပေးလေ၏။

ထိုသီချင်းသံကို ခေမာမိဖုရားကြားရလျှင် ရှေးက ဝေဠုဝန်ကျောင်းတော်၌ မင်းတရားနှင့် မွေ့လျော်ပျော်ပါးဖူးသော်လည်း မသွားရဖူးသကဲ့သို့ အဆန်း တကြယ် အံ့သြဖွယ်ကြီး ထင်၍ ကြည့်ရှုချင်သော အာသာဆန္ဒ ပြင်းပြလျက် ဗိမ္ဗိသာရမင်းကြီးအား ခွင့်ပန်ပြီး ဗုဒ္ဓမြတ်စွာနှင့် မတွေ့ရအောင် ကြံ၍ မြတ်ဗုဒ္ဓ ဆွမ်းခံဝင်ချိန်တွင် ကြီးစွာသော အခမ်းအနားဖြင့် ဝေဠုဝန် ဥယျာဉ်တော်သို့ ဝင်ပြီး ပျားပိတုန်း တသောသော, ဥသြတွန်ကျူး, ဒေါင်းမြူး ကခုန်, လူစုံ မရောပြွမ်း, ဆိတ်ငြိမ်း လူသံ, စကြံ မဏ္ဍပ်, ကျောင်း ဇရပ်တို့ဖြင့် ယောဂီ သူမြတ်တို့ မွေ့လျော်ရာ ဝေဠုဝန်ဥယျာဉ်တော်ကို ရှုမျှော်လှည့်လည်လေ၏။ ထိုသို့ လှည့်လည်စဉ် သစ်ပင်ရင်း၌ ရဟန်းတရားအားထုတ်နေသည့် ရဟန်းပျို တစ်ပါးကို မြင်၍ ဤအရွယ်မှာ မွေ့လျော်ဖွယ်အာရုံ ကာမဂုဏ်ကို ခံစားပြီး အသက်ကြီးမှ ရဟန်းတရား အားထုတ်သင့်၏ဟု အမှားကြံဆင်ခြင်၍ မြတ်ဗုဒ္ဓ မရှိဟူသော အမှတ်ဖြင့် ဂန္ဓကုဋီကျောင်းသို့ လှည့်ပတ်ချဉ်းကပ်လေသော် ခေမာ မိဖုရားလာလိမ့်မည်ကို သိ၍ ဆွမ်းခံမကြွဘဲ ဂန္ဓကုဋီကျောင်းတော်၌ ခေမာ မိဖုရားထက် အဆဆ သာလွန်လှပ တင့်တယ်သော မိန်းမငယ် ဣဒ္ဓိရုပ်ကို ဖန်ဆင်းတော်မူလျက် ယပ်ခတ်စေ၍ နေတော်မူသော မြတ်စွာဘုရားရှင်ကို ပက်မင်း ဖူးမြင်ရလေ၏။

ခေမာမိဖုရားသည် မိမိအဆင်း၌ တပ်မက်ခြင်းကို ပယ်စွန့်၍ ထိုဣဒ္ဓိရုပ်သူငယ်မအဆင်း၌ ပြင်းစွာတပ်မိန်း တစိန်းစိန်း ကြည့်ရှုဆဲ၌ပင် ဗုဒ္ဓမြတ်စွာ၏ ဖန်ဆင်းမှုကြောင့် ထိုသူငယ်မမှာ ရွတ်တအိုမင်း အဆင်းဖောက်ပြန် ဆံဖြူ သွားကျိုး ညှင်းဆိုး မှဲ့စွဲလျက် တွဲရွဲကျသော သားမြတ်, တွန့်ကပ်ပိန်ခြောက်သော အရေအသား, ကိုးရိုး ကားရား ခြေလက်အင်္ဂါ, ကြီးစွာသော အဆစ်အပိုင်း, အကြော ပြိုင်းပြိုင်းနှင့် ကုပ်ကိုင်းသော ကိုယ်ရှိလျက် ပင့်သက်ရှူရှိုက် တုန်တုန်ခိုက်ခိုက် မျက်ဖြူဆိုက်၍ ဖိုက်ခနဲ လဲသေသည်ကို မြင်ရလေလျှင် ခေမာမိဖုရား၏ စိတ်သန္တာန်၌ ဓာတ်လေးပါးဆောင် ဤရုပ်ကောင်သည် ပင်ကိုသူ့သဘောဝယ် မစင်ကြယ်ပါတကား၊ စက်ဆုပ်ဖွယ်ရာပါတကား၊ ယင်းသို့ စက်ဆုပ်ဖွယ် ရုပ်ကောင်၌ ပညာအန္ဓ အမိုက်မတို့သည် မွေ့လျော် ပျော်ပိုက်နှစ်ခြိုက်၍ နေကုန်၏တကားဟု သံဝေဂဉာဏ် ဖြစ်လာလေ၏။ ထိုအခါ ဗုဒ္ဓမြတ်စွာက-

(က) ချစ်သမီး ခေမာ-ကျင်နာခံခက် နှိပ်စက်တတ်သော, မစင်မကြယ် ပုပ်ဟောင် ညှီလှောင်သော အနံ့ရှိသော, အထက် အောက် တစက်စက် ယိုထွက်သော, လူမိုက်တို့သည် လွန်စွာ စုံမက် နှစ်သက် မြတ်နိုးအပ်သော ခန္ဓာကိုယ်ကို စေ့စေ့ ကြည့်ရှုလော့။

(ခ) မတင့်တယ် စက်ဆုပ်ဖွယ်ဟု စိတ်ဝယ်ထင်ခြင်းမှာ တစ်ခုတည်းသော အာရုံရှိသော ကောင်းစွာ တည်ကြည်သော ဘာဝနာစိတ်ကို ပွားစေလော့၊ ကာယဂတာသတိ၌ ဖြစ်သော အောက်မေ့ခြင်း သတိသည် သင့်အား ဖြစ်စေလော့၊ ငြီးငွေ့ခြင်းများသည် ဖြစ်စေလော့။

(ဂ) ချစ်သမီးခေမာ-ဤငါ့ထံကပ်ခို မိန်းမ၏ကိုယ်သည် အိုမင်းရွတ်တွ ပျက်စီးရသကဲ့သို့ ထို့အတူ သင်၏ကိုယ်သည် အိုမင်းရွတ်တွ ပျက်စီးရလတ္တံ့၊ သင်၏ကိုယ်သည် မသေခင် တင့်တယ်လှပသည်ဟု ထင်ရသကဲ့သို့ ထို့အတူ ငါ့ထံကပ်ခို ဤမိန်းမ၏ ကိုယ်သည် မသေခင် တင့်တယ်လှပသည်ဟု ထင်ရ၏။ အတွင်း, အပလည်းဖြစ်သော ကိုယ်၌ တပ်မက်သော ဆန္ဒရာဂကို ပယ်စွန့်ဖြတ်တောက်လော့။

**(ဃ) ပေါင်း၍တည်ဟန် သဏ္ဍာန်အကောင်အထည်မရှိဟု ခွဲထုစပ်ဖန် အဖြစ်အပျက်ကို ရှုသော ဝိပဿနာဉာဏ်ကိုလည်း ပွားစေလော့၊ ထောင်လွှားသော မာနကို စွန့်ပယ်လော့၊ ထိုသို့ စွန့်ပယ်ခြင်းကြောင့် ၁၁-ပါးသောမီး ငြိမ်းကုန်သည် ဖြစ်၍ နိဗ္ဗာန်ထုတ်ချောက် ရောက်ရလတ္တံ့။**

(၄) ပင့်ကူကောင်သည် မိမိပြုအပ်သော ကွန်ရက်အသွင် ပင့်ကူချည်မျှင်သို့ အစဉ်လျှောက်၍ နေသကဲ့သို့ အကြြင်သတ္တဝါတို့သည် ရာဂဖြင့် တပ်မက်မော ကုန်၏။ ထိုသတ္တဝါတို့သည် မိမိပြုအပ်သော ကိလေသာအလျဉ် ခန္ဓာအစဉ်သို့ အစဉ်လိုက်၍ နေရကုန်၏။ ပညာရှိတို့သည် ကာမဂုဏ်ချမ်းသာကို ငဲ့ကွက် တွယ်တာခြင်း မရှိကုန်ဘဲ ပယ်စွန့်ကုန်၍ ထိုကိလေသာအလျဉ် ခန္ဓာအစဉ် ကိုလည်း တစမကျန် တွန်းလှန် ဖြတ်တောက်ကုန်၍ နိဗ္ဗာန်ထုတ်ချောက် သွားရောက် ကြကုန်၏။

ဤတရားဒေသနာတော်ကို ကြားနာရ၍ ခေမာမိဖုရား စတ်ကြည်သာ ရွှင်လန်းနေသည်ကို သိမြင်တော်မူကာ ဗုဒ္ဓမြတ်စွာသည် မဟာနိဒါနသုတ်ကို ဟောတော်မူ၏။ ထိုသုတ်ကို ကြားနာရသော ခေမာမိဖုရားသည် ရှေးက မိမိ လေ့ကျက်ခဲ့ဖူးသည်ကို အမှတ်ရကာ ယိုနေရာ၌ပင် သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်လေ၏။ ထိုအခါ ခေမာမိဖုရားသည် မိမိ ရှေးက ရုပ်မာနဖြင့် အထင်မှား အမြင်မှားခဲ့သည့် အပြစ်ကို တောင်းပန်ကန်တော့လျက် မြတ်ဗုဒ္ဓ၏ ခြေတော်ရင်း၌ ဝပ်စင်းကာ လျှောက်ဆိုသည်မှာ-

(၁) အလုံးစုံသော တရားကို သိမြင်တော်မူသော မြတ်စွာဘုရား....အရှင် ဘုရားအား ရှိခိုးပါ၏ဘုရား၊ မဟာကရုဏာ၏ တည်ရာဖြစ်တော်မူသော မြတ်စွာ ဘုရား.... သံသရာဝဲဂယက်မှ ကူးမြောက်တော်မူပြီးသော မြတ်စွာဘုရား.... ဘယ်အခါမှမသေ အမြိုက်မေ့ကို ပေးဝေတော်မူသော မြတ်စွာဘုရား....အရှင် ဘုရားအား ရှိခိုးပါ၏ဘုရား။

(၂) မိစ္ဆာညစ်ထေး ချိုပျစ်စေးသို့ ပြေးဝင်သော, ကာမဂုဏ်ကို ခင်စုံတမက် နှစ်သက်လိုက်စား၍ မျက်စိလည်လမ်းမှားသော အကျွန်ုပ်သည် လှပတင့်တယ် မှူချင်စဖွယ် မိန်းမငယ်အဆင်းကို ဖန်ဆင်းတုံရှောင်း နည်းကောင်းဥပါယ်တံ၏ ဖြင့် ရှင်ပင်ဘုရားသည် လိမ္မာယဉ်ကျေးအောင် နည်းပေးဆုံးမအပ်သည်ဖြစ်၍ ကိုယ်နှုတ်နှလုံးကို ယဉ်ကျေးအောင် ဆုံးမခြင်း၌ နှစ်ခြိုက်ရွှင်ပျော် မွေ့လျော်ရပါပြီ ဘုရား။

(၃) အရှင်ဘုရားကဲ့သို့ သဘောရှိကုန်သော သီလ သမာဓိ အစရှိကုန်သော ဂုဏ်တို့ဖြင့် ကြီးမြတ်တော်မူသော ဘုရားရှင်တို့ကို မဖူးမြင်ရသဖြင့် ကျေးကွင်း ရခြင်းကြောင့် သတ္တဝါတို့သည် သံသရာတည်းဟူသော မြစ်ပင်လယ်၌ ကြီးစွာသော ဆင်းရဲကို ခံစားကြရကုန်၏။

(၄) တပည့်တော်မသည် လူသုံးပါးတို့၏ ကိုးကွယ်ရာဖြစ်သော, ကိလေသာ ရန်သူ ကင်းဝေးတော်မူသော, ကိလေသာတို့၏ ကုန်ရာနိဗ္ဗာန်သို့ ရောက်တော်မူသော အရှင်ဘုရားကို ဝေဠုဝန်ဥယျာဉ်၌ နေတော်မူပါလျက် လာရောက် ဦးမတင် မဖူးမြင်သောအပြစ်ကို လျှောက်ကြားတောင်းပန်ပါ၏ဘုရား။

(၅) သတ္တဝါအများတို့၏ အကျိုးစီးပွားကို ဆောင်တော်မူသော မြတ်သော မဂ်ဖိုလ်နိဗ္ဗာန်ကို ပေးတော်မူတတ်သော အရှင်ဘုရားကို "အစီးပွားမဲ့အောင် ကဲ့ရဲ့ ရှုတ်ချ တတ်သည်"ဟူ၍ ယုံမှား တွေးတောလျက် အရောင်အဆင်း၌ လွန်မင်းစွာ မွေ့လျော် ပျော်ပိုက်သည်ဖြစ်၍ မဆည်းကပ် မလာရောက်မိပါ' ထိုအပြစ်ကို လျှောက်ကြားတောင်းပန်ပါ၏ဘုရား။

ဤသို့ တောင်းပန် လျှောက်ထားလေသော် ဗုဒ္ဓမြတ်စွာသည် အဖြိုက် ရေချမ်းဖြင့် သွန်းဖျန်းတော် မူလိုက်သကဲ့သို့ ခေမာမိဖုရားကို သည်းခံကြား မိန့်ကြားတော်မူလေ၏။ ခေမာမိဖုရားသည် ဗုဒ္ဓမြတ်စွာအား ရှိခိုးပြီး၍ ရွှေနန်းတော်သို့ ပြန်လာကာ ဗိမ္ဗိသာရမင်းကြီးကို ရဟန်းမ ပြုရန် ခွင့်ပန်စကား လျှောက်ကြားလေ၏။ ဗိမ္ဗိသာရမင်းကြီးသည် ခွင့်လွှတ်ကြောင်း ဆုပေးစကားကို မိန့်တော်မူပြီးလျှင် ခေမာမိဖုရားကို ရွှေသပ်းစင်ထက်တင်၍ ကြီးကျယ် ခမ်းနားစွာ ဘိက္ခုနီမကျောင်းတိုက်သို့ ဆောင်၍ ရှင်ရဟန်းမ ပြုစေလေ၏။

ခေမာထေရီသည် ဥပုသ်ပြုရာ၌ ဝတ်ပြုရင်း ဆီမီးတောက်ထွန်းခြင်း, ဆီမီး ငြိမ်းသေခြင်းများကို မြင်၍ ထိတ်လန့်သံဝေဂဉာဏ်ကို ယူသဖြင့် ရုပ်နာမ်သင်္ခါရတို့၏ အဖြစ်အပျက်ကို ဆက်၍ တဖန် သုံးသပ်ဆင်ခြင်ပြန်လျှင် ပဋိသမ္ဘိဒါလေးပါး၊ အဘိညာဉ် ခြောက်ပါးတို့ဖြင့် တန်ဆာဆင်အပ်သော အရဟတ္တဖိုလ်သို့ ရောက်ရှိကာ ရဟန္တာထေရီမ ဖြစ်လေ၏။

ခေမာထေရီသည် ပရိယတ် ပဋိပတ် နှစ်ရပ် စွယ်စုံ လေ့လာသူ ဖြစ်သဖြင့် ဝိသုဒ္ဓိခုနစ်ပါး၌ အထူးကျွမ်းကျင်လိမ္မာသည့်အပြင် ကထာဝတ္ထုဆယ်ပါးတို့၌လည်း ရဲရင့်သူ ဖြစ်လျက် အဘိဓမ္မာနည်း၌လည်း ကျွမ်းကျင်သူ ပညာထူးချွန်သူ ဖြစ်လေသည်။ ကောသလမင်းကြီးအားလည်း သိပ်မွေ့သောတရား ခေမသုတ္တန်ကို ဟောကြားလေသည်။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ရဟန်းတို့- ပညာဉာဏ်ကြီးသည့် ငါဘုရား၏ သာဝိကာတပည့်မ ဘိက္ခုနီမ တို့တွင် ခေမာထေရီဘိက္ခုနီမသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူလေသည်။

၃။ ဥပ္ပလဝဏ္ဏာထေရီ

ဥပ္ပလဝဏ္ဏာသည် သာဝတ္ထိပြည် သေဌေးမျိုး၌ ဖြစ်၏၊ သေဌေးသမီး၏ ကိုယ်ရေအဆင်းကား ကြာညိုပန်းနှင့် တူသောကြောင့် ဥပ္ပလဝဏ္ဏာဟု မှည့်ခေါ်ကြ၏၊ ဥပ္ပလဝဏ်၏ အရွယ်သို့ ရောက်သောအခါ ဇမ္ဗူဒိပ်ကျွန်းအလုံး၌ ရှိသော မင်းသေဌေး အားလုံးကပင် စာသဝဏ်နှင့် တမန်စေလွှတ်၍ တောင်းခံကြလေသည်၊ မတောင်းခံသော မင်းသေဌေးဟူ၍ မရှိချေ။

ထိုအခါ ဖခင်သေဌေးကြီးသည် "ငါကား သမီးတစ်ယောက်တည်းဖြင့် သမီးကို လိုချင်သူအားလုံးတို့၏ စိတ်ကို ကျေနပ်မှု ရယူခြင်းငှာ မည်သည့်နည်းဖြင့်မျှ စွမ်းနိုင်လိမ့်မည်မဟုတ်၊ ဥပါယ်တံမျဉ်ကို ငါပြုပေအံ့"ဟု ကြံစည်၍ သမီးကို ခေါ်ပြီး "ချစ်သမီး-ရဟန်းမ ပြုနိုင်ပါမည်လော"ဟု မေးမြန်းလေ၏။ ဥပ္ပလဝဏ် သေဌေးသမီး ကိုယ်တိုင်ကပင် သံသရာ နောက်ဆုံးဘဝ၌ ဖြစ်သူ ပစ္ဆိမဘဝိက သမီးဖြစ်လေသောကြောင့် ဖခင်ကြီး၏ မေးမြန်း ပြောဆိုလိုက်သော စကားသည် ဦးခေါင်းထက်ဝယ်လောင်းချလိုက်သည့် အကြိမ်တစ်ရာ ချက်လေပြီးသော ဆီမွှေးကဲ့သို့ ရှိလေ၏။ ဖခင်ကြီးကို "ရဟန်းမ ပြုပါမည်"ဟု ဝမ်းမြောက်ဝမ်းသာ ဖြေကြားပြောလိုက်လေ၏။

သေဌေးကြီးသည် သမီးဥပ္ပလဝဏ္ဏာအား ကြီးစွာသော ချီးမြှောက်သက္ကာရမှု ပြုလုပ်၏၊ ဘိက္ခုနီကျောင်းသို့ ခေါ်ဆောင်ပြီးလျှင် ရှင်ရဟန်းမ, ပြုလုပ်စေ၏၊ ဥပ္ပလဝဏ္ဏာ ဘိက္ခုနီမ ရဟန်းပြု၍ မကြာမြင့်မီ ဥပုသ်အိမ်သိမ်အပြင် ဝက်ပြုရန် အလှည့် ကျရောက်လေ၏၊ ဥပ္ပလဝဏ္ဏာ ဘိက္ခုနီမသည် ဆီမီး ညှိထွန်း၍ ဥပုသ်အိမ် သိမ်အပြင်ကို တံမြက်လှည်းပြီးလျှင် ဆီမီးတောက် အညွန့်၌ ကမ္မဋ္ဌာန်းအာရုံနိမိတ်ကို ရယူလျက် ရပ်တည်လျက်ပင် အကြိမ်ကြိမ် အဖန်ဖန် ဆီမီးညွှန့်ကို ကြည့်ရှု၍ တေဇောကသိုဏ်းကို ပွားများအားထုတ်လေရာ တေဇောကသိုဏ်းကို ရ၍ ထိုတေဇောကသိုဏ်း စျာန်သမာဓိကို အခြေ ပြုကာ ဝိပဿနာတရား ပွားများ အားထုတ်လေလျှင် မကြာမီမှာပင် အရဟတ္တဖိုလ်သို့ ရောက်လေ၏၊ ရဟန္တာထေရီမ ဖြစ်လေ၏၊ ရှေးဆုတောင်းအတိုင်း တန်ခိုးစိမ် ဖန်ဆင်းခြင်း၌ ဧသဒဂ်ဘွဲ့ဧတဒဂ်ငါးတန် လေ့လာနိုင်နင်းပြီးသူ ဖြစ်လေသည်။

ဥပ္ပလဝဏ္ဏာ ရဟန္တာထေရီမသည် မြတ်စွာဘုရားရှင် ခုနစ်ဝါမြောက် ရောက်လတ်သောအခါဝယ် ယမိုက်ပြာဋိဟာ ပြတော်မူရာမှာ မြတ်စွာဘုရား-တပည့်တော်မ တန်ခိုးပြာဋိဟာကို ပြုပါရစေဘုရား စသည်ဖြင့် မဆွံ့မကြောက် ခြင်္သေ့ဟောက်သကဲ့သို့ ရဲရဲတောက်စကား လျှောက်ထားခဲ့လေသည်။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ နေစဉ် "ရဟန်းတို့-တန်ခိုးနှင့် ပြည့်စုံကြသည့် ငါဘုရား၏ တပည့်မ သာဝိကာ ဘိက္ခုနီမတို့တွင် ဥပ္ပလဝဏ္ဏာ ဘိက္ခုနီမသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်ခဲ့လေသည်။

## ၄။ ပဋာစာရာထေရီ

ပဋာစာရီသည် သာဝတ္ထိပြည်သူ သေဋ္ဌေးသမီး ဖြစ်လေ၏။ သေဋ္ဌေးသမီး အရွယ်ရောက်လတ်သော် မိမိအိမ်၌ နေသူ အလုပ်သမား တစ်ယောက်နှင့် မေတ္တာသက်ဝင် ချစ်ခင်နေ၏။ မိဘတို့က အမျိုးဇာတ်တူသူ သေဋ္ဌေးသား တစ်ယောက်နှင့် ထိမ်းမြားမှု ပြုအံ့ဆဲဆဲတွင် မေတ္တာသက်ဝင် ချစ်ခင်ခဲ့ရင်း ဖြစ်သော အိမ်ကျွန် အလုပ်သမားအား "ငါ့ကို ခေါ်ဆောင်၍ ပြေးလော့"ဟု အသိပေးစကား ပြောကြားလေ၏။ ထိုအိမ်ကျွန် အလုပ်သမားသည် လျှောက် ပတ်သော ဥစ္စာနှစ်ကို ယူဆောင်ကာ သေဋ္ဌေးသမီးကို ခိုး၍ သာဝတ္ထိပြည်မှ လေးယူဇနာတိုင်တိုင် ဖွဲ့ခွာထွက်ပြေးခဲ့ပြီး ရွာငယ် တစ်ရွာတွင် နေလေ၏။

ပဋာစာရီ၏ ဝမ်းကြာတိုက်၌ ကိုယ်ဝန်အရင့်အမာ ဖြစ်လတ်သော် လင်ဖြစ် သူကို "ဤအရပ်သည် ကျွန်ုပ်တို့အတွက် ကိုးကွယ်ရာမဲ့သော အရပ်ဖြစ်လေသည်။ ထို့ကြောင့် မိဘအိမ်သို့ ပြန်ကြပါစို့"ဟု ပြောဆိုတိုင်ပင်၏။ လင်ယောက်ျား ဖြစ်သူမှာ မပြန်ဝံ့၍ အချိန်ကုန်စေသော် ပဋာစာရီသည် လင်မရှိစဉ် မိဘအိမ်သို့ ပြန်လေ၏။ လင်ဖြစ်သူ အိမ်သို့ ပြန်ရောက်၍ ချစ်ဇနီးကို မတွေ့ရလျှင် အိမ်နီးချင်းတို့ကို မေး၍ မိဘအိမ်သို့ ပြန်သွားကြောင်း သိရသောအခါ "အော်....ငါ့ကို အမှီပြု၍ သေဋ္ဌေးသမီးသည် ကိုးကွယ်ရာမဲ့ ဖြစ်ရှာချေ၏"ဟု သနားကရုဏာဖြစ်လျက် အပြေးလိုက်သော် လမ်းခရီးအကြား၌ မီလေ၏၊ ပဋာစာရီ သည် လမ်းခရီးအကြားမှာပင် သားဖွားမြင်လေသည်။ ယခုအခါ သားဖွားခြင်း ကိစ္စ ပြီးပြီဖြစ်၍ မိဘထံသို့ မသွားတော့ဘဲ အိမ်သို့ပြန်ရန် သဘောတူ တိုင်ပင်ပြီး ထိုနေရင်း တောရွာငယ်သို့ ပြန်ကြလေကုန်၏။

တဖန် ပဋာစာရီ၏ ဝမ်းကြာတိုက်၌ ဒုတိယအကြိမ် ကိုယ်ဝန်တည်ပြန်၏။ ပဋာစာရီက မိဘရပ်ထံ ပြန်ဖို့ လင်ယောက်ျားကို ပြောကြားသော်လည်း ခင်ပွန်းဖြစ်သူက အချိန်ဆွဲနေသဖြင့် သေဋ္ဌေးသမီးသည် တစ်ယောက်တည်း မိဘအိမ်သို့ ခရီးထွက်ခဲ့၏၊ ရှေးနည်းအတူပင် လင်ယောက်ျား လိုက်လာကာ လမ်းခရီးအကြား၌ မီလေ၏။

ပဋာစာရီသည် လမ်းခရီးအကြား၌ သားဖွားခြင်း ဖြစ်ပြီးလျှင်ပင် အရပ် လေးမျက်နှာကို၌ မိုးကြီး သည်းစွာ ရွာသွန်းလေသည်။ ပဋာစာရီသည် လင်ယောက်ျားကို မိုးခိုဖို့ နေရာပြုလုပ်ရန် ပြောဆိုလေ၏။ လင်ယောက်ျားသည်

ထင်းချောင်းကုတ်တံတို့ဖြင့် တဲကုပ်ကလေး ဖြစ်ကတတ်ဆန်း ဆောက်လုပ်ပြီး အမိုးအတွက် ညဥ့်အချိန် ဖြစ်သဖြင့် တောင်ပို့ ရှိ မရှိ မသိရှာဘဲ တစ်ခုသော တောင်ပို့အခြေ၌ မြက်ကို နုတ်လေ၏၊ မြွေဟောက်သည် ထိုယောက်ျား၏ ခြေ၌ ပေါက်လိုက်လေ၏၊ ထိုယောက်ျားသည် ထိုနေရာ၌ပင် လဲကျသေဆုံး သွားလေ၏။

ပဋာစာရီသည် ယောက်ျားလာတော့မည်ဟု မျှော်လင့်ရင်း ညဥ့်သုံးယံကို ကုန်စေလျက် ဤယောက်ျားသည် ငါ့ကို စွန့်ပစ်သွားပြီဟု ကြံစည်အောက်မေ့ကာ အလင်းရောင် ဖြစ်ပေါ်လာသောအခါ၌ ခြေရာခံလိုက်သွားလျက် ကြည့်ရှုလတ်သော် လဲကျသေဆုံးနေသော လင်ယောက်ျားကို တွေ့ရ၍ သည်းစွာ ငိုကြွေးလျက် သားငယ်ကိုချီ၊ သားကြီးကို လက်ဆွဲ၍ ခရီးဆက်လေသော် ခရီး အကြားငယ် ချောင်းငယ်တစ်ခုကို တွေ့၍ သားနှစ်ယောက်နှင့် တပြိုင်နက်တည်း ကူးခြင်းငှာ တတ်နိုင်မည် မဟုတ်ဟု ဆင်ခြင်မိ၍ သားကြီးကို ထားခဲ့ကာ သားငယ်ကို ဟိုမှာဘက်ကမ်းသို့ ပို့ဆောင်ပြီး အနှီးအဝတ်ဖြင့် သိပ်ထားပြီးမှ တဖန် ပြန်၍ သားကြီးကို ခေါ်အံ့ဟု ကြံစည်လျက် ချောင်းအတွင်းသို့ ဆင်းသက်လေ၏။

ပဋာစာရီ ချောင်းအလယ်သို့ ရောက်သောအခါ သိန်းစွန်ရဲတစ်ကောင်သည် သားတစ်ဟူသော အမှတ်ဖြင့် သားငယ်ကို ထိုးသုတ်ရန် ပျံသန်းလာလေသည်။ ပဋာစာရီသည် ခရီးဝေးနေသဖြင့် လက်ကို ဆန့်တန်းကာ သိန်းစွန်ရဲကို ပြေးစေရန် အသံပြုလေ၏။ မိခင်သေဋ္ဌေးသမီး၏ လက်ဆန့်တန်းသော အမူ အရာကို မြင်ရ၍ သားအကြီးသည် "ငါ့ကို မိခင်ခေါ်၏" ဟူသော အမှတ်ဖြင့် ချောင်းအတွင်းသို့ ပြေးဆင်းလာလတ်သော် ရေအဟုန်ဖြင့် လဲကာ မျောပါ သေဆုံးရှာလေသည်။ သိန်းစွန်ရဲသည်လည်း မိခင် ပဋာစာရီ မရောက်မီပင် သားငယ်ကို သုတ်ချီယူဆောင်၍ သွားလေတော့သည်။

ပဋာစာရီ၏ ဒုက္ခသည် သားကြီးရေမျော၊ သားငယ်စွန်ချီ၊ လင်ပိုးထိ၍ လမ်းခရီးတွင် သေခဲ့လေပြီဟု ငိုကြွေးလျက် သာဝတ္ထိပြည်ဘက်သို့ သွားလေ၏။ ပဋာစာရီသည် ဤသို့ ငိုကြွေးလျက် မိဘအိမ်အနီးသို့ ရောက်ပါသော်လည်း သောကအဟုန် အားကြီးသဖြင့် မိဘအိမ်ကို မမှတ်မိနိုင်ရှာဘဲ အနီးရှိသူများကို မေးလေသော် အနီးရှိလူများက ထိုသေဋ္ဌေးမိသားစုနေအိမ်သည် ယမန်ညက လေပြင်းတိုက်ခတ်သောကြောင့် ပြိုကျခဲ့လေပြီ။ ထိုတိုက်ပြိုကြီးထဲမှာ သေဋ္ဌေး မိသားစု အားလုံးလည်း အသက်ပျောက်ကြ ရှာလေပြီ၊ ထိုသေဋ္ဌေးမိသားစု ကြီးငယ်တို့ကို ထင်းပုံ တစ်ပုံတည်းဖြင့်ပင် မီးသင်္ဂြိုဟ် လိုက်ကြလေသည်။

မီးခိုးညွန့်တက်ရာဆီသို့ ရှင်မ ကြည့်ရှုပါလော့ဟု ပြောကြားလေလျှင် ပဋာစာရီသည် "အို----အရှင်တို့ ဘယ်လို ပြောလိုက်ကြတာလဲ"ဟု တစ်ခွန်းတည်းသာ ပြောနိုင်မှုပြီး အဝတ်ကိုပင် မဝတ်နိုင်တော့ဘဲ မီးသင်္ဂြိုဟ်ရာ ဖရုပ်သို့ သွားရောက်၍ အမျိုးကောင်းသမီး စောင့်စည်းရန်ဝတ် ယွင်းချွတ်မှုကြောင့် သားငယ်ကို စွန်ခီး၊ သားကြီးရေနစ်၊ လင်ပိုးထိကာ သေခဲ့လေပြီ၊ မွေးမိသခင် မွေးဘသခင် ကျေးဇူးရှင်တို့နှင့် တစ်အူတုံ့ဆင်း မောင်အရင်းတို့ တိုက်ပြို၍ အသက်ကုန် တစ်ခုတည်းသော ထင်းပုံ၌ သင်္ဂြိုဟ်အပ်ကုန်ပြီဟု ငိုကြွေးရှာလေ၏၊ ပဋာစာရီသည် သတိယွင်းချွတ် ရူးသွပ်ရှာ၍ အဝတ်မဝတ်ဘဲ ကျက်စားသွားလာ နေသောကြောင့် ပဋာစာရီဟု ခေါ်ဆိုကြ၏။

မြတ်စွာဘုရားသည် ဇေတဝန်ကျောင်းတော်၌ များစွာသော ပရိသတ် အလယ် ထိုင်တော်မူလျက် တရားဟောတော်မူနေစဉ် မရပ်မတည် လှည့်လည် သွားလာနေသော ပဋာစာရီကို မြင်၍ သူမ၏ အသိဉာဏ် ရင့်ကျက်ချိန်ကို သိမြင်တော်မူသောကြောင့် ထိုပဋာစာရီကို ကျောင်းတိုက်တော်သို့ ရှေးရှုလာ ရောက်အောင် အဓိဋ္ဌာန်ပြုတော်မူ၏။ တရားနာပရိသတ်တို့သည် အရူးမကို လာရောက်ခွင့် မပြုကြလင့်ဟု ပြောဆိုလေသော် ဗုဒ္ဓမြတ်စွာသည် ပဋာစာရီကို မတားကြလင့်ဟု မိန့်တော်မူ၍ အနီးသို့ ရောက်သောအခါ "ချစ်သမီး- သတိရလော့"ဟု မဟာကရုဏာဖြင့် မိန့်တော်မူ၏။

ပဋာစာရီသည် သတိရ၍ ထဘီအဝတ်မပါသည်ကို အမှတ်ရကာ အရှက် ကြီးစွာဖြစ်လျက် အတတ်နိုင်ဆုံး ဖုံးပြီးသော် ဒူးထောက်ခါးညွတ်ကာ ထိုင်နေ ရှာလေ၏။ ထိုအချိန်တွင် လူတစ်ယောက်သည် အပေါ်ရုံအဝတ်ကို ပစ်ပေး၍ ထိုအဝတ်ကို ဝတ်ကာ မြတ်စွာဘုရားထံ ချဉ်းကပ်ပြီး တည်ခြင်းငါးပါးဖြင့် ရှိခိုးလျက် မိမိသောကဖြစ်ရခြင်း အကြောင်းရင်းကို လျှောက်ထားလေ၏။

မြတ်စွာဗုဒ္ဓက "ချစ်သမီး ပဋာစာရီ- ထွေရာလေးပါး သင်ချစ်သမီး အကြံ များမနေလင့်၊ သင်ချစ်သမီး၏ မှီခိုကိုးစား အားထားရာ ဖြစ်နိုင်သောသူ၏ အထံသို့ သင်ချစ်သမီး ရောက်ခဲ့လေပြီ၊ သင်ချစ်သမီးသည် ယခုအခါ သား, လင်, မိဘ, မောင်တို့ သေဆုံးခြင်းဟူသော အကြောင်းကြောင့် မျက်ရည်ပေါက် ကြီးငယ်ကို ဖြစ်စေရဘိသကဲ့သို့ပင် အနမတဂ္ဂ အစမထင် သံသရာတခွင်၌ သား, လင်, မိဘ, မောင်တို့ သေဆုံးရခြင်းဟူသော အကြောင်းကြောင့် ကျခဲ့ရသော မျက်ရည်ပေါက်များကား မဟာသမုဒ္ဒရာ လေးစင်း အတွင်းမှာ ရှိသော ရေပေါက်တို့ထက် များလှတုံသေး၏"ဟု တရားဓမ္မ ညွှန်းဖော် ပြလျက် ချစ်သမီး ပဋာစာရီ- ကာယစိတ္တ ဒုက္ခနှစ်ဖုံဖြင့် တွေ့ကြုံနှိပ်စက်အပ်သော ဒေါသကီလေသာ

မခွါရသေးသူ လူတစ်ယောက်၏ စိုးရိမ်ပူဆွေး ငိုကြွေးရခြင်းကြောင့် ဖြစ်ပေါ်၍ လာသော ဂဏန်းမချနိုင်သော မျက်ရည်ပေါက်များသည် သမုဒ္ဒရာလေးစင်း အတွင်းမှာရှိသော ရေထက် များပြားလှ၏၊ ချစ်သမီး ပဋာစာရီ- အဘယ်ကြောင့် သတိယွင်းပေါ့ မေ့လျော့နေလေသနည်း၊ အသိတရား လက်ကိုင်ထား၍ သင်ကား မမေ့မလျော့လေလင့်”ဟူ၍ သောကငြိမ်းတရားကို ဟောကြားတော်မူ၏။

ဗုဒ္ဓမြတ်စွာသည် ပဋာစာရီ၏ သောကတရား ပါး၍ နေသည်ကို သိမြင်တော်မူ၍ ပညာရှိသောသူသည် မိမိ၏သီလကို သုတ်သင်စင်ကြယ်စေ၍ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်း လမ်းစဉ်ကိုသာ ကောင်းစွာ ပြီးစေရမည်ဟု ဖော်ပြတော်မူလျက် တရားဟောတော်မူ၏။ ဒေသနာဆုံးသော အခါ ပဋာစာရီ သေဌေးသမီးသည် မဟာပထဝီမြေမှုန့်ပမာဏ များလှစွာသော ကိလေသာတို့ကို သောတာပတ္တိမဂ်ပညာဖြင့် အပြီးတိုင် လောင်ကျွမ်းစေလျက် သောတာပန်အရိယာ ဖြစ်လေ၏။

ဗုဒ္ဓမြတ်စွာသည် ပဋာစာရီကို ဘိက္ခုနီမတို့ထံသို့ ခေါ်၍ ရှင်ရဟန်းမပြုပေးစေတော်မူ၏။ ပဋာစာရီ ဘိက္ခုနီမ ဖြစ်ပြီးနောက် ဝိပဿနာ အလုပ်ကို အားထုတ်ကျင့်ကြံစဉ် တနေ့သ၌ ရေအိုးဖြင့် ရေကိုခပ်၍ ခြေကိုဆေးရန် ရေလောင်းလေလျှင် အနည်းငယ်သော အရပ်တိုင်အောင် ရေရောက်၍ ပြတ်လေ၏၊ ဒုတိယအကြိမ် တတိယအကြိမ် လောင်းပြန်သောအခါတွင်လည်း အနည်းငယ်ဝေးသော အရပ်တိုင်အောင် ရေရောက်၍ ပြတ်လေ၏။ ပဋာစာရီသည် ထိုရေသုံးမျိုး ရောက်ရာ အရပ်သုံးမျိုးကို အာရုံပြု၍ အရွယ်သုံးပါးတို့ကို ဉာဏ်ဖြင့် ပိုင်းခြားပြီးလျှင် ပထမအရွယ်၌လည်း စုတိပြတ်ကြွေ သေလွန်နိုင်ကြကုန်၏၊ မဇ္ဈိမအရွယ်၌လည်း စုတိပြတ်ကြွေ သေလွန်နိုင်ကြကုန်၏။ ပစ္ဆိမအရွယ်၌လည်း စုတိပြတ်ကြွေ ဧကန်ပင် သေလွန်နိုင်ကြကုန်၏ဟု ပညာသက်ဝင်ဆင်ခြင်စဉ်းစား၍ နေလေ၏။ ထို့နောက် အနိစ္စ လက္ခဏာကိုလည်းကောင်း၊ ထိုအနိစ္စလက္ခဏာကို အမှဉ်ရှေ့လျှာက်သဖြင့် ဒုက္ခလက္ခဏာ, အနတ္တလက္ခဏာ နှစ်ပါးတို့ကိုလည်းကောင်း ပူးစမ်းဆင်ခြင်လျက် ဝိပဿနာအလုပ် ပွားများအားထုတ်နေစဉ် မိမိနေရာ ကျောင်းတိုက်ခန်းသို့ ဝင်လေလျှင် အမိုက်မှောင်ကို ပယ်ဖျောက်ရန် ဆီမီးခွက်ကို ဖွဲကိုင်ကာ အခန်းတွင်းသို့ ဝင်ရောက်၍ ဆီမီးခွက်ကို နေရာတကျထားပြီးလျှင် ညောင်စောင်းငယ်၌ ထိုင်လျက်ပင်လျှင် ဆီမီးခွက်ကို ငြိမ်းစေရန် အပ်သံချွန်ဖြင့် ဆီမီးစာကို ဆီသို့ ရှေးရှု ဆွဲငင်လိုက်လေသည်။

ထိုအချိန်၌ မြတ်စွာဘုရားရှင်သည် ဂန္ဓကုဋီကျောင်းတော်၌ ထိုင်နေတော်မူရင်းကပင် ကိုယ်တော်ရောင်ကို ဖြန့်လွှတ်၍ ထေရီမ မျက်မှောက်၌ ရပ်တည်ကာ ဟောသကဲ့သို့-

"ချစ်သမီး ပဋာစာရီ- သင်ချစ်သမီး စဉ်းစားဆင်ခြင်သော ဤအကြောင်းအရာသည် စဉ်းစားဆင်ခြင်သည့်အတိုင်း မှန်ပေ၏၊ ခပ်သိမ်းသော သတ္တဝါတို့သည်ပင် စုတိပြတ်ကြွေ သေလွန်ခြင်းသဘော ရှိကြကုန်၏၊ သို့ဖြစ်ရကား ခန္ဓာငါးပါးတို့၏ ဖြစ်ခြင်း၊ ပျက်ခြင်းကို ဉာဏ်ပညာဖြင့် မသိမြင်သောသူ၏ အနှစ်တစ်ရာ အသက်ရှင်နေရခြင်းထက် ခန္ဓာငါးပါးတို့၏ ဖြစ်ခြင်း၊ ပျက်ခြင်းကို ဉာဏ်ပညာဖြင့် သိမြင်သောသူ၏ တစ်ရက်မျှသော်လည်းကောင်း၊ တစ်ခဏမျှသော်လည်းကောင်း အသက်ရှင် နေရခြင်းသည် ချီးမွမ်းအပ် အထူးသဖြင့် မြတ်လှပေ၏။

ဤ တရားဒေသနာ ဆုံးသောအခါ ပဋာစာရီထေရီသည် ပဋိသမ္ဘိဒါဉာဏ်လေးပါးတို့နှင့်တကွ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်လေ၏၊ ပဋာစာရီသည် ရဟန္တာဖြစ်ပြီးနောက် ဗုဒ္ဓအထံတော်၌ ဝိနည်းပိဋကတ်ကို သင်ကြားတတ်မြောက်ပြီး ဝိနည်းနှင့်ပတ်သက်လျှင် ဟုတ်မှန်သည့်အတိုင်း ဖြေဆိုလေ့ရှိသည်။

ဗုဒ္ဓမြတ်စွာက "ဝိနည်းကို ဆောင်ကုန်သော ငါဘုရား၏ တပည့်မ သာဝိကာဘိက္ခုနီမတို့တွင် ပဋာစာရီ ဘိက္ခုနီမသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူပါသည်။

## ၅။ ဓမ္မဒိန္နာထေရီ

ဓမ္မဒိန္နာထေရီသည် ရာဇဂြိုဟ်ပြည်သူ သေဌေးသမီးဖြစ်၍ ဝိသာခသေဌေးနှင့် လက်ဆက်ပြီး သေဌေးအိမ်သို့ လိုက်ရကာ ဓမ္မဒိန္နာ သေဌေးကတော်ဟူ၍ ထင်ရှားလေသည်။ ဝိသာခသေဌေးသည် ဗုဒ္ဓမြတ်စွာ ပထမဆုံးအကြိမ် ရာဇဂြိုဟ်သို့ ရောက်တော်မူ၍ တစ်သိန်းနှစ်သောင်းသော ပရိသတ်နှင့် အတူလာရောက်သော ဗိမ္ဗိသာရ မင်းတရားအား တရား ဟောတော်မူသဖြင့် သောတာပတ္တိဖိုလ်သို့ ရောက်ကြသော တစ်သိန်း တစ်သောင်းသော ပုဂ္ဂိုလ်တို့အနက် တစ်ယောက်အပါအဝင် ဖြစ်လေသည်။ ဗိမ္ဗိသာရမင်းကြီးနှင့် အလွန်ရင်းနှီးသော မိတ်ဆွေသေဌေးဖြစ်သည်။

တဖန် ဝိသာခသည် တစ်နေ့သ၌ တရားနာရပြန်သော် သကဒါဂါမိဖိုလ်သို့ ဆိုက်ရောက်လေသည်။ နောက်တစ်ကြိမ် တရားနာရပြန်သော် အနာဂါမိဖိုလ်၌ တည်လေသည်။ ဝိသာခသေဌေးသည် အနာဂါမ် အရိယာ ဖြစ်ပြီးနောက် အိမ်သို့ပြန်လာရာတွင် ခါတိုင်းကဲ့သို့ မဟုတ်ဘဲ အလွန်ငြိမ်သက်သော ရုပ်ခြွေ အလွန်ငြိမ်းအေးသော စိတ်ရှိလျက် ပြန်လာလေသည်။

ဓမ္မဒိန္နာသေဌေးကတော်သည် လေသာပြူတင်းဖွင့်၍ လမ်းမသို့ မျှော်ကြည့်လတ်သော် ရုပ်ခြွေကြီးစွာဖြင့် လာနေသော ငါ၏အရှင် ဝိသာခသေဌေးသည် အဘယ်အကြောင်းထူးရှိပါလိမ့်ဟု အောက်မေ့ကာ အိမ်လှေကားရင်း၌ ရပ်လျက် မိမိလက်ကို ဆန့်တန်း ပေးလိုက်သော်လည်း ခါတိုင်းလို မဟုတ်ဘဲ ဝိသာခ သေဌေးသည် မိမိလက်ကို ကွေး၍ပင် ထားလိုက်လေ၏။ သေဌေးကတော်သည် နံနက်စာ စားသောအခါ သိရမည်ဟု အောက်မေ့ကာ စိတ်ကို ဖြေလေ၏။ ထိုနေ့၌ ဝိသာခသည် သေဌေးကတော်ကို မခေါ်ဘဲ ကမ္ဗဋ္ဌာန်းအားထုတ်သော ရဟန်းတပါးကဲ့သို့ ရုပ်ခြွေကြီးစွာဖြင့် တစ်ယောက်တည်းသာ စားလေ၏။ သေဌေးကတော်လည်း ညနေချမ်းအခါ၌ သိရလိမ့်မည်ဟု အောက်မေ့ကာ စိတ်ကို ဖြေသိမ့်လေ၏။

ဝိသာခ သေဌေးသည် ညချမ်းအခါလေ ရောက်လတ်သော် ကျက်သရေ တိုက်ခန်းသို့ မဝင်ဘဲ အခြားအခန်းတစ်ခုကို ရှင်းလင်းကာ ခုတင်ညောင်စောင်း တစ်ခုကို ခင်းစေ၍ တစ်ယောက်တည်းသာ အိပ်စက်လေ၏။ သေဌေးကတော ဓမ္မဒိန္နာမှာ အမျိုးမျိုးတွေးတောကာ လွန်စွာ စိတ်နှလုံး မချမ်းသာဘဲ တစ်ရက် နှစ်ရက်နေပြီးသောအခါ၌ ဝိသာခသေဌေးအား ပြုစုယုယရန် သွားရောက်၍ ရှိခိုးလျက် ရပ်တည်နေလေ၏။ ထိုအခါ ဝိသာခ-က "ဓမ္မဒိန္နာ-အခါမဟုတ်ဘဲ ဘာကြောင့်လာသလဲ"ဟု မေး၏။ သေဌေးကတော်က အရှင့်သားသည် ယခုအခါ ရှေးကလို မဟုတ်တော့ပါ၊ ဘယ်လိုလဲ အရှင့်သား၏ အဖို့ရာ ကျွန်တော်မမှ အပြစ်ပ၍ တောင့်တချစ်ခင်မှုပင် ရှိလေသလောဟု မေး၏။ သေဌေးကြီးက မရှိပါဟု ဖြေ၏။ သေဌေးကတော်က သို့မဟုတ်လျှင် **အခြား တစုံတယောက် စိတ်ဝမ်းကွဲအောင်** ပြုလုပ်သူ ရှိသလောဟု မေး၏။ သေဌေးက **ဤသို့ စိတ်**ဝမ်းကွဲ အောင် ပြုလုပ်သူ မရှိပါ။ သေဌေးကတော်က ထိုသို့ဖြစ်လျှင် **တစုံတရာ ကျွန်တော်မ၏ အပြစ်ပင် ရှိပါသလော။** သေဌေးက **သင်၏အပြစ်မရှိပါ။ သေဌေး** ကတော်က ထိုသို့ဖြစ်လျှင် အဘယ်ကြောင့် **အရှင့်သားတို့သည် ကျွန်တော်မနှင့် ပင်ကိုပကတိ ဇနီးမောင်နှံသဘောဖြင့် နှုတ်ခွန်းဆက်စကား တုံ့ပြန်စကားမျှကိုပင် မပြောကြားကြပါသနည်း။**

ဝိသာခသေဋ္ဌေးသည် ငါသိသော လောကုတ္တရာတရားမည်သည် လျှို့ဝှက်ထားသင့်သော တရားဖြစ်၏။ သို့သော် အကယ်၍ မဖြေလျှင် သေဋ္ဌေးကတော် သေဖွယ်ရှိသည်ကို ဆင်ခြင်စဉ်းစားမိ၍-

ဓမ္မဒိန္နာ- ငါသည် မြတ်စွာဘုရား၏တရားဒေသနာကို ကြားနာရသောကြောင့် လောကုတ္တရာ တရားကို ရရှိ သိမြင်ခဲ့လေပြီ။ ထို့ကြောင့် လောကီ အပြုအမူများသည် လားလားမျှ မသင့်တော့ချေ။ အကယ်၍ သင်အလိုရှိပါမူ ကုဋေရှစ်ဆယ်သော ဥစ္စာများ ဤအိမ်မှာ ရှိပေသည်။ သင်သည် စိုးပိုင်သူဖြစ်ကာ ငါ၏ အမိအရာ၌ ဖြစ်စေ၊ အစ်မအရာ၌ ဖြစ်စေ တည်နေပါလော့။ သင်ပေးအပ်သည့် ထမင်းအစာမျှဖြင့်ပင် ငါသည် မျှတ၍ နေပါမည်။ ဤသို့ မပြုလုပ်လိုလျှင်လည်း ဤစည်းစိမ်ဥစ္စာတို့ကို ယူဆောင်ကာ သင့်မိဘအိမ်သို့ ပြန်သွားပါလေ၊ အကယ်၍ အပြင်အပ၌ တောင့်တမှု မရှိဘူးဆိုလျှင် ငါသည် သင့်ကို နှမငယ်အရာ၌ သော်လည်းကောင်း၊ သမီးအရာ၌ သော်လည်းကောင်း ထား၍ ကျွေးမွေး စောင့်ရှောက်ပါမည်ဟု ပြောကြားလေ၏။

သေဋ္ဌေးကတော်သည် ထိုစကားကို ကြားသိရလျှင် ဝိသာခသေဋ္ဌေးကို အရှင့်သား- အသို့နည်း၊ ဤလောကုတ္တရာတရားကို ယောကျာ်းများသာ ရထိုက်ပါသလော၊ မာတုဂါမမိန်းမများလည်း ရနိုင်ပါသလောဟု မေးမြန်းလေ၏။

ထိုအခါ ဝိသာခသေဋ္ဌေးက ဘယ့်နှယ်ပြောပါလိမ့် ဓမ္မဒိန္နာ၊ ဓမ္မာနုဓမ္မပဋိပတ်ကို ကျင့်ကြံကြိုးကုတ် အားထုတ်ကြသော သူတိုင်းပင် ဤလောကုတ္တရာတရားဓမ္မကို ရယူနိုင်ကြကုန်၏။ မဂ်ဖိုလ်၏ ဥပနိဿယည်း ရေးကုသိုလ်ပစ္စည်းရှိသူတိုင်းပင် ဤလောကုတ္တရာတရားကို ရယူနိုင်ကြ၏ဟု ဖြေကြားပြောဆိုလေလျှင် ဓမ္မဒိန္နာ သေဋ္ဌေးကတော်သည် "အရှင့်သား- ထိုသို့ ဖြစ်လျှင် ကျွန်မအား ရှင်ရဟန်းမ ပြုလုပ်ရန် ခွင့်ပြုတော်မူကြကုန်လော့"ဟု ခွင့်ပန် စကားပြောကြားလေ၏။ ထိုခဏမှာပင် ဗိမ္ဗိသာရ မင်းကြီးထံသို့ သွား၍ ရှိခိုးကာ ရပ်တည်လေလျှင် မင်းကြီးက "သေဋ္ဌေး- အခါမဟုတ် ဘာကြောင့် လာရောက်သလဲ"ဟု မေးလျှင် "မြတ်သော မင်းကြီး- ဓမ္မဒိန္နာသေဋ္ဌေးကတော် ရှင်ရဟန်းမပြုတော့မည်"ဟု လျှောက်ထားလေ၏။ "အဘယ်ဝတ္ထုကို အလိုရှိသနည်း"ဟု မင်းကြီးက မေးလျှင် သေဋ္ဌေးကြီးက "ရွှေထမ်းစင်ကို ရလိုပါ၏၊ မြို့တော်ကိုလည်း သုတ်သင်စေခြင်းငှာ အလိုရှိပါ၏"ဟု လျှောက်လေ၏။ မင်းကြီးသည် သေဋ္ဌေး အလိုအတိုင်း ခွင့်ပြုလိုက်သည်ပေး၏။

ဝိသာခသေဌေးသည် သေဌေးကတော်ကို နံ့သာရေဖြင့် ရေချိုးစေ၍ အဆင်တန်ဆာစုံဖြင့် တန်ဆာဆင်စေပြီးလျှင် ရွှေထမ်းစင်ထက်၌ ထိုင်နေစေလျက် ဆွေမျိုးအပေါင်းကို ဝန်းရံစေပြီးနောက် မြို့တော်ကို များစွာသော နံ့သာ ပန်းမာလ်တို့ဖြင့် ပူဇော်မှုပြုလုပ်ကာ ဘိက္ခုနီမများ နေထိုင်ရာ ကျောင်းတိုက်သို့ သွားရောက်၍ "အရှင်မကြီးတို့ဘုရား- အကျွန်ုပ်၏ ဓမ္မဒိန္နာ သေဌေးကတော်ကို ရှင်ရဟန်းမ ပြုပေးတော်မူကြပါ"ဟု လျှောက်ထား ပြောဆိုလေ၏။

ဘိက္ခုနီမတို့က အပြစ်ရှိလျှင် သည်းခံဖို့ ပြောဆိုသောအခါ ဝိသာခသေဌေး သည် "အရှင်မကြီးတို့ဘုရား- ဓမ္မဒိန္နာသေဌေးကတော်မှာ တစိုးတစိ အပြစ် မရှိပါ။ ဓမ္မဒိန္နာသည် သဒ္ဓါကြည်ညိုသဖြင့် ရှင်ရဟန်းမ ပြုလိုသူ ဖြစ်ပါသည်"ဟု လျှောက်ထားလေ၏။ ထိုအခါ ဝိနည်းကျွမ်းကျင်သော ထေရီတစ်ပါးသည် တစပဉ္စကကမ္မဋ္ဌာန်းကို ဟောကြားပြီးနောက် ဆံတို့ကို ပယ်ရိတ်၍ ရှင်ရဟန်းမ ပြုပေးလေ၏။ ဝိသာခသည် ဓမ္မဒိန္နာထေရီမကို "အရှင်မ....သာသနာတော်၌ မွေ့လျော်စွာ နေတော်မူပါ၊ မြတ်စွာဘုရားသည် တရားတော်ကို စ, လယ်, ဆုံး သုံးပါးအစုံ ကောင်းခြင်းဂုဏ်နှင့် ပြည့်စုံထင်ရှား ဟောကြားအပ်ပါပြီ" ဟု လျှောက်ထား၍ ရှိခိုးပြီးလျှင် အိမ်သို့ ပြန်လေ၏။

ဓမ္မဒိန္နာ ထေရီမ၏ အဖို့ရာ လာဘ်ပူဇာသက္ကာရ များလှသောကြောင့် ရဟန်းတရားကို အားထုတ်ခွင့်ကို မရနိုင်ဘဲ ရှိလေသည်။ "ဝိသာခသေဌေးသည် အိမ်အလယ်၌ တည်နေစဉ်ပင် သံသရာဝဋ်ဒုက္ခဆုံးအောင် ပြုသေး၏၊ ငါကား ရဟန်းမ ဖြစ်ချေပြီ၊ ထို့ကြောင့် သံသရာဝဋ်ဒုက္ခဆုံးအောင် ကျင့်ဆောင် ကြိုးစား အားထုတ်မှု သင့်တော့မည်"ဟု ဆင်ခြင်မိကာ ထေရီမကြီးတို့ထံ သွား၍ ရွာငယ်တောကျောင်းသို့ သွားလိုပါသည်ဟု လျှောက်ထားရာ ထေရီမ ကြီးတို့သည် ဓမ္မဒိန္နာထေရီမ၏ တောကျောင်းနေလိုသောစိတ်ကို မတားနိုင် ရကား ဓမ္မဒိန္နာကို တောကျောင်းတစ်ခုသို့ ခေါ်ဆောင်သွားကြလေကုန်၏။

ဓမ္မဒိန္နာထေရီသည် ဘဝများစွာက သင်္ခါရတရားတို့ကို ဉာဏ်ပညာဖြင့် ကြိတ်ချေခဲ့ဖူးသူ ဖြစ်သောကြောင့် မကြာမြင့်မီပင်လျှင် ရဟန်းတရား ပွားများ ကြိုးကုတ် အားထုတ်သဖြင့် ပဋိသမ္ဘိဒါဉာဏ်လေးပါးတို့နှင့် တကွ အရဟတ္တ ဖိုလ်သို့ ဆိုက်ရောက်လေ၏။ ဓမ္မဒိန္နာသည် ရဟန္တာဖြစ်သောအခါ ဆွေမျိုး တို့ကို ချီးမြှောက်လို၍ ရာဇဂြိုဟ်ပြည်သို့ တဖန် ပြန်၍ လာလေသည်။

ဝိသာခသေဌေးသည် "ထေရီမ ပြန်လာပြီ"ဟူသော သတင်းစကားကို ကြားသိရ၍ အခြေအနေကို သိမြင်ရန် ညနေချမ်းအခါ၌ ဓမ္မဒိန္နာထေရီမထံသို့ သွားရောက်ရှိခိုးကာ ဥပါဒါနက္ခန္ဓာငါးပါးတို့ကို ကပ်ကာဆောင်၍ ပြဿနာကို

မေးလျှောက်ပေအံ့၊ အမေးကို ဖြေဆိုခြင်းဖြင့် ထိုဓမ္မဒိန္နာ၏ သာသနာ၌ မွေ့လျော်ခြင်း, မမွေ့လျော်ခြင်းကို ငါသိအောင် စုံစမ်းပေအံ့ဟု ကြံစည်ဆင်ခြင်ပြီးလျှင် ခန္ဓာငါးပါး အစရှိသော အစွမ်းအားဖြင့် ပြဿနာတို့ကို မေးမြန်းလေသည်။

ဓမ္မဒိန္နာထေရီမသည် သန်လျက်ဖြင့် ကြာနီးကို ဖြတ်သကဲ့သို့ မေးတိုင်းမေးတိုင်းသော ပြဿနာစုကို မဆုတ်မဆိုင်း မြင်းလျင်စိုင်းသကဲ့သို့ ဟုတ်တိုင်းမှန်ရာ ဖြေဆိုလေသည်။ ဝိသာခသေဋ္ဌေးသည် ဓမ္မဒိန္နာထေရီမ၏ ဉာဏ်ထက်မြက်ခြင်းကို သိရှိ၍ မိမိ ရအပ် သိအပ်ပြီးသော အရာဝယ် အစဉ်အတိုင်း အောက်မဂ်သုံးပါးတို့၌ မေးသင့်သမျှ ခြင်းရာဉဿုံ ကုန်အောင် စုံအောင် မေးပြီးလျှင် နာယူသင်ကြား မှတ်သားသောအားဖြင့် အရဟတ္တမဂ်၌လည်း ပြဿနာကို မေးမြန်းပြန်လေသည်။ ဓမ္မဒိန္နာ ထေရီမသည်လည်း ဝိသာခသေဋ္ဌေး၏ အဖို့ရာ အနာဂါမ် တိုင်အောင်သာ မေးဖို့ရန် အရာဖြစ်သည်ကို သိ၍ ယခုအခါ ဝိသာခသေဋ္ဌေးသည် မိမိ၏ မေးသင့်သော အရာနယ်ပယ်ကို လွန်၍ ပြေးသွားလေပြီဟု သိရှိကာ ဝိသာခကို တန့်ရပ်စေ၏။

"ဒါယကာ ဝိသာခ- သင်သည် ပြဿနာ လွန်၍ သွားပြီ၊ သင်သည် ပြဿနာတို့၏ အဆုံးအပိုင်းအခြားကို ယူရန် မစွမ်းနိုင်၊ မှန်ပါသည်၊ ဒါယကာ ဝိသာခ- သုံးပါးသိက္ခာ သာသနာတည်းဟူသော မြတ်သော အကျင့်သည် နိဗ္ဗာန်သို့ သက်ဝင်၏။ နိဗ္ဗာန်လျှင် လားရာရှိ၏၊ နိဗ္ဗာန်လျှင် အဆုံးရှိ၏၊ ဒါယကာဝိသာခ-အလိုရှိခဲ့မူ သင်သည် မြတ်စွာဘုရားသို့ ချဉ်းကပ်၍ ထိုအနက်အဓိပ္ပါယ် အကြောင်းအရာကို မေးလျှောက်လော့၊ သင့်အား မြတ်စွာဘုရားဟောကြားတော်မူသည့်အတိုင်း ထိုအနက်အဓိပ္ပါယ် အကြောင်းအရာကို မှတ်လော့"ဟု ပြောဆိုလိုက်လေသည်။

ထိုအခါ ဝိသာခသေဋ္ဌေးသည် မြတ်စွာဘုရားရှင်ထံသို့ သွားရောက်၍ မိမိက မေးပုံ၊ ဓမ္မဒိန္နာထေရီမက ဖြေပုံ အလုံးစုံကို မြတ်စွာဘုရားအား လျှောက်ထားလေ၏။ မြတ်စွာဘုရားရှင်သည် ဝိသာခသေဋ္ဌေး လျှောက်ထားသည့် စကားကို ကြားသိတော်မူရလေလျှင် "ငါသမီးတော် ဓမ္မဒိန္နာ ထေရီမ၏ သန္တာန်မှာ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ခန္ဓာတရားတို့၌ တပ်မက်မှု တဏှာ လောဘ မရှိယော့ချေ"ဟု မိန့်တော်မူ၏။

ထို့နောက်မှ မြတ်စွာဘုရားရှင်သည် ဓမ္မဒိန္နာထေရီအား သာဓုကောင်းချီးပေးတော်မူပြီးလျှင် ဝိသာခသေဋ္ဌေးကို "ဒါယကာ ဝိသာခ-ဓမ္မဒိန္နာရဟန်းမသည် ပညာရှိ၏၊ ဒါယကာဝိသာခ-ဓမ္မဒိန္နာ ရဟန်းမသည် များမြတ်သော ပညာရှိ၏။

ဒါယကာဝိသာခ– ငါဘုရားကို အကယ်၍ ထိုအနက်သဘောကို သင်မေးပြန်းလျှင် ငါဘုရားသည်လည်း ထိုအနက် သဘောကို ဓမ္မဒိန္နာရဟန်းမ ဖြေကြားသကဲ့သို့ ဖြေကြားရာ၏။ ထိုပြဿနာ၏ အနက်သည် ဤအနက်ပင်တည်း။ ဤသို့ ဓမ္မဒိန္နာရဟန်းမ ဖြေကြားသည့်အတိုင်း သင်မှတ်ယူလော့"ဟု မိန့်တော်မူ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန် ကျောင်းတော်၌ သိတင်းသုံးတော်မူစဉ် ဓမ္မဒိန္နာထေရီမအား "ရဟန်းတို့– တရားဟောကောင်းကြ၊ တရားဟောခြင်း၌ လိမ္မာကြသည့် ငါဘုရား၏ တပည့်မ သာဝိကာ ဘိက္ခုနီမတို့တွင် ဓမ္မဒိန္နာ ဘိက္ခုနီမသည် အသာဆုံး အမြတ်ဆုံး"ဟု ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှင့်တော်မူလေ၏။

## ၆။ နန္ဒာထေရီ (ဇနပဒကလျာဏီ)

နန္ဒာထေရီသည် နန္ဒမင်းသား၏ ကြင်ရာလောင်း နန္ဒာမင်းသမီး ဖြစ်၍ လာလေသည်။ အဘိရူပနန္ဒာမင်းသမီးဟုလည်း ခေါ်ဆိုကြ၏။ နောင်တွင် အလွန် တင့်တယ်သော ရုပ်အဆင်းရှိသူဖြစ်ခြင်းကြောင့် ဇနပဒကလျာဏီအမည်တွင် လေသည်။ မိထွေးတော် ပဇာပတိဂေါတမီ၏ သမီးအရင်း ဇနပဒကလျာဏီသည် ဗုဒ္ဓမြတ်စွာက ကပိလဝတ်သို့ ကြွ၍ နန္ဒမင်းသား၊ ရာဟုလာ၊ မယ်တော်မိထွေးတော် ဂေါတမီတို့ ရဟန်းပြု ရဟန်းမ ပြုကြသော အချိန်မှ စ၍ မယ်တော်ကြီးထံ သွားရောက်၍ ရဟန်းမ ပြုလေ၏။

ဇနပဒကလျာဏီသည် ရဟန်းပြုပြီးသော နေ့မှစ၍ မြတ်ဗုဒ္ဓက ရုပ်အဆင်းကို ကဲ့ရဲ့တော်မူ၏ဟု အောက်မေ့ကာ ဗုဒ္ဓမြတ်စွာထံ မဆည်းကပ်ရဲချေ။ အဆုံးအမ ဩဝါဒခံယူရန် အလှည့်ရောက်သော်လည်း ကိုယ်တိုင်မသွားဘဲ အခြားဘိက္ခုနီမ ကိုသာ ကိုယ်စားလွှတ်၍ အဆုံးအမ ဩဝါဒကို ယူဆောင်စေ၏။

ဗုဒ္ဓမြတ်စွာသည် နန္ဒာထေရီမ၏ ရုပ်ရည်၌ မာန်ယစ်၍နေကြောင်း သိတော်မူ၍ "ဘိက္ခုနီမများသည် မိမိအတွက် ဩဝါဒကို မိမိ ကိုယ်တိုင်သာ လာရောက်၍ ခံယူကြရမည်၊ ဘိက္ခုနီမများသည် အခြားဘိက္ခုနီမကို ကိုယ်စား မလွှတ်ရ" ဟု ထပ်ဆင့်၍ အမိန့် ထုတ်ပြန်တော်မူလေ၏။ ထိုအခါ ရူပနန္ဒာထေရီမသည် ရှောင်တိမ်းဖို့ မဖြစ်နိုင်တော့ဘဲ အလိုမရှိဘဲ အဆုံးအမခံရန် ဗုဒ္ဓမြတ်စွာထံသို့ သွားရတော့၏။

ဗုဒ္ဓမြတ်စွာသည် ရူပနန္ဒာထေရီ၏ စရိုက်နှင့် လိုက်လျောညီညွတ်အောင် ကြံ့တင်၍ တန်ခိုးတော်ဖြင့် မိန်းမလှ နိမ္မိတရုပ်တစ်ခုကို ဖန်ဆင်းလျက် ကိုယ်တော် မြတ်ကို ယပ်ခတ်ပေးနေသည့်ဟန် ဖန်ဆင်း၍ ထားတော်မူလေသည်။ ရူပနန္ဒာ ထေရီသည် ထိုနိမ္မိတ မိန်းမလှရုပ်ကိုမြင်ရလေလျှင် "အော်...ငါသည် အကြောင်း

မဟုတ်ဘဲလျက် မေ့လျော့ကာ မြတ်စွာဘုရားရှင် ထံတော်သို့ မလာမိချေတကား၊ ဤသို့ တင့်တယ်လှသည့် မိန်းမများသည်လည်း မြတ်စွာဘုရားအနီး၌ အကျွမ်းတဝင် ဝတ်ပြုကာ လှည့်လည် နေထိုင်ကြကုန်၏။ ငါ၏ အဆင်းကား ဤမိန်းမလှတို့၏ အဆင်းနှင့် နှိုင်းဆလျှင် တစ်ဆယ့်ခြောက်စိတ် ဆယ့်ခြောက်ပြန်စိတ် (၂၅၆-စိတ်)သော်လည်း တစ်စိတ်လောက်မျှ မမီပါတကား၊ ငါသည် မသိဆိုးဝါးသည့်အတွက် ဤမျှလောက်ကြာအောင် ဗုဒ္ဓမြတ်စွာထံတော်သို့ မလာရောက်မိချေတကား" ဟု အောက်မေ့၍ ထိုနိမ္မိတ မိန်းမလှအာရုံနိမိတ်ကို ယူကာ စူးစူးစိုက်စိုက် ကြည့်ရှုလျက် ရပ်တည်နေလေ၏။

ဗုဒ္ဓမြတ်စွာသည် ရူပနန္ဒာထေရီအား ရေးကောင်းမှုကုသိုလ်နှင့် ပြည့်စုံသောကြောင့် "အဋ္ဌိနံ နဂရံ ကတံ" အစရှိသော တရားကို ဟောတော်မူ၍ "စရံ ဝါ ယဒိ ဝါ တိဋ္ဌံ၊ နိသိန္နော ဥဒ ဝါ သယံ" အစရှိသော သုတ္တနိပါတ် ပါဠိတော်လာ ဝိဇယ သုတ္တန်ကို ဟောကြားတော်မူလေ၏။ ရူပနန္ဒာ ထေရီသည် ဝိဇယသုတ္တန် ဒေသနာကို အဖန်ဖန် နှလုံးသွင်း၍ ဘုညတ ကမ္မဋ္ဌာန်းကို စီးဖြန်းကြိုးကုတ်အားထုတ်လတ်ရကား (၂)ရက် (၃)ရက် အတွင်း၌ပင် အရဟတ္တဖိုလ်သို့ ဆိုက်လေ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ နန္ဒာထေရီအား "ရဟန်းတို့-ဈာန်ဝင်စားလေ့ရှိကြသော ငါဘုရား၏ တပည့်မ သာဝိကာ ဘိက္ခုနီမတို့တွင် နန္ဒာထေရီ ဘိက္ခုနီမသည် အသာဆုံး အမြတ်ဆုံး" ဟု ဧတဒဂ် ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူလေ၏။

## ၄။ ကုဏ္ဍလကေသာထေရီ

ကုဏ္ဍလကေသာသည် ရာဇဂြိုဟ်ပြည်သူ ဘဒ္ဒါသေဌေးသမီး ဖြစ်၏။ ရာဇဂြိုဟ်ပြည်၌ သတ္တုကလူဆိုး ထကြွသောင်းကျန်း၍ ဘုရင်က မြို့ဝန်ကို မင်းအာဏာထားပြီး ဖမ်းဆီးခိုင်းသောကြောင့် သတ္တုက လူဆိုးကို ခိုးထုပ်ခိုးထည်နှင့် မိလေ၏။ မင်းကြီးသည် သတ္တုက လူဆိုးကို ချွေမြို့တော် တောင်တံခါးမှ ထုတ်၍ သတ်ကြကုန်ဟု အမိန့်ထုတ်တော်မူ၏။ မြို့ဝန်သည် သတ္တုက လူဆိုးကို လမ်းလေးခွဆုံတိုင်း ကြိမ်ဒဏ်အချက်တစ်ထောင် ရိုက်နှက်လျက် လက်ပြန်ကြိုးတုပ်ကာ တောင်တံခါးသို့ ခေါ်ဆောင်၍ သွားလေ၏။

ယင်းအချိန်၌ ဘဒ္ဒါသေဌေးသမီးသည် လူအများ၏ အုတ်အုတ် ကျက်ကျက် အသံကြောင့် လေသာပြူတင်းကို ဖွင့်၍ ကြည့်လေလျှင် ရိုက်နှက်ခေါ်ဆောင်

အပ်သော သတ္တုကြ လူဆိုးကို မြင်သဖြင့် လက်နှစ်ဖက်ဖြင့် မိမိရင်ကို မ၍ သွားရောက်ကာ ကျက်သရေရှိသော အိပ်ရာ၌ မျက်နှာအောက်ချ (မှောက်လျက်) လျောင်း၍ နေလေ၏။

ဘဒ္ဒါသေဋ္ဌေးသမီးကား ထိုသေဋ္ဌေးကြီး သေဋ္ဌေးကတော်ကြီးတို့၏ ချစ်၍ မငြီးတစ်ဦးတည်းသော သမီးဖြစ်လေသည်။ ထို့ကြောင့် ဘဒ္ဒါသေဋ္ဌေးသမီး၏ ဆွေမျိုးများသည် သမီးကလေး အနည်းငယ်မျှ မျက်နှာပျက်သည်ကို သည်းမခံနိုင်အောင် ရှိကြလေသည်။

ထိုအခါ မိခင် သေဋ္ဌေးကတော်ကြီးသည် ဘဒ္ဒါသေဋ္ဌေးသမီး အိပ်ရာ၌ ဝမ်းအလျားမှောက်၍ နေသည်ကို မြင်ရ၍ "သမီး- ဘယ်အမှုကို ပြုလုပ်ပေးရမလဲ"ဟု မေးလေ၏။ ဘဒ္ဒါသေဋ္ဌေးသမီးက "သတ်ဖို့ ခေါ်ဆောင်သွားသော ခိုးသားကို ရပါမှ သမီးအသက်ရှင်ရပါလိမ့်မယ်၊ "ရပါမှ သမီးအဖို့ရာ သေရန်သာ ရှိပါတော့တယ်"ဟု တိုက်ရိုက် ပြောဆို၏။ မိဘနှင့် ဆွေမျိုးများသည် နားချကြသော်လည်း မရသည့်အဆုံး၌ "သေခြင်းထက်တော့ အသက်ရှင်၍ မြင်နေရခြင်းက မြတ်ပါသေး၏"ဟု မှတ်ချက်ချကုန်၏။ ထို့နောက် ဖခင်ကြီးသည် မြို့ဝန်အား အသပြာတစ်ထောင် လာဘ်ထိုး၍ သတ္တုကကို ကယ်ယူကာ သမီး၏ စိတ်အလို ပြည့်စေဖို့ မိဘတို့၏ ကြီးမားလှစွာသော အနန္တမေတ္တာဖြင့် သမီး၏ ပြာသာဒ်ထက်သို့ ပို့စေ၏။ ဘဒ္ဒါသေဋ္ဌေးသမီးသည်လည်း ပြုစုလုပ်ကျွေးလေ၏။ သတ္တုက လူဆိုးသည် သေဋ္ဌေးသမီး၏ အဆင်တန်ဆာ ဘဏ္ဍာအားလုံးကို ရယူမည်ဟု ယုတ်မာစွာ ကြံစည်၍ ဘဒ္ဒါသေဋ္ဌေးသမီးကို "ဘဒ္ဒါ- သင်ကတော့ ငါ့ကို အမှီပြု၍ သတ္တုကသည် အသက်ရအပ်လေပြီ ဟု အောက်မေ့ပေလိမ့်မည်။ စင်စစ်ကား ငါသည် အဖမ်းခံရလျှင် ခံရချင်းပင် စောရပပါတ တောင်စောင့်နတ်မင်းကြီးအား 'အကယ်၍ အကျွန်ုပ်သည် အသက်ရှင်မှုကို ရပါမူ အရှင် နတ်မင်းအား ဗလိပူဇော်ပွဲကို ပေးဆက်ပါမည်'ဟု တောင်းပန်ခဲ့လေသည်။ ငါသည် စောရပပါတ တောင်စောင့်နတ်မင်းကို အမှီပြု၍ အသက်ရှင်မှုကို ရအပ်ခဲ့ပါပြီ၊ သင်ဘဒ္ဒါသည် လျင်မြန်စွာ ဗလိပူဇော်ပွဲကို စီရင်ပြင်ဆင်ပါလော့"ဟု ပြောလေ၏။

ဘဒ္ဒါ သေဋ္ဌေးသမီးသည် "သတ္တုက၏ အလိုဆန္ဒကို ဖြည့်မည်" ဟူသော ရည်ရွယ်ချက်ဖြင့် ဗလိပူဇော်ပွဲကို ပြင်ဆင်စေ၍ အဆင်တန်ဆာတို့ဖြင့်ဆင်ပြီး သတ္တုကနှင့်အတူ စောရပပါတတောင်သို့ အရောက်သွားပြီးသော် ရွှင်လန်းသော စိတ်ဖြင့်ပင် "တောင်စောင့်နတ်မင်းအား ဗလိ ပူဇော်မှု ပြုပေတော့အံ့" ဟု အဖော်များနှင့် တောင်ပေါ်တက်ရန် အားထုတ်လေ၏။ သတ္တုကလူဆိုးကား

သေဌေးသမီး၏ အဆင်တန်ဆာတို့ကို လုယူရန် အကြံဖြင့် အတူပါလာသူတို့ကို တောင်ခြေ၌သာ နေရစ်စေပြီးလျှင် ဘဒ္ဒါသေဌေးသမီး တစ်ယောက်တည်းသာ ဗလိပူဇော်ပွဲကို ရွက်စေလျက် စောရပပါတတောင်သို့ တက်လေ၏။

သတ္တုကသည် တောင်ပေါ်တက်စဉ် သေဌေးသမီးအား ချစ်ဖွယ်သော စကား မပြောကြားဘဲ ရုန့်ရင်းကြမ်းတမ်းသော စကားကိုသာ ပြောဆိုလေ၏။ ဘဒ္ဒါသေဌေးသမီးသည် ပါးနပ်သူဖြစ်၍ သတ္တုက၏ ကောက်ကျစ်သော အကြံကို သိရှိလေသည်။ တောင်ပေါ်သို့ ရောက်သောအခါ သတ္တုက က "ဘဒ္ဒါ....သင်၏ အပေါ်ရုံ အဝတ်ကို ချွတ်၍ သင့်ကိုယ်မှာ ဆင်လာသည့် အဆင်တန်ဆာ အားလုံးကို ဤတဘက်၌ ထုပ်လိုက်"ဟု မိုက်ရိုင်းစွာ ပြောဆို၏။ ဘဒ္ဒါသေဌေး သမီးက "အိုအရှင်– ဘာအပြစ်ရှိလို့လဲ"ဟု သာယာစွာ မေးသော်လည်း သတ္တုကသည် "အမိုက်မ ငါသည် ဗလိနတ်ပူဇော်ရန် ရောက်လာသည်ဟု မှတ်ထင်သလော၊ ငါကား ဗလိနတ်အား ပူဇော်ဖို့ မဆိုထားနဲ့ ဤတောင်စောင့် နတ်၏ အသည်းကိုပင် ထုတ်စားဝံ့သူ ဖြစ်တယ်၊ စင်စစ် ငါကား သင်၏ အဆင် တန်ဆာများကို လုယူလို၍ တောင်ထိပ်သို့ ခေါ်လာခြင်း ဖြစ်တယ်"ဟု ရိုင်းပြစွာ ပြောလေ၏။

အလွန်လိမ္မာ ပါးနပ်သော သေဌေးသမီးသည် "အရှင်....အဆင်တန်ဆာ များသည် အရှင်၏ ဥစ္စာပင် ဖြစ်တယ်၊ ကျွန်တော်မသည်လည်း အရှင်၏ ဥစ္စာပင် ဖြစ်တယ်"ဟု ပြောဆိုသောအခါ သတ္တုက လူဆိုးသည် "ဤစကားမျိုးကို ငါနားမလည်၊ သင့်ဥစ္စာကား တပါး၊ ငါ့ဥစ္စာကား တခြားသာလျှင် ဖြစ်၏" ဟု ပြတ်တောင်းစွာ ပြောလေ၏။ ထိုအခါ ဘဒ္ဒါသေဌေးသမီးသည် "သူ၏ နှလုံး အလိုဆန္ဒကို ပြည့်စေဖို့ တန်ဆာဆင်မြဲတိုင်းဖြင့် ကျွန်မအား အရှင့်ကို ရှေ့မှ လည်းကောင်း, နောက်မှလည်းကောင်း လည်ဖက်၍ ယုယကြင်နာဖို့ အခွင့် ပေးရန်" အထူးတောင်းပန်လေ၏။

ဘဒ္ဒါသေဌေးသမီးသည် သတ္တုက လက်ခံသည်ကို သိရလျှင် အချိန်မဆွဲဘဲ လူဆိုး၏ရှေ့မှ လည်ဖက်၍ ယုယကြင်နာမှု ပြုပြီးလျှင် နောက်မှ လည်ဖက်၍ ယုယကြင်နာဟန်ဖြင့် သတ္တုက လူဆိုးကို တောင်ကြား၌ တအား တွန်းချ လိုက်လေ၏။

ဘဒ္ဒါသေဌေးသမီး၏ ဥပါယကောသလ္လဉာဏ်ကို တောင်စောင့်နတ်မင်းက "အလုံးစုံသော အရာဌာနတို့၌ ယောကျ်ားသာလျှင် ပညာရှိသည် မဟုတ်၊ မိန်းမသည်လည်း ထိုထိုကိစ္စ အဝဝတို့၌ မြော်မြင်ဆင်ခြင်နိုင်သူ, အကျိုးရ ကြောင်း နည်းလမ်းကောင်းကို ဆင်ခြင်နိုင်သူ ဖြစ်ဘိမူ ပညာရှိ ဖြစ်နိုင်တယ်" ဟု ချီးကျူးလေ၏။

ဘဒ္ဒါသေဌေးသမီးသည် အိမ်သို့ ပြန်၍ မဖြစ်တော့သဖြင့် ဦးတည်ရာ သွားလေလျှင် တက္ကတွန်းအာရာမ်တခုကို ရောက်၍ တက္ကတွန်းဆရာတို့၏ သာသနာ၀ယ် အမြတ်စားနည်းဖြင့် ရဟန်းမ ပြုလေ၏။ ထန်းစေ့မှုတ်ဖြင့် ဆံပင်တို့ကို နာကျင်စွာနုတ်၍ ဆံပင်များ နောက်တဖန် ပေါက်လာပြန်သော အခါ နားတောင်းပမာ ဝိုင်းလျက် ဝိုင်းလျက် အစုလိုက် ပေါက်လာကြ၏။ ထိုအချိန်မှစ၍ ကုဏ္ဍလကေသာ (နားတောင်းပမာ အစုလိုက်ဝိုင်းသော ဆံပင်ရှိသူ)ဟု အမည်တွင်လေ၏။

ကုဏ္ဍလကေသာ တက္ကတွန်းမသည် တက္ကတွန်းတို့ထံ၌ အလုံးစုံသော အတတ် ပညာကို သင်ယူပြီးနောက် ပါရမီ ရှိသူဖြစ်ရကား တက္ကတွန်းတို့ အယူဝါဒသည် တရားထူး မဟုတ်ဟု ဆင်ခြင်သိမြင်ကာ ထိုထို ရွာ နိဂုံး မင်းနေပြည်တော်တို့သို့ လှည့်လည်လျက် ပညာရှိတို့ထံ ချဉ်းကပ်၍ တတ်သိအပ်သော အတတ်ပညာ အားလုံးကို သင်ယူလေသည်။ ထိုအခါ ကုဏ္ဍလကေသာအား ဝါဒအပြိုင်အဆိုင် ပေးစွမ်းနိုင်သူ မရှိသလောက် ဖြစ်နေလေ၏။

ကုဏ္ဍလကေသာသည် ဝါဒရှင်တစ်ယောက်ဖြစ်ကာ ရောက်လေရာ ရွာ နိဂုံး တို့၏ တံခါးဝ၌ သဲပုံပြုကာ သပြေခက်ကို စိုက်ထူပြီး "ဝါဒယှဉ်ပြိုင် ပြစ်တင် ပြောဆိုနိုင်သူသည် နင်းချေ ဖျက်စေသကည်း"ဟု အသိပေး၍ ထားလေ၏။ ခုနစ်ရက်တိုင်တိုင် ယှဉ်ပြိုင်သူ မရှိသောအခါ သပြေခက်ကို ယူဆောင်ကာ ဖဲသွားလေ၏။

ကုဏ္ဍလကေသာသည် အစဉ်အတိုင်း ရွာ နိဂုံး မင်းနေပြည်သို့ လှည့်လည် လေရာ သာဝတ္ထိပြည်သို့ ရောက်၍ မြို့သို့ ဝင်လတ်သော် သဲပုံ၌ သပြေခက်ကို စိုက်၍ အနီးရှိ သူငယ်တို့အား အသိပေးကာ မြို့တွင်းသို့ ဝင်လေ၏။ တရား စစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာသည် တပါးတည်း မြို့တွင်းသို့ ဆွမ်းခံပင် လေသော် သဲပုံ၌ စိုက်ထားသည့် သပြေခက်ကို မြင်တော်မူ၍ အနီးရှိ ကလေး များကို မေးလေ၏။ ကလေးတို့သည် ကုဏ္ဍလကေသာ ပြောဆိုသမျှသော အကြောင်းအရာကို လျှောက်ထားကုန်၏၊ ထိုအခါ အရှင်သာရိပုတ္တရာက ကလေးတို့ကို သပြေခက်ကို ဆွဲယူကာ နင်းချေဖျက်ဆီးခိုင်းလေ၏။

ကုဏ္ဍလကေသာသည် မြို့တွင်းမှ ပြန်ထွက်လာသောအခါ နင်းချေဖျက်ဆီး ထားသော သပြေခက်ကို တွေ့မြင်ရ၍ အဘယ်သူ၏ အပြုအမူနည်းဟု အနီးရှိ ကလေးတို့ကို မေးလေ၏။ ကလေးတို့က တရားစစ်သူကြီး အရှင်သာရိပုတ္တရာ နင်းချေဖျက်ဆီးခိုင်း၍ နင်းချေကြောင်း ပြောလေ၏။ ထိုအခါ ကုဏ္ဍလကေသာ သည် "မိမိ၏ စွမ်းအင်ကို မသိမြင်သောသူသည် ဤသပြေခက်ကို နင်းချေ၏

ခြင်းငှာ စွမ်းနိုင်လိမ့်မည် မဟုတ်၊ အမှန်ပင် ဤမထေရ်သည် ကြီးမြတ်သူ ဖြစ်လိမ့်မည်။ ငါသည် တစ်ယောက်တည်း အဖော်နည်းပါးသူ ဖြစ်လျှင် တင့်တယ်လိမ့်မည် မဟုတ်ချေ။ မြို့တွင်းသို့ ဝင်ရောက်ကာ ပရိသတ်အား တရားစစ်သူကြီး အရှင်သာရိပုတ္တရာနှင့် ဝါဒပြိုင်ကြမည် ဖြစ်ကြောင်း အသိပေးမှ သင့်တော်တော့မည်"ဟု ကြံစည်ကာ နီးစပ်ရာ အချင်းချင်း ပြောကြားသဖြင့် သာဝတ္ထိပြည်သူပြည်သား အားလုံးတို့ပင် သိရှိကြလေကုန်၏။

အရှင်သာရိပုတ္တရာမထေရ်မြတ်ထံ ကုဏ္ဍလကေသာသည် လူအပေါင်းခြံရံလျက် သွားရောက်ပြီး-

ကုဏ္ဍလကေသာ- အရှင်ဘုရားတို့သည် တပည့်တော်မ၏ သပြေခက်ကို နင်းချေစေအပ်သလော။

အရှင်သာရိပုတ္တရာ- အိမ်... ငါ နင်းချေစေအပ်သည်။

ကုဏ္ဍလကေသာ- ထိုသို့ဖြစ်လျှင် အရှင်ဘုရားတို့နှင့် တပည့်တော်မ တို့၏ ဝါဒပြိုင်ဆိုင်မှု ဖြစ်စေတော့မလား။

အရှင်သာရိပုတ္တရာ- ဖြစ်ပါစေ တက္ကတွန်းမလေး။

ကုဏ္ဍလကေသာသည် မထေရ်မြတ်၏ ခွင့်ပြုချက်အရ မိမိသိသမျှ ဝါဒ အားလုံးကို မေးလေ၏။ မထေရ်မြတ်သည် အားလုံးကို ဖြေတော်မူလေ၏။

အရှင်သာရိပုတ္တရာ- တက္ကတွန်းမလေး သင်သည် ငါ့ကို များစွာသော ပုစ္ဆာကို မေးအပ်ပြီ (ငါလည်း ဖြေအပ်ပြီ) ငါတို့ကလည်း သင့်ကို ပြဿနာတစ်ခုကို မေးကြကုန်အံ့။ ဧကံ နာမ ကိံ၊ တက္ကတွန်းမလေး- ပရိညာသုံးပါးဖြင့် ပိုင်းခြား၍ သိရမည့် တရားတစ်မျိုးဟူသည် အဘယ်တရားနည်း။

ကုဏ္ဍလကေသာ- တပည့်တော်မ မသိပါ အရှင်ဘုရား။

အရှင်သာရိပုတ္တရာ- တက္ကတွန်းမလေး....သင်သည် ငါတို့ သာသနာဝယ် သာမဏေငယ်ကလေးများ လေ့လာရသည့် ဤမျှကို မသိလျှင် အခြား အဘယ်တရားကို သင် သိနိုင်လိမ့် မည်နည်း။

ဤသို့ မထေရ်မြတ်က မိန့်ဆိုလျှင် ပါရမီအရှင် ကုဏ္ဍလကေသာသည် မထေရ်၏ ခြေရင်း၌ ဝပ်စင်း၍ တပည့်တော်မသည် အရှင်ဘုရားတို့ကို ကိုးကွယ်ရာဟူ၍ သိမှတ်ဆည်းကပ်ပါ၏ဟု လျှောက်လေ၏။ မထေရ်မြတ်က နတ်နှင့်တကွသော သတ္တလောကကြီး တစ်ခုလုံး၌ အမြတ်ဆုံး ပုဂ္ဂိုလ် ဖြစ်တော်မူသော မြတ်စွာဘုရားသည် ဇေတဝန်ကျောင်း ဂန္ဓကုဋီတိုက်တော်၌ သီတင်းသုံးလျက် ရှိတော်မူ၏။ သင်သည် ထိုမြတ်စွာဘုရားကို ကိုးကွယ်ရာဟု သိမှတ်ဆည်းကပ်လောဟု မိန့်တော်မူ၏။

ကုဏ္ဍလကေသာသည် ဗုဒ္ဓမြတ်စွာထံတော်သို့ သွားရောက် ဆည်းကပ်၍ တည်ခြင်းငါးပါးဖြင့် ရှိခိုးပြီး နေလေ၏။ ဗုဒ္ဓမြတ်စွာသည် ကုဏ္ဍလကေသာ၏ ဉာဏ်ရင့်ကျက်ချိန်ကို သိမြင်တော်မူ၍-

ဂါထာတစ်ထောင် ဖြစ်လင့်ကစား အကျိုးမရှိသော မိုးဖွဲ့ တောင်ဖွဲ့ ဖြစ်တိမူ မချီးမွမ်းအပ် မမြတ်ချေ။ "အပ္ပမာဒေါ အမတံ ပဒံ" အစရှိသော ဂါထာပိုဒ်ကို ကြားနာရသည်ရှိသော် ကိလေသာအပူ ငြိမ်းလေ၏။ ထိုစာပိုဒ် တစ်ပိုဒ်ကသာလျှင် မြတ်၏ ဟု-

ချီးမွမ်းအပ်၏။

ကုဏ္ဍလကေသာသည် ဟောတော်မူအပ်သော တရားဂါထာ ဆုံးသောအခါ ရပ်တည်ရင်းပင် ပဋိသမ္ဘိဒါဉာဏ် လေးပါးနှင့် တကွ အရဟတ္တဖိုလ်သို့ ရောက်ရှိ၍ ဗုဒ္ဓမြတ်စွာအား ရဟန်းမ ပြုပေးပါရန် လျှောက်ထား တောင်းပန်လေ၏။ ဗုဒ္ဓမြတ်စွာ၏ ခွင့်ပြုချက်အရ ကုဏ္ဍလကေသာသည် ဘိက္ခုနီမကျောင်းတိုက်သို့ သွားရောက်၍ ရဟန်းမ ပြုလေ၏။

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ "ရဟန်းတို့- လျင်မြန်စွာ ရအပ်သည့် မဂ်ဉာဏ်ဖိုလ်ဉာဏ်ရှိကြသည့် ငါဘုရား၏ တပည့်မသာဝိကာ ဘိက္ခုနီမတို့တွင် ဘဒ္ဒါမည်သော ကုဏ္ဍလကေသာသည် အသာဆုံး အမြတ်ဆုံး"ဟု တေဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်တော်မူပါသည်။

ဗုဒ္ဓဘာသာရေးကောင်းတစ်ယောက်

# ဝေါဟာရရှင်းလင်းချက်

[ အ ]

**အကုသိုလ်ကံ**=မျက်မှောက်ဘဝ, တမလွန်ဘဝ၌ အပြစ်ရှိသည့်အပြင် ဆင်းရဲကြောင်း အကျိုးကျေးဇူးများကို ပေးစွမ်းနိုင်သော အကုသိုလ်စေတနာ။

**အကျိုးဝိပါက်**=ကုသိုလ်ကံ, အကုသိုလ်ကံတို့၏ အကျိုးရင်း, အကျိုးဆက်ဖြစ်သော ဝိပါက်ဝိညာဉ်။

**အတ္တဝါဒုပါဒါန်**=အတ္တဝါဒ+ဥပါဒါန်၊ အတ္တရှိ၏ဟု ပြောဆို စွဲလမ်းခြင်း။

**အနန္တတန်ခိုး**= အနန္တ+တန်ခိုး၊ အကန့်အသတ် အပိုင်းအခြားမရှိ များပြားကြီးကျယ်လှသည့် တန်ခိုးတော်။

**အနမတဂ္ဂသံသရာ**=အန+မတဂ္ဂ+သံသရာ၊ အစပိုင်းကို မသိနိုင်သော သံသရာ။

အစပိုင်း မထင်ရှားသော သံသရာ။

**အနာဂါမ်**= အနာဂါမ်ပုဂ္ဂိုလ်၊ ဤလူ့ပြည်သို့ ပဋိသန္ဓေနေရန် တဖန်မလာတော့သည့် အနာဂါမိဖလဥာဏ် အရိယာပုဂ္ဂိုလ်။

**အနုပါဒိသေသနိဗ္ဗာန**=အနုပါဒိသေသ+နိဗ္ဗာန၊ ကိလေသာတို့မှ ကြွင်းကျန်ရစ်သည့် ဝိပါက်ကမ္မဇရုပ်များပင် အကြွင်းအကျန် မရှိသော နိဗ္ဗာန်။

**အနုလုံ**= ရှေးရှေးဖြစ်သော ပရိကံနှင့် နောက်နောက်ဖြစ်သော အဘိညာတို့အား လျော်စွာဖြစ်သော စိတ်။

**အနုဿတိ**= အနု+သတိ၊ အနုဿတိကမ္မဋ္ဌာန်း၊ အဖန်တလဲလဲ အောက်မေ့ဆင်ခြင်ခြင်း။

**အပရာပရိယဝေဒနီယကုသိုလ်ကံ**=အပရာပရိယ+အကုသိုလ်ကံ၊ တတိယဘဝမှ စ၍ နိဗ္ဗာန်ရသည့်ဘဝတိုင်အောင် ဘဝအဆက်ဆက်၌ အကျိုးပေးသော အကုသိုလ်ကံ။

**အပုညာဘိသင်္ခါရ**=အပုည+အဘိသင်္ခါရ၊ အကျိုးဝိပါက်ဖြစ်သော ရုပ် နာ သခံက တရားစုကို ပြုစီမံတတ်သော အကုသိုလ်စေတနာ။

**အပ္ပနာစျာန်**= အပ္ပနာ+စျာန်၊ ရူပ အရူပစျာန်၊ လောကုတ္တရာစျာန်၊ အာရုံသို့ သမ္ပယုတ်တရားတို့ကို ရှေးရှုတင်ပေးတတ်သော စျာန်တရား။

**အပ္ပမာဒတရား**=အပ္ပမာဒ+တရား၊ ကုသိုလ်ကောင်းမှုကိစ္စများ၌ မမေ့ မလျော့ ကြောင်းဖြစ်သော သတိတရား။

**အဘိဇ္ဈာ**= သူတပါးစည်းစိမ်ကို မတရား ရယူလိုမှု။

**အရညကင်ဓုတင်**=အရညကင်+ဓုတင်၊ လူသူ ဝေးရာအရပ်၌ တောရ ဆောက် တည်သော ဓုတင်အကျင့်။

**အရဟတ္တမဂ်**= ရဟန္တာဖြစ်ကြောင်းဖြစ်သော စတုတ္ထမဂ်။

**အရဟတ္တဖိုလ်**= ရဟန္တာဖြစ်ကြောင်းဖြစ်သော ဖိုလ်။

**အရိယသစ္စာ**= အရိယ+သစ္စာ၊ မချွတ်မယွင်း မှန်ကန်သော သစ္စာတရား။ ဘုရား အစရှိသော အရိယာပုဂ္ဂိုလ်တို့၏ အမှန်တရား။

**အရူပဘုံ**= အရူပ+ဘုံ၊ ရုပ်မရှိ၊ နာမ်ဝိညာဉ်တစ်မျိုးတည်းသာ ရှိသော အရူပ ဗြဟ္မာတို့၏ နေထိုင်ရာဖြစ်သော ဘုံ။

**အဝိဇ္ဇာ**= အဝိဇ္ဇာတရား၊ အမှန်တရားသဘောကို ဖုံးလွှမ်းတတ်သော မောဟ တရား။

**အဝိဇ္ဇာသဝ**= အဝိဇ္ဇာ+အာသဝ၊ အဝိဇ္ဇာဟူသော အာသဝေါတရား။

**အဝီတိက္ကမတရား**=အဝီတိက္ကမ+တရား၊ မလွန်ကျူးအပ်သော ဒုစရိုက်တရား။

**အာကာသာနဉ္စာယတနစျာန်**=အဆုံး အပိုင်း အခြား မရှိသော ကောင်းကင် ပညတ်ဟူသော တည်ရာအာရုံရှိသော စျာန်။

**အာကိဉ္စညာယတနစျာန်**=အာကာသာနဉ္စာယတနဝိညာဉ်၏ ကင်းကွာ ချုပ် ပျောက်ခြင်းဟူသော နတ္ထိဘောပညတ်လျှင် တည်ရာအာရုံရှိသော စျာန်။

**အာဂန္တုရဟန်း**=အာဂန္တု+ရဟန်း၊ အရပ်တပါးမှ ကြွရောက်လာသော ဧည့်သည် ရဟန်း။

**အာဒိကလျာဏ**=အာဒိ+ကလျာဏ၊ အစ အပိုင်း အခန်း, ဘ၀အစ ပထမ အရွယ်၏ ကောင်းခြင်း။

**အာနေဉ္ဇာဘိသင်္ခါရ**=အာနေဉ္ဇ+အဘိသင်္ခါရ၊ မတုန်မလှုပ် ငြိမ်သက်သော အရူပ ဝိပါက်ဝိညာဉ်ကို ပြုပြင်စီရင်တတ်သော အရူပ ကုသိုလ် စေတနာ။

**အာယုသင်္ခါရ**=အာယု+သင်္ခါရ၊ အသက်(ဇီဝိတိန္ဒြေ)ကို ပြုပြင်စီရင်တတ်သော ဖလသမာပတ်။

**အာဝါသ**= နေရာဌာနဖြစ်သော အိမ်, ကျောင်း, ပရိဝုဏ် စသည်။

## [ဣ၊ ဥ၊ ဧ၊ ဩ]

**ဣန္ဒြိယသမိတ်သက်န်း**=ဣန္ဒြိယ+သမိတ်သက်န်း၊ တန်ခိုးတော်ကြောင့် ဖြစ်ပေါ်လာသော သမိတ်သက်န်း။

**ဣဿရိယဘုန်းတော်**=ဣဿရိယ+ဘုန်းတော်၊ မိမိ၏ စိတ်တော်ကို အစိုးရ နိုင်နင်းခြင်းဟူသော ဘုန်းတော်။

**ဥစ္ဆေဒဒိဋ္ဌိ**= ဥစ္ဆေဒ+ဒိဋ္ဌိ၊ ဥစ္ဆေဒအယူဝါဒ၊ အတ္တနှင့် လောကသည် သေပြီး နောက် ထပ်၍ မဖြစ် အဆက်ပြတ်၏ဟူသော အယူမှား။

**ဥဒယဗ္ဗယဉာဏ်**=ဥဒယ+ဗယ+ဉာဏ်၊ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ်နှင့် အပျက်ကို ရှုမှတ်သော ဝိပဿနာဉာဏ်။

**ဥဒ္ဒိဿစေတီ**= ဥဒ္ဒိဿ+စေတီ၊ သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို ရည်မှတ်၍ သွန်းထုပြုလုပ်ထားသည့် ရုပ်ပွားဆင်းတုတော်စေတီ။

**ဥပစာ**= အပ္ပနာ၏ အနီး၌ ဖြစ်သောစိတ်။

**ဥပစာရစျာန်စိတ်**=အပ္ပနာစျာန်၏ ရှေ့အဖို့၌ ဖြစ်သော ဉာဏသမ္ပယုတ် ကာမာ ဝစရဇောစိတ်။

**ဥပဇ္ဈာယ်ဆရာ**=ရဟန်းဘောင်သို့ ရောက်အောင် ပို့ဆောင်ပေးသော ဆရာ။

**ဥပဋ္ဌာက**= အလုပ်အကျွေးပြုသူ၊ ပြုစုလုပ်ကျွေးသောသူ။

**ဥပပါရမီ**= မိမိ၏ ကိုယ်အင်္ဂါ အစိတ်အပိုင်းကို မငဲ့ကွက်ဘဲ ဖြည့်ကျင့် ဆည်းပူးအပ်သော မွန်မြတ်သည့် ပါရမီ။

**ဥပါဒ်,ဌီ,ဘင်**= ရုပ်နာမ်တရားတို့၏ စတင်ဖြစ်ပေါ်ဆဲ ခဏသည် ဥပါဒ်၊ တည်ဆဲခဏသည် ဌီ၊ ချုပ်ပျက်သွားဆဲ ခဏသည် ဘင်မည်၏။

**ဥပါယကောသလ္လဉာဏ်**=အကြောင်းဥပါယ် နည်းပရိယာယ်၌ ထူးချွန်ကျွမ်းကျင်သော ပညာ။

**ဧတဒဂ်**= ဧတဒဂ်ဘွဲ့ထူး၊ "အမြတ်ဆုံး, အသာဆုံး, အကောင်းဆုံး" ဟု ဘုရားရှင်ကိုယ်တော်တိုင် အသိအမှတ်ပြုအပ်သော ဘွဲ့ထူး။

**ဩဃလေးပါး**=ဩဃ+လေးပါး၊ မိမိကိန်းရာ သတ္တဝါကို ဝဋ်ဒုက္ခ၌ နစ်မြုပ်အောင် လွှမ်းဖိ သတ်ဖြတ်တတ်သောတရား။ ယင်းတရားကား ကာမောဃ, ဘဝေါဃ, ဒိဋ္ဌောဃ, အဝိဇ္ဇောဃအားဖြင့် လေးပါးတည်း။

[ က ]

**ကမ္မဇရုပ်ကလာပ်**=ကမ္မဇ+ရုပ်ကလာပ်၊ ကမ္မဇ=ကံကြောင့် ဖြစ်သော+ရုပ်ကလာပ်=ရုပ်အပေါင်း၊ ကံကြောင့် ဖြစ်ပေါ်လာသည့် ရုပ်အပေါင်း။

**ကသိုဏ်း**= ကသိဏ (ပါဠိ)၊ ယောဂီပုဂ္ဂိုလ်သည် အလုံးစုံ အကုန်အစင် တပြိုင်နက် ထင်မြင်အောင် ရှုမှတ်ဆင်ခြင်အပ်သော မြေ စသည့် အာရုံ (၁၀)မျိုး။

**ကာမစ္ဆန္ဒ**= ကာမ+ဆန္ဒ၊ ဝတ္ထုအာရုံ ကာမဂုဏ်၌ အလိုရှိခြင်း၊ တပ်မက်ခြင်း။

**ကာမဘုန်းတော်**=မိမိ လိုလားတောင့်တအပ်သည့် အကျိုးစီးပွားများ မိမိ အလိုဆန္ဒအတိုင်း ပြည့်စုံပြီးစီးစေနိုင်သော ဘုန်းတော်။

**ကာမသုဂတိဘုံ**=ကာမ+သု+ဂတိ (ဘုံ)၊ ကာမတဏှာနှင့် တကွဖြစ်သော ကောင်းသော လားရာ ရောက်ရာဘုံ၊ လူ့ပြည်နှင့် နတ်ပြည် ခြောက်ထပ်ကို "ကာမသုဂတိဘုံ"ဟု ခေါ်သည်။

**ကာမာသဝ**= ကာမ+အာသဝ၊ ဝတ္ထုအာရုံ ကာမဂုဏ်၌ တပ်မက်တတ်သော တဏှာတည်းဟူသော အာသဝေါတရား။

**ကာမုပါဒါန်**= ကာမ+ဥပါဒါန်၊ ဝတ္ထုအာရုံ ကာမဂုဏ်၌ စွဲစွဲလမ်းလမ်း တပ်မက်တွယ်တာသော တဏှာတည်းဟူသော ဥပါဒါန်တရား။

**ကာယဂတာသတိ**=ကာယ+ ဂတာ + သတိ၊ ဆံပင် အစရှိသော ၃၂-ကောဋ္ဌာသ ရူပကာယကို အာရုံပြု၍ ဖြစ်သောသတိ။

**ကာယပသာဒ**=ကာယ+ပသာဒ၊ ကာယဟု ဆိုအပ်သော ပသာဒ၊ ကိုယ်အကြည်ဓာတ်။

**ကုသိုလ်ကံ**= မျက်မှောက်ဘဝ, တမလွန်ဘဝ၌ လုံးဝအပြစ်မရှိသည့်အပြင် ချမ်းသာသော အကျိုးကို ပေးစွမ်းနိုင်သော ကုသိုလ်စေတနာ။

[ ဂ၊ ဃ ]

**ဂတိမန္တ**= ဂတိ+မန္တ၊ ဂတိ=ဉာဏ်ပညာ+မန္တ=ရှိခြင်း၊ ဉာဏ်ပညာရှိသောသူ။

**ဂန္ဓကုဋိ**= ဂန္ဓ+ကုဋိ၊ နံ့သာဖြင့် ထုံမွှမ်းအပ်သော ကျောင်း၊ ဘုရားကျောင်းတော်။

**ဂဗ္ဘသေယျကသတ္တဝါ**=ဂဗ္ဘ+သေယျ+က+သတ္တဝါ၊ အမိဝမ်း၌ ကိန်းအောင်းသော သတ္တဝါ။

**ဂရုဓမ်**= ဂရု+ဓမ် (ဓမ္မ)၊ အလေးပြုအပ်သောတရား၊ ရိုသေလေးစားစွာ ဝန်ခံအပ်, လိုက်နာပြုကျင့်အပ်သောတရား။ ဂရုဓမ်တရားကို မြတ်စွာဘုရားသည် ဘိက္ခုနီမတို့အား ဟောကြားတော်မူသည်။ ယင်းတရား (၈)ပါး ရှိသည်။

**ဂေါတြဘူ=** ဂေါတြ+ဘူ၊ ကာမအနွယ်, ပုထုဇဉ်အနွယ်ကို ဖျက်ဆီးတတ်သော စိတ်၊ မဟဂ္ဂုတ်အနွယ်, လောကုတ္တရာအနွယ်ကို ဖြစ်စေတတ်သော စိတ်။

**ဃာနပသာဒ=** ဃာန+ပသာဒ၊ ဃာနဟု ဆိုအပ်သော ပသာဒ၊ နှာခေါင်း အကြည်ဓာတ်။

## [ စ၊ ဧ ]

**စက္ခုငါးပါး=** စက္ခု+ငါးပါး၊ စက္ခု=မျက်စိ+ငါးပါး၊ မျက်စိငါးပါး။ ယင်းတို့ကား-မံသစက္ခု, ဒိဗ္ဗစက္ခု, ပညာစက္ခု, သမန္တစက္ခု, ဗုဒ္ဓစက္ခုတို့ ဖြစ်သည်။

**စက္ခုပသာဒ=** စက္ခု+ပသာဒ၊ စက္ခုဟု ဆိုအပ်သော ပသာဒ၊ မျက်စိ အကြည်ဓာတ်။

**စက္ခုဝိညာဉ်=** စက္ခု+ဝိညာဉ် (ဝိညာဏ)၊ မျက်စိအကြည်ဓာတ်ကို မှီ၍ သိတတ်သောတရား၊ မြင်သိစိတ်။

**စရဏတရား=** စရဏ+တရား၊ နိဗ္ဗာန်ရောက်ကြောင်း အကျင့်တရား။

ယင်းစရဏတရားသည် သီလစောင့်ထိန်းခြင်း၊ ဣန္ဒြေကို စောင့်ရှောက်ခြင်း၊ အစာအာဟာရ၌ အတိုင်းအရှည်ကို သိခြင်း၊ နိုးကြားခြင်း၌ အဖန်ဖန်အားထုတ်ခြင်း၊ သဒ္ဓါ, ဟိရီ, ဩတ္တပ္ပ, ဗာဟုသစ္စ, ဝီရိယ, သတိ, ပညာဟူသော သူတော်ကောင်းတရား (၇)ပါး၊ ပဌမစျာန်, ဒုတိယစျာန်, တတိယစျာန်, စတုတ္ထစျာန်ဟူသော ရူပါဝစရစျာန် (၄)ပါးအားဖြင့် (၁၅)ပါးရှိသည်။

**စွန့်ခြင်းကြီးငါးပါး=** စွန့်ခြင်းကြီး+ငါးပါး၊ လူသာမန်တို့ အလှူနိုင်ခဲစွာသောကြောင့် လွန်ကဲမြင့်မြတ်ကြီးကျယ်သော စွန့်လှူခြင်း။ ယင်းစွန့်ခြင်းကြီးသည် (၁)မင်းစည်းစိမ်ဥစ္စာကို စွန့်လှူခြင်း ဓနပရိစ္စာဂ၊ (၂)သားသမီးကို စွန့်လှူခြင်း ပုတ္တပရိစ္စာဂ၊ (၃)မယားကို စွန့်လှူခြင်း ဘရိယပရိစ္စာဂ၊ (၄) ကိုယ်အင်္ဂါ အစိတ်အပိုင်းကို ပေးလှူခြင်း အင်္ဂပရိစ္စာဂ၊ (၅) ကိုယ့်အသက်ကို ပေးလှူခြင်း ဇီဝိတပရိစ္စာဂ အားဖြင့် ငါးပါးရှိသည်။

**ဇိဝှါပသာဒ=** ဇိဝှါ+ပသာဒ၊ ဇိဝှါဟု ဆိုအပ်သော ပသာဒ၊ လျှာအကြည်ဓာတ်။

[ တ၊ ဒ၊ ဓ၊ န ]

**တက္ကတွန်းအာရာမ်**=တက္ကတွန်း+အာရာမ်၊ တိတ္ထိတို့ နေထိုင်သော ကျောင်း အာရာမ်။

**တဏှာ=** ဆာလောင် မွတ်သိပ်တတ်သော တရား၊ မရောင့်ရဲ မတင်းတိမ်း နိုင်သော တရား၊ တရားကိုယ်မှာ လောဘဖြစ်သည်။

**တေဘုမ္မကသင်္ခါရတရား**=တေဘုမ္မ+က+သင်္ခါရတရား၊ ကာမ, ရူပ, အရူပ ဟူသော ဘုံ (၃)ပါး၌ ဖြစ်သော ခန္ဓာငါးပါး သင်္ခါရတရား။

**ဒိဋ္ဌာသဝ=** ဒိဋ္ဌိ+အာသဝ၊ ဒိဋ္ဌိဟူသော အာသဝေါတရား။

**ဒိဋ္ဌိ=** ဖောက်ပြန် မှားယွင်းသော အယူ၊ တရားကိုယ်မှာ ဒိဋ္ဌိစေတသိက် ဖြစ်သည်။

**ဒိဋ္ဌိဂတဝိပ္ပယုတ်**=ဒိဋ္ဌိဂတ+ဝိပ္ပယုတ်၊ မိစ္ဆာဒိဋ္ဌိနှင့် မယှဉ်သည့် စိတ်။

**ဒိဋ္ဌိဝိစိကိစ္ဆာ=** ဒိဋ္ဌိ+ဝိစိကိစ္ဆာ၊ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာ၊ အယူဖောက်ပြန် မှားယွင်းခြင်း ဒိဋ္ဌိနှင့် ဘုရား စသည်တို့၌ ယုံမှား သံသယဖြစ်ခြင်း ဝိစိကိစ္ဆာ။

**ဒိဋ္ဌုပါဒါန်=** ဒိဋ္ဌိ+ဥပါဒါန်၊ မိစ္ဆာဒိဋ္ဌိဟူသော ဥပါဒါန်တရား။

**ဒိဗ္ဗစက္ခုဉာဏ်တော်**=ဒိဗ္ဗစက္ခု+ဉာဏ်တော်၊ နတ်မျက်စိကဲ့သို့ ဖုံးလွှမ်း ကွယ်ဝှက် နေသော အရာဝတ္ထု, ဝေးသော အရာဝတ္ထုများကို မြင်နိုင်သော ဉာဏ်တော်။

**ဓမ္မစေတီ=** မြတ်ဗုဒ္ဓဟောကြားထားခဲ့သည့် ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ် ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင်ဟူသော ဓမ္မစေတီတော်။

**ဓမ္မဘုန်းတော်**=ဓမ္မ+ဘုန်းတော်၊ လောကုတ္တရာတရားနှင့် ပြည့်စုံတော်မူခြင်း ဟူသော ဘုန်းတော်။

**ဓမ္မာနုဿတိ=** ဓမ္မ+အနုဿတိ၊ တရားဂုဏ်တော်ကို အဖန်ဖန် အထပ်ထပ် အောက်မေ့ခြင်း သတိ။

**ဓာတုစေတီ=** ဓာတု+စေတီ၊ ဘုရားရှင်၏ ဓာတ်တော် မွေတော်၊ ထိုဓာတ်တော် မွေတော်များကို ဌာပနာပြီး တည်ထားသော စေတီတော်။

**မိတ်မန္တ=** မိတ်+မန္တ၊ မိတ်=လိုလားခြင်း(ရိယ)+မန္တ=ရှိခြင်း၊ လိုလားရှိသောသူ။

**ဓုတင်=** ကိလေသာတရားဆိုးများကို ခါထုတ်ပစ်တတ်သော အကျင့်။

**နတ္ထိကဒိဋ္ဌိ=** နတ္ထိက+ဒိဋ္ဌိ၊ ကုသိုလ်ကံ, အကုသိုလ်ကံတို့၏ အကျိုးဝိပါက် မရှိဟု လက်ခံ ယုံကြည်သော မိစ္ဆာအယူ။

**နီဝရဏတရား=** နီဝရဏ+တရား။ ကုသိုလ်တရား ဈာန်မဂ်များကို တားဆီး ပိတ်ပင်တတ်သော တရား။ ယင်းတရားသည် ကာမစ္ဆန္ဒ စသော အားဖြင့် ခြောက်ပါးရှိသည်။

**နေဝသညာနာသညာယတနဈာန်**=နေဝ+သညာ+န+အသညာ+အာယတန ဈာန်၊ ရုန့်ရင်းကြမ်းတမ်းသော သညာကား မရှိ၊ သိမ်မွေ့သော သညာရှိသည့် စတုတ္ထအရူပဈာန်။

**နာမ်ခန္ဓာ=** နာမ်+ခန္ဓာ၊ ခန္ဓာငါးပါးရှိရာတွင် နာမ်တရားဖြစ်သော ဝေဒနာက္ခန္ဓာ သညာက္ခန္ဓာ, သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာတို့ကို နာမ်ခန္ဓာဟု ခေါ်သည်။

**နာမ်ဓမ္မ** နာမ်+ဓမ္မ၊ နာမ်တရား၊ စိတ် ၈၉ ပါး၊ စေတသိက် ၅၂ ပါး၊ နိဗ္ဗာန်ဟူသော နာမ်တရား။

## [ ပ ]

**ပစ္စေကဗုဒ္ဓါ=** ပစ္စေက+ဗုဒ္ဓ၊ အသီးအခြား ကိုယ်ပိုင်သာ သစ္စာ ၄-ပါးကို သိမြင်သောဘုရား၊ သီးခြားဘုရား၊ ဘုရားငယ်။

**ပစ္စေကဗောဓိဉာဏ်**=ပစ္စေကဗောဓိ+ဉာဏ်၊ အသီးအခြား သိတတ်သောဉာဏ်၊ ပစ္စေကဗုဒ္ဓါတို့ ရအပ်သော ဉာဏ်။

**ပစ္ဆိမအရွယ်=** ပစ္ဆိမ+အရွယ်၊ လူ့ဘဝသက်တမ်းကို ၃-ပိုင်း ပိုင်းခြားရာ၌ နောက်ဆုံးပိုင်းဖြစ်သော အရွယ်။

**ပစ္ဆိမဘဝိက=** ပစ္ဆိမ+ဘဝိက၊ နောက်ဆုံးဘဝ၌ ဖြစ်သောသူ၊ ယခုရရှိဆဲ ဘဝမှ စုတေလျှင် ဘဝအသစ်၌ ပဋိသန္ဓေ မနေတော့ဘဲ ပရိနိဗ္ဗာန် ဝင်စံမည့်သူ။

**ပညတ်=** အပြားအားဖြင့် သိမှတ်စေအပ်သော နွားဒြပ်အစရှိသည့် အတ္ထပညတ်၊ အပြားအားဖြင့် သိမှတ်စေတတ်သော နွားအစရှိသည့် နာမပညတ်။

**ပညာအန္ဓ=** ပညာ+အန္ဓ၊ ပညာတည်းဟူသော မျက်စိကန်းသူ၊ ပညာမျက်ကန်း။

**ပညိန္ဒြေ=** ပညာ+ဣန္ဒြေ၊ ပညာတည်းဟူသော ဣန္ဒြေတရား။

**ပဋိဃသမ္ပယုတ်စိတ်**=ပဋိဃ+သမ္ပယုတ်စိတ်၊ ဒေါသနှင့်ယှဉ်သောစိတ်။

**ပဋိလောမ=** ပဋိလုံ နောက်စကားရပ်က ပြန်စသောအားဖြင့်, ရှေ့စကားရပ်နှင့် ဆန့်ကျင်ဘက်အားဖြင့် ဟောကြားအပ်သော ဒေသနာစကားစဉ်။

**ပဋိသန္ဓေစိတ်**=ပဋိသန္ဓေ+စိတ်၊ ရှေ့ဘဝ ဘဝဟောင်းနှင့် နောက်ဘဝ ဘဝသစ်ကို ပေါင်းကူးဆက်သွယ်ပေးသော စိတ်။

**ပဋိသန္ဓေဝိညာဉ်=**ပဋိသန္ဓေ+ဝိညာဉ်၊ **ဘဝအဟောင်းနှင့် ဘဝသစ်ကို ပေါင်းကူး** ဆက်သွယ်ပေးသော **ဝိပါက်ဝိညာဉ်။**

**ပဋိသမ္ဘိဒါလေးပါး**=ပဋိသမ္ဘိဒါ+လေးပါး၊ ဉာဏ်တော်လေးပါး၊ **အတ္ထပဋိ** သမ္ဘိဒါဉာဏ်တော်၊ ဓမ္မပဋိသမ္ဘိဒါဉာဏ်တော်၊ **နိရုတ္တိပဋိသမ္ဘိဒါ** ဉာဏ်တော်၊ ပဋိဘာနပဋိသမ္ဘိဒါဉာဏ်တော်။

**ပယတ္တဘုန်းတော်**=လူ နတ် ဗြဟ္မာ သတ္တဝါအများ **လေးစားလောက်သော** လုံ့လဝီရိယနှင့် ပြည့်စုံတော်မူခြင်းဟူသော **ဘုန်းတော်။**

**ပရမတ္ထပါရမီ**= ပရမတ္ထ+ ပါရမီ၊ **မိမိ၏ ကိုယ်အသက်ကို မငဲ့ကွက်ဘဲ ဖြည့်ကျင့်** ဆည်းပူးအပ်သော **အလွန်မွန်မြတ်လှသည့် ပါရမီ။**

**ပရမတ္ထသံဃာတော်**=ပရမတ္ထ+သံဃာတော်၊ မြင့်မြတ်သော အရိယာသံဃာ၊ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်လေးယောက် ဖလဋ္ဌာန်ပုဂ္ဂိုလ်လေးယောက်ဟူသော မြင့်မြတ်သည့် အရိယာသံဃာ။

ပရိကံ= အပ္ပနာဖြစ်ပေါ်လာအောင် ပြုစီမံတတ်သော စိတ်။

**ပရိဘောဂစေတီ**=ပရိဘောဂ+စေတီ၊ မြတ်စွာဘုရား၏ အသုံးအဆောင် ပစ္စည်းများကို ဌာပနာပြီး တည်ထားသောစေတီ၊ မြတ်စွာဘုရား၏ အသုံးအဆောင် ပစ္စည်းဖြစ်သော မဟာဗောဓိပင် အစရှိသည့် စေတီ။

**ပရိယောသာနကလျာဏ**=ပရိယောသာန+ကလျာဏ၊ အဆုံးအပိုင်းအခန်း, အဆုံးပိုင်းဘဝ၏ ကောင်းခြင်း။

**ပဝတ္တိအခါ=** ပဝတ္တိ+အခါ၊ ဘဝတစ်သက်တာ၌ အစပိုင်း ပဋိသန္ဓေအခါ, အဆုံးပိုင်း စုတိအခါကို ချန်လှပ်၍ အစပိုင်း, အဆုံးပိုင်းတို့၏ အလယ်ဖြစ်သောအခါ။

**ပဝါရဏ=** ပဝါရဏာပြုခြင်း၊ "မိမိအပေါ် မှာ မြင်အပ်, ကြားအပ်, ယုံမှားအပ်သော အပြစ်တစုံတရာရှိပါက ပြောကြားကြပါ၊ ကုစားပါမည်" ဟု ဖိတ်ကြားခြင်း။

**ပိဏ္ဍပါတ်ဓုတင်=ပိဏ္ဍပါတ်+ဓုတင်၊** သလုံး မြင်းခေါင်း ခြေနှစ်ချောင်းဖြင့် လှည့်လည်ဆွမ်းခံ၍ ရသော ဆွမ်းကိုသာ ဘုဉ်းပေးသုံးဆောင်ခြင်းဟူသော ဓုတင်အကျင့်။

**ပုညာဘိသင်္ခါရ**=ပုည+အဘိသင်္ခါရ၊ အကျိုးဝိပါက်ဖြစ်သော ရုပ်နာမ် သင်္ခတတရားစုကို ပြုစီမံတတ်သော ကာမကုသိုလ်, ရူပကုသိုလ်စေတနာ။

**ပုထုဇ္ဇကတိုက်ခြင်း=**လောကီအောက်လမ်း အင်းအတတ်ဖြင့် ပုထုဇ္ဇကဘီလူးကို နှောင့်ယှက် နှိပ်စက် ဖျက်ဆီးခိုင်းခြင်း။

**ပုဗ္ဗေကတဟေတုဒိဋ္ဌိ**=ပုဗ္ဗေကတ+ဟေတု+ဒိဋ္ဌိ၊ ပစ္စုပ္ပန်ဘဝ ဉာဏ်ဝီရိယ မပါ၊ ရှေးအကြောင်း ကံကြောင့်သာ ချမ်းသာခြင်း, ဆင်းရဲခြင်း ဖြစ်ရသည်ဟု ကံတစ်မျိုးတည်းကိုသာ စွဲယူထားသော အယူမှား။

**ပုဗ္ဗေနိဝါသာနုဿတိဉာဏ်တော်**=ပုဗ္ဗေနိဝါသ+အနုဿတိဉာဏ်တော်၊ ရှေးဘဝပေါင်းများစွာ၌ နေအပ်ခဲ့ဖူးသည့် ဘဝဖြစ်စဉ်ကို ပြန်လည်အောက်မေ့ သိမြင်တော်မူသော ဉာဏ်တော်။

**ပေါက္ခရဝဿ=** ပေါက္ခရ+ဝဿ၊ ပေါက္ခရ=ကြာ+ဝဿ=မိုး၊ ပေါက္ခရဝဿမိုး၊ ကြာဖက်မိုး၊ မြတ်စွာဘုရား တန်ခိုးတော်အရ ကြာမွှက်ခန့်ပမာဏရှိသော တိမ်တိုက်မှ အမွန်အစပြုပြီး ရွာသွန်းချလိုက်သော မိုးရေစိုစွတ်လိုသူအပေါ်သာ မိုးပေါက်ကျ၍ မစိုစွတ်လိုသူအပေါ် မိုးရေတပေါက်မျှ မကျရောက်သည့် မိုးကြီး။

## [ ဖ၊ ဗ၊ ဘ၊ မ ]

**ဖလသမာပတ်**= ဖလ+သမာပတ်၊ ဖလ=ဖိုလ်+သမာပတ်=ကောင်းစွာရောက်ခြင်း၊ ဖိုလ်သို့ ကောင်းစွာရောက်နေခြင်း၊ ဖိုလ်ဝင်စားခြင်း။

**ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း**=ဗုဒ္ဓ+အနုဿတိ+ကမ္မဋ္ဌာန်း၊ ဘုရားဂုဏ်တော်ကို အဖန်ဖန် အထပ်ထပ် ရှုမှတ်ပွားများနေသည့် ကမ္မဋ္ဌာန်း။

**ဗောဓိပက္ခိယတရား**=ဗောဓိ+ပက္ခိယတရား၊ ဗောဓိ=ဗောဓိဉာဏ်+ပက္ခိယတရား=အသင်းအပင်း ဖြစ်သောတရား၊ ဗောဓိဉာဏ် (မဂ်ဉာဏ်)၏ ဘက်တော်သား အသင်းဝင်တရား၊ ဗောဓိဉာဏ်အား ကျေးဇူးပြုတတ်သော တရား။

**ဗျာပါဒ**= စီးပွားချမ်းသာကို ဖျက်ဆီးတတ်သော ဒေါသတရား၊ သူတပါး အကျိုးမဲ့ကို တွေးတောကြံစည်နေခြင်းဟူသော ဒေါသတရား။

**ဗြဟ္မပုရောဟိတာ**=ဗြဟ္မ+ပုရောဟိတာ၊ ပုရောဟိတ်ဗြဟ္မာ၊ ဗြဟ္မာတို့၏ ပုရောဟိတ်အရာ၌ တည်သောဗြဟ္မာ။

**ဘဝါသဝ**= ဘဝ+အာသဝ၊ ဘဝ=ရူပဘဝ, အရူပဘဝ+အာသဝ=အာသဝေါတရား၊ ရူပဗြဟ္မာ, အရူပဗြဟ္မာဟူသော ဥပပတ္တိဘဝ, ရူပစျာန် အရူပစျာန်ဟူသော ကမ္မဘဝ၌ တပ်မက် တွယ်တာသော တဏှာတည်းဟူသော အာသဝေါတရား။

**မဇ္ဈိမအရွယ်**= မဇ္ဈိမ+အရွယ်၊ မဇ္ဈိမ=အလယ်ပိုင်းဖြစ်သော+အရွယ်=လူ့ဘဝ သက်တမ်းကို ၃ ပိုင်း ပိုင်းခြားရာ၌ အလယ်ပိုင်းဖြစ်သော အရွယ်။

**မဇ္ဈေကလျာဏ**=မဇ္ဈေ+ကလျာဏ၊ အလယ်ပိုင်းအခန်း၊ အလယ်ပိုင်းဘာဂ၏ ကောင်းခြင်း။

**မနောဒွါရ**= မနော+ဒွါရ၊ မနော=ဘဝင်စိတ်+ဒွါရ=ဝီထိစိတ် ဖြစ်ကြောင်း၊ ဝီထိစိတ်တို့၏ ဖြစ်ပေါ်လာရခြင်း၏ အကြောင်းဖြစ်သော ဘဝင်စိတ် ၁၉ ပါးသည် "မနောဒွါရ" မည်သည်။

**မာန**= ငါတကားဟု ထောင်လွှားတက်ကြွတတ်သော သဘောတရား မာန၊ မာန်။

**မာန်သုံးပါး**= မာန်+သုံးပါး၊ မာန်=ထောင်လွှား တက်ကြွ မောက်မာခြင်း+ သုံးပါး၊ သေယျမာန်, သဒိသမာန်, ဟီနမာန်ဟူသော မာန်သုံးပါး။

**မာရ်ငါးပါး=** မာရ်+ငါးပါး၊ မာရ် (မာရ)=သတ်ဖြတ် တားဆီးခြင်း+ငါးပါး= ကုသိုလ်တရား မဖြစ်ပွားရအောင် သတ်ဖြတ် တားဆီး ပိတ်ပင်တတ်သော မာရ်ငါးမျိုး၊ ဒေဝပုတ္တမာရ်, ကိလေသမာရ်, အဘိသင်္ခါရမာရ် ခန္ဓမာရ် မစ္စုမာရ် ငါးပါး။

**မိစ္ဆာဇီဝ=** မိစ္ဆာ+အာဇီဝ၊ မိစ္ဆာ=မှားယွင်းယုတ်မာသော လုပ်ငန်းဖြင့်+ အာဇီဝ=အသက်မွေးဝမ်းကျောင်းပြုခြင်း၊ မှားယွင်းယုတ်မာသော နှုတ်ရှိက်မှုလုပ်ငန်းဖြင့် အသက်မွေးမြူခြင်း။

**မိစ္ဆာဒိဋ္ဌိ=** မိစ္ဆာ+ဒိဋ္ဌိ၊ မိစ္ဆာ=ချွတ်ယွင်း ဖောက်ပြန် မမှန်ကန်သော+ဒိဋ္ဌိ= အသိအမြင်၊ ချွတ်ယွင်း ဖောက်ပြန် မမှန်ကန်သော အယူဝါဒ။

## [ ယ၊ ရ၊ လ၊ ဝ ]

**ယမိုက်ပြာဋိဟာ**=ယမိုက်+ပြာဋိဟာ၊ ယမိုက်=အစုံအစုံ+ပြာဋိဟာ=တန်ခိုး၊ ရေအစုံ, မီးအစုံဟု ဆိုအပ်သော အစုံလိုက် အစုံလိုက် ဖြစ်ပေါ်လာသည့် တန်ခိုးတော်။

**ယသဘုန်းတော်**=ယသ+ဘုန်းတော်၊ အခြံအရံ အကျော်အစောနှင့် ပြည့်စုံတော်မူခြင်း ဟူသော ဘုန်းတော်။

**ရာဂစိတ်=** ဘဝမက်တွယ်တာတတ်သော တဏှာရာဂနှင့် စပ်ယှဉ်သော စိတ်။

**ရူပဘုံ=** ရူပဗြဟ္မာတို့ နေထိုင်ရာဖြစ်သောဘုံ။

**ရုပ်ဓမ္မ=** ရုပ်၊ ဓမ္မ၊ ရုပ်တရား၊ အချမ်းအပူ အစရှိသည့် ဆန့်ကျင်ဘက် အကြောင်းများကြောင့် ဖောက်ပြန်ပြောင်းလဲကတတ်သောတရား။

**ရုပ်နာမ်ဓမ္မသင်္ခါရလောက**=ရုပ်နာမ် ဓမ္မ+သင်္ခါရလောက၊ ရုပ်နာမ်တရား ဟူသော သင်္ခါရလောက။

**လက္ခဏာရေးသုံးပါး**=အနိစ္စ, ဒုက္ခ, အနတ္တဟူသော ရှုမှတ်ပုံ လက္ခဏာသုံးပါး။

**လောကီဝိပါက်စိတ်**=လောကီ+ဝိပါက်စိတ်၊ လောကီကုသိုလ် အကုသိုလ်၏ အကျိုးဖြစ်သော ဝိပါက်စိတ် ၃၂ ပါး။

**ဝိစာရ=** ဝိစာရစေတသိက်၊ အာရုံကို သုံးသပ်တတ်သော ဝိစာရစေတသိက်။

**ဝိစိကိစ္ဆာ=** ဝိစိကိစ္ဆာစေတသိက်၊ ဘုရား တရား စသည်များ၌ ယုံမှား သံသယ ဖြစ်ခြင်း သဘောရှိသော ဝိစိကိစ္ဆာ အကုသိုလ် စေတသိက်။

**ဝိဇ္ဇာ**=ထူးကဲစွာသိတတ်သောဉာဏ်။ ယင်းဝိဇ္ဇာဉာဏ်သည် ၃-ပါး၊ ၈-ပါး ရှိသည်၊ ပုဗ္ဗေနိဝါသာနုဿတိဉာဏ်, ဒိဗ္ဗစက္ခုဉာဏ်, အာသဝက္ခယဉာဏ် ၃-မျိုး၊

"ဝိဇ္ဇာ ၃-ပါး"ဟု ခေါ်သည်။ ဝိပဿနာဉာဏ်, မနောမယိဒ္ဓိဉာဏ်, ဣဒ္ဓိဝိဓဉာဏ်, ဒိဗ္ဗသောတဉာဏ်, စေတောပရိယဉာဏ် ပုဗ္ဗေနိဝါသာနုဿတိဉာဏ်, ဒိဗ္ဗစက္ခုဉာဏ်, အာသဝက္ခယဉာဏ် ၈-မျိုးကို "ဝိဇ္ဇာ ၈-ပါး"ဟု ခေါ်သည်။

**ဝိညာဏဋ္ဌာယတနစျာန်**="အနန္တံ ဝိညာဏံ"ဟု ကမ္မဋ္ဌာန်းစီးဖြန်း၍ ရလာသော ဒုတိယအာရုပ္ပစျာန်။

**ဝိပဿနာ**= ဝိ+ပဿနာ၊ ရုပ်နာမ်တရားတို့ကို အနိစ္စ, ဒုက္ခ, အနတ္တအားဖြင့် အဖန်ဖန် အထပ်ထပ် ရှုမှတ်ခြင်း။

**ဝိပဿနာဘာဝနာကံ**=ရုပ်နာမ်တရားတို့ကို အနိစ္စ, ဒုက္ခ, အနတ္တအားဖြင့် အဖန်ဖန် အထပ်ထပ် ရှုမှတ်ပွားများအားထုတ်အပ်သော အမှု။

**ဝိပါက်ဝိညာဉ်**= ဝိပါက်+ဝိညာဉ်၊ လောကီကုသိုလ်, အကုသိုလ် စေတနာသခါရကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားဖြစ်သည့် ပဋိသန္ဓေဝိညာဉ် ပဝတ္တိ ဝိပါက်ဝိညာဉ်။

**ဝိမောက္ခရှစ်ပါး**=ဝိမောက္ခ+ရှစ်ပါး၊ ဝိမောက္ခ=လွတ်မြောက်သော တရား+ ရှစ်ပါး။ ဆန့်ကျင်ဘက် နီဝရဏတရားတို့မှ လွတ်မြောက်စွာသော တရား၊ ယင်းတရားကား 'ရူပီ ရူပါနိ ပဿတိ" အစရှိသော အားဖြင့် ရှစ်မျိုးရှိသည် (အံ၊ ၃။၁၂၆)။

**ဝီတရာဂစိတ်**=ဝီတရာဂ+စိတ်၊ ရာဂကင်းသောစိတ်၊ ရာဂမရှိသော စိတ်။

## [ သ ]

**သကဒါဂါမ်**= သကဒါဂါမိဖလဋ္ဌာန်အရိယာပုဂ္ဂိုလ်=ဤလူ့ပြည်သို့ တစ်ကြိမ်သာ လာရောက်ပြီး ပဋိသန္ဓေနေ၍ လူပြန်ဖြစ်ခြင်း သဘောရှိသော အရိယာပုဂ္ဂိုလ်။

**သခံတတရား**= ကံ၊ စိတ်၊ ဥတု၊ အာဟာရ အကြောင်းတရားတို့က ပြုပြင်စီရင်အပ်သောတရား။

**သတိက္ခန္ဓ**= သတိ+ဣန္ဒြေ၊ သတိဟူသော ဣန္ဒြေတရား။

**သတိမန္တ**= သတိ+မန္တ၊ သတိ=အောက်မေ့ အမှတ်ရကြောင်း သတိတရား+ မန္တ=ရှိခြင်း၊ သတိတရားရှိသောသူ၊ သတိနှင့် ပြည့်စုံသူ။

## [ သ ]

**သတ္တဝါအနန္တ**= သတ္တဝါ+ အနန္တ=အဆုံးအပိုင်းအခြား အရေအတွက် မရှိခြင်း၊ အဆုံးအပိုင်းအခြား မရှိ မရေမတွက်နိုင်အောင် များပြားလှသည့် သတ္တဝါအပေါင်း။

**သဗ္ဗညုတဉာဏ်**= သဗ္ဗ+ညုတဉာဏ်၊ သိစရာမှန်သမျှ မကျန်ရအောင် ဉေယျခံပတရား ငါးပါးကို ပိုင်းခြားသိမြင်သော ဉာဏ်တော်။

**သမထ**= ဆန့်ကျင်ဘက် နီဝရဏတရားတို့ကို ငြိမ်းအေးစေတတ်သော သမာဓိတရား။

**သမထဘာဝနာကံ**=ဒသဖန်ဖန်အထပ်ထပ် ပွားများအားထုတ်အပ်သော သမထ ကမ္မဋ္ဌာန်းအလုပ်။

**သမထဝိပဿနာ**=သမထ+ဝိပဿနာ၊ သမထဘာဝနာနှင့် ဝိပဿနာဘာဝနာ။

**သမထဝိပဿနာယာနိကလမ်း**=သမထယာဉ်, ဝိပဿနာယာဉ် နှစ်မျိုးလုံးနှင့် စပ်ယှဉ်သောလမ်း။

**သမာဓိခန္ဓ**= သမာဓိ+ခန္ဓ၊ သမာဓိဟူသော ခန္ဓတရား။

**သမ္မာသမ္ဗောဓိဉာဏ်**=သမ္မာ + သံ + ဗောဓိဉာဏ်၊ မဖောက်မပြန် ကိုယ်တိုင် သိတတ်သော၊ ကောင်းမွန်စွာ ထိုးထွင်း သိတတ်သော ဉာဏ်တော်။

**သယမ္ဘူဉာဏ်**= သူတပါးညွှန်ပြမှု မရှိဘဲ မိမိအလိုလိုဖြစ်သော ဉာဏ်တော်။

**သရာဂစိတ်**= သရာဂ+စိတ်၊ တဏှာရာဂနှင့် တကွဖြစ်သောစိတ်၊ တဏှာရာဂ မကင်းသေးသောစိတ်။

**သဿတဒိဋ္ဌိ**= သဿတ+ဒိဋ္ဌိ၊ တီတ္ထိသို့ ကြံဆအပ်သော အတ္တသည် မြဲ၏ဟု အယူမှားသော ဒိဋ္ဌိ။

**သာဓုကီဠနသဘင်**=သာဓု + ကီဠန + သဘင်၊ သံဝေဂကဗျာ လင်္ကာများ ရွတ်ဆိုကာ ကောင်းစွာ မြူးထူးပျော်ပါးသော ပွဲသဘင်။

**သာဝကပါရမီဉာဏ်**=အဂ္ဂသာဝက, မဟာသာဝက, ပကတိသာဝကဟူသော အရိယာသာဝကတို့ ဖြည့်ကျင့် ဆည်းပူးအပ်သော ဉာဏ်။

**သာဝကသန္နိပါတ**=သာဝက+သန္နိပါတ၊ မြတ်စွာဘုရား တပည့်သား ရဟန်းတို့၏ အစည်းအဝေးပွဲ။

**သိရိဘုန်းတော်**=သိရိ+ဘုန်းတော်၊ လက္ခဏာတော် ကြီးငယ် အသွယ်သွယ်နှင့် ပြည့်စုံသဖြင့် လှပထင့်တယ်တော်မူခြင်းဟူသော ဘုန်းတော်။

**သီလဗ္ဗတုပါဒါန်**=သီလဗ္ဗတ+ဥပါဒါန်၊ နွား ခွေး စသည်တို့၏ အလေ့အကျင့်ကို ကျင့်ခြင်းဖြင့် ကိလေသာမှ စင်ကြယ်ကာ သံသရာမှ လွတ်မြောက်၏ဟု စွဲစွဲလမ်းလမ်း ယူထားသော မိစ္ဆာဒိဋ္ဌိ။

**သီလမဂ္ဂင်**= သီလ, သမာဓိ, ပညာအားဖြင့် သုံးပါးရှိရာတွင် သီလ၌ ထည့်သွင်းအပ်သော မဂ္ဂင်၊ သမ္မာဝါစာ, သမ္မာကမ္မန္တော, သမ္မာအာဇီဝေါ ဟူသော သီလမဂ္ဂင်သုံးပါး။

**သီလဝန္တပုဂ္ဂိုလ်**=သီလ+ဝန္တ+ပုဂ္ဂိုလ်၊ သီလ= သီလ + ဝန္တ = ရှိခြင်း၊ သီလ ရှိသော၊ သီလနှင့်ပြည့်စုံသော ပုဂ္ဂိုလ်။

**သုခကေဂ္ဂတာ**=သုခ+ဧကဂ္ဂတာ၊ သုခဝေဒနာနှင့် ဧကဂ္ဂတာဟူသော စျာန်အင်္ဂါ။

**သုဒ္ဓဝိပဿနာယာနိကလမ်း**=သုဒ္ဓ+ဝိပဿနာယာနိကလမ်း၊ သမထနှင့် မရော မယှက် သီးခြား သက်သက်ဖြစ်သော ဝိပဿနာယာဉ်နှင့်သာ စပ်ယှဉ်သော လမ်း။

**သေက္ခအရိယာပုဂ္ဂိုလ်**=သေက္ခ+အရိယာပုဂ္ဂိုလ်၊ ကျင့်ဆဲဖြစ်သော အရိယာ ပုဂ္ဂိုလ်။

**သောတပသာဒ**=သောတ+ပသာဒ၊ သောတဟု ဆိုအပ်သော ပသာဒ၊ နားအကြည်ဓာတ်။

**သောတဝိညာဉ်**=နားအကြည်ဓာတ်ကို မှီ၍ သိတတ်သောတရား၊ ကြားသိစိတ်။

**သောတာပတ္တိဖိုလ်**=သောတာပတ္တိမဂ်၏ အကျိုးဖြစ်သော ဖိုလ်စိတ်။

**သောတာပန်**= သောတာပန်ပုဂ္ဂိုလ်၊ သောတပတ္တိမဂ်ကို ရသောပုဂ္ဂိုလ်။

**သံဃာ့အာရာမ်**=သံဃာ့+အာရာမ်၊ သံဃာတော်များ သီတင်းသုံး နေထိုင်ရာ ဖြစ်သော ကျောင်းအာရာမ်။

**သံဝရငါးပါး**= သံဝရ+ငါးပါး၊ မိမိသန္တာန်မှာ ကာယဒုစရိုက်စသား အကုသိုလ် တရားဆိုးများ မဖြစ်ပွားရအောင် ပိတ်ဆို့ တားမြစ်တက်သော တရား။ယင်းတရားသည်-ပါတိမောက္ခသံဝရ, သတိသံဝရ, ဉာဏ သံဝရ, ခန္တီသံဝရ, ဝီရိယသံဝရအားဖြင့် ငါးပါးရှိသည်။

## ဗုဒ္ဓဘာသာကောင်းတစ်ယောက်

# မှတ်သားဖွယ် အက္ခရာစဉ်

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

[ မ ]

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

ပ.မ.သ.၈-၄၁/၁၄.၁၀.၂၀၀၅ (၂၀၀၀အုပ်) လာဒ်ဦး